

နေစိုးစိုးစာအုပ်တိုက်

# စက္ကင်းလေဒီ

## တက္ကသိုလ်နေဝင်း

# THE SECOND LADY

by

## IRVING WALLACE

WHISPER OF WORDS

တတိယအကြိမ်

# မြန်မာပြန်သူ၏အမှာ

ဤစာအုပ်သည် မူရင်းစာရေးဆရာက စိတ်ကူးယဉ်ပြီး ဇာတ်လမ်းတီထွင် ဖန်တီးထားသော ဝတ္ထုတပုဒ်ဖြစ်ကြောင်း သတိပြုကြရန် လိုအပ်ပါသည်။ အဘယ့်ကြောင့်ဆိုသော် စာဖတ်သူအနေဖြင့် ဖတ်ရင်း ဖတ်ရင်း တကယ်ဖြစ်တာများလားဟု ထင်ရလောက်အောင် ယုတ္တိယုတ္တာနှင့် သဘာဝ ကျလှသောကြောင့် ဖြစ်သည်။

ဤသည်ပင်လျှင် မူရင်းစာရေးဆရာကြီး 'အားဗင်းဝါးလေ့စ်' (Irving Wallace) ၏ အနုပညာ အစွမ်းထက်မြက်မှုပင် ဖြစ်ပါတော့သည်။ သူ၏ဝတ္ထုများသည် အုပ်တိုင်းလိုလို ကမ္ဘာပေါ်တွင် အရောင်းရတွင်ကျယ်ဆုံး 'ဘက်စ်ဆယ်လာ' စာရင်းဝင်စာအုပ်များ ဖြစ်ခဲ့ပါသည်။ စဖတ်မိလျှင် စာအုပ်ကို လက်ကမချချင်လောက်အောင် စာဖတ်သူ၏စိတ်ကို တောက်လျှောက် ဆွဲငင် သယ်ဆောင် သွားနိုင်ခြင်းသည်လည်း စာရေးဆရာကြီး အားဗင်းဝါးလေ့စ်၏ ထူးခြားသည့် အရည်အချင်းတရပ်ပင် ဖြစ်ပေသည်။

ဤစာအုပ်သည် စိတ်ကူးယဉ်သက်သက် ဝတ္ထုဖြစ်ကြောင်း အထက်တွင် ဖော်ပြပြီးဖြစ်ပါသည်။ သို့သော် စိတ်ကူးယဉ် တီထွင်ချက်က အလွန်ဇာတ်လမ်းကောင်းသော လျှို့ဝှက်သည်းဖို ရုပ်ရှင် ဇာတ်ကားတကား ကြည့်ရဘိသကဲ့သို့ ရှေ့တွင် ဘာဖြစ်မည်နည်းဟု စာဖတ်သူ၏စိတ်ကို ဆွဲဆောင် ဖမ်းစားနိုင်သည့် ဇာတ်လမ်းမျိုးဖြစ်ပါသည်။

နောက်တချက်က ယနေ့ ကမ္ဘာ့ထိပ်သီး အင်အားကြီးနိုင်ငံများ၏ သူလျှိုထောက်လှမ်းရေး လုပ်ငန်းတွင် တဘက်နှင့်တဘက် ထောက်ထားစာနာခြင်း၊ ငဲ့ညှာခြင်း မရှိဘဲ မိမိတို့ ရည်မှန်းချက် အောင်မြင်ရေးအတွက် ဘာမဆို လုပ်ဝံ့ ကိုင်ဝံ့ကြသော နိုင်ငံတကာ သူလျှိုထောက်လှမ်းရေး လုပ်ငန်း၏အတွင်းရေးများကို ဝတ္ထုဇာတ်လမ်း ဖန်တီးထားပုံမှာ ကျွန်တော်တို့အမြင်တွင် တရားသံဝေဂ ရဖွယ်လည်း ဖြစ်နေသောကြောင့် မြန်မာစာဖတ် ပရိသတ်အတွက် ဘာသာပြန်ဆို ရေးသားလိုက်ရခြင်းပင်ဖြစ်သည်။

တက္ကသိုလ်နေဝင်း

## အခန်း (၁)

သူမသည် အမေရိကန် သမ္မတကတော်အဖြစ် သတင်းစာ ကွန်ဖရင့်တရပ် ကျင်းပနေပေသည်။

မျက်နှာချင်းဆိုင် ခုံများတွင် သတင်းစာ အသီးသီးနှင့် ကြေနန်း သတင်းဌာနများမှ သတင်းထောက် အမျိုးသား နှစ်ဆယ်၊ အမျိုးသမီး နှစ်ဦးတို့သည် မှတ်စုစာအုပ်ကိုယ်စီနှင့် ထိုင်နေကြသည်။

သူမကို ဝဲယာညှပ်ပြီး ထိုင်နေကြသူနှစ်ဦးကတော့ သမ္မတကတော်၏ သတင်းပြန်ကြားရေး အတွင်းရေးမှူး နိုရာ အမည်ရှိ အမျိုးသမီးနှင့် နေ့စဉ် အစီအစဉ်များ ကြီးကြပ်ခန့်ခွဲရသူ အမျိုးသမီး အတွင်းရေးမှူး အော်ရမ်တို့ပင် ဖြစ်လေသည်။

သတင်းစာဆရာတို့က အမေရိကန် သမ္မတကတော်အား မေးခွန်းတွေ အမျိုးမျိုး မေးကြသည်။ သူမကလည်း မဆိုင်းမတွ ကောင်းစွာပြန်ဖြေနိုင်လေသည်။

"မော်စကိုမြို့မှာ ကျင်းပမယ့် အပြည်ပြည်ဆိုင်ရာ အမျိုးသမီးများ ညီလာခံကို တက်ရောက်မယ် ဆိုတာ ဟုတ်ပါသလား"

သတင်းထောက်တဦးက ထပ်မေးရာ သူမက

"ဟုတ်ကဲ့ ကျွန်မက အဲဒီအမျိုးသမီး ညီလာခံကို တက်ဖို့ အစီအစဉ်ရှိပါတယ်"

ဟု ပြန်ဖြေလိုက်သည်။

"အမျိုးသမီးတွေ တန်းတူအခွင့်ရရှိရေးနဲ့ ပတ်သက်လို့ကော မော်စကိုညီလာခံကျရင် ဆွေးနွေးဖို့ ရည်ရွယ်ပါသလား"

"ကျွန်မ အဲဒီအကြောင်းကို အကျယ်တဝင့် တင်ပြဆွေးနွေးဖို့ ရည်ရွယ်ပါတယ်"

ဤသို့လျှင် မေးခွန်းတွေ တခုပြီးတခု ထမေးသည်ကို သူမက သွက်လက်စွာပင် ပြန်ဖြေနိုင်ခဲ့လေ သည်။

သတင်းစာ ကွန်ဖရင့် ပြီးသွား၍ သတင်းထောက်များ ပြန်သွားကြသောအခါ သူမသည် ဝန်ကြီးများ အစည်းအဝေးလုပ်သည့် ကက်ဘိနက်အခန်းတွင်းသို့

ဝင်သွားလေသည်။

ထိုအခန်းတွင် ရုပ်မြင်သံကြားစက် တခုရှိပြီး ယင်းစက်ရှေ့တွင် လူအချို့သည်ထိုင်၍ စောစောက သတင်းစာကွန်ဖရင့် လုပ်ပုံကို ဤအခန်းမှ ထိုင်ကြည့်နေကြသည်။

ထိုလူအုပ်စုထဲတွင် တုတ်တုတ်ခိုင်ခိုင် လူကြီးတယောက်လည်း ပါဝင်လေသည်။ သူကား ရုရှား ထောက်လှမ်းရေး (ကေ-ဂျီ-ဘီ) အဖွဲ့ အကြီးအကဲ ဗိုလ်ချုပ်ကြီး ပီထရော့ဖ်ပင် ဖြစ်သတည်း။

သူသည် ပြုံးရွှင်စွာဖြင့် လက်ခုပ်တီးပြီး သြဘာပေးလိုက်သည်။

"ကောင်းလိုက်တာကွာ၊ ဘာမှ ပြောစရာမရှိအောင် အလွန် ပိရိသေသပ်တာပဲ၊ သဘာဝလည်း ကျတယ်၊ ဒါကြောင့် မင်းကို အထူးပဲ ချီးကျူးပါတယ်"

ဗိုလ်ချုပ်ကြီး ပီထရော့ဖ်က ဤသို့ ချီးကျူးပြောဆိုလိုက်ချိန်တွင် သူ၏နောက်တွင် ရှိနေကြသော ဗိုလ်မှူးကြီး ဇူဘာ၊ အမျိုးသမီး၏ချစ်သူ ရာဇင်နှင့် တခြားအမည်မသိသူ နှစ်ယောက်တို့ကပါ လက်ခုပ်တီး၍ ချီးကျူးသြဘာ ပေးကြလေသည်။

ဤသို့ ဝိုင်းဝန်းချီးကျူး သြဘာပေးကြရသည့် အကြောင်းကား အောက်ပါအတိုင်း ဖြစ်ပေသည်။

စောစောက သတင်းစာကွန်ဖရင့်ကျင်းပပြီး သတင်းထောက်များ၏ မေးခွန်းများကို ဖြေကြားခဲ့သူမှာ အမေရိကန်သမ္မတကတော် အစစ်မဟုတ် သမ္မတကတော်နှင့် ရုပ်ချင်းခွဲမရအောင် ချွတ်စွပ်တူသော ရုရှ အမျိုးသမီးတဦး ဖြစ်လေသည်။ သူမ၏နာမည်က ဗီရာဗာဗီလိုဗာဖြစ်ပြီး အားလုံးက အတိုကောက် ဗီရာဟု ခေါ်ကြသည်။

ဗီရာသည် ရုရှလျှို့ဝှက်ထောက်လှမ်းရေး (ကေ-ဂျီ-ဘီ) အဖွဲ့၏အထူးစီမံချက်တရပ်အဖြစ် အမေရိကန် သမ္မတကတော် ဘီလီအမည်ရှိ အမျိုးသမီး ဟန်ဆောင်ပြီး သူလျှိုလုပ်ငန်းများလုပ်ရန် ကြိုတင်ပြင်ဆင် လေ့ကျင့်ပေးခြင်းပင် ဖြစ်လေသည်။

ယင်းသို့ ကြိုတင်ပြင်ဆင်ခဲ့သည်မှာ အတော်ကြာသွားပြီ ဖြစ်လေရာ အဆင်သင့်ဖြစ်လောက်ပြီဟု ယူဆရသဖြင့် နောက်ဆုံးအကြိမ် လေ့ကျင့်ခန်းလုပ်သည့်သဘော ဝတ်စုံပြည့်လေ့ကျင့်မှုကို တကယ့် အမေရိကန် သမ္မတအိမ်တော်၌ သတင်းစာ ကွန်ဖရင့်တရပ် ကျင်းပနေဟန် အစမ်းလေ့ကျင့်

ကြည့်နေကြခြင်းပင် ဖြစ်သည်။

ထောက်လှမ်းရေး (ကေ-ဂျီ-ဘီ) အကြီးအကဲ ဗိုလ်ချုပ်ကြီး ပီတရော့ဗ်တို့က ဤကက်ဘိနက် အစည်းအဝေးခန်းမှနေ၍ ရုပ်မြင်သံကြားစက်ဖြင့် ဗီရာ၏ သရုပ်ဆောင်မှုကို အကဲခတ်ကြည့်ရင်း သဘောကျလွန်း၍ ယခုလို ချီးကျူးလိုက်ကြခြင်း ဖြစ်သည်။

ပီထရော့ဗ်၏ ဘေးနားတွင်ရှိနေသူ ထောက်လှမ်းရေးအရာရှိ ရာဇင်ဆိုသူကတော့ အမျိုးသမီး ဗီရာ၏ ချစ်သူ ဖြစ်လေသည်။ ဗီရာသည် ရုရှပြည်မှ ပြဇာတ်သရုပ်ဆောင် ပြဇာတ်မင်းသမီးတဦး ဖြစ်လေသည်။

"ဒါဖြင့် ဗီရာ မင်းက အဆင်သင့်ဖြစ်ပြီ ဆိုပါတော့"

ဗိုလ်ချုက်ကြီး ပီထရော့ဗ်က ပြုံး၍ မေးလိုက်ရာ အမေရိကန် သမ္မတကတော်အသွင် ဝတ်စား ဆင်ယင်ထားသူ ဗီရာက ပြုံးလိုက်၏။

"ဟုတ်ကဲ့ရှင့်၊ ကျွန်မကတော့ အဆင်သင့်ဖြစ်ပါပြီ"

"အေး ကောင်းပြီ၊ ဒါဖြင့် ငါက ဝန်ကြီးချုပ်ဆီသွားပြီး သတင်းပို့လိုက်တော့မယ်"

ပြောပြောဆိုဆို ပီထရော့ဗ်သည် ကျေနပ်အားရဟန်ဖြင့် ထွက်သွားလေသည်။

သူတို့ ယခု ဝတ်စုံပြည့် လေ့ကျင့်ကြသည့်နေရာကား မော်စကိုမြို့ရှိ အာဏာပိုင်များ၏ ဌာနချုပ် ကရင်မလင် နန်းတော်ကြီး၏ တနေရာ လျှို့ဝှက်အဆောင်တခုပင် ဖြစ်ပါသတည်း။

*

# အခန်း (၂)

ဝါရှင်တန်မြို့တော်၏ ရာသီဥတုက အလွန် ပူအိုက်လျက်ရှိနေသည်။

ပါကာဆိုသူသည် မော်တော်ကား မောင်းသွားရင်း သူ၏ ရှပ်အင်္ကျီတွင် ချွေးများ စိုရွှဲနေလျက် ရှိသဖြင့် အတော်ပင် စိတ်ပျက်နေမိသည်။ သူသည် လူတယောက်နှင့် တွေ့ဆုံရန် ချိန်းထားသဖြင့် မယ်ဒီဆင်ကဖီး စာသောက်ဆိုင်သို့ ကားမောင်းသွားနေခြင်း ဖြစ်သည်။

ပါကာသည် သတင်းစာဆရာတဦး ဖြစ်သည်။ ရုံဖန်ရံခါ စာအုပ်များလည်း ရေးလေ့ရှိသည်။ သူ၏ စာအရေးအသားက သွက်လက်ပြီး ရှင်းလင်းသဖြင့် စာဖတ်ပရိသတ်၏ အားပေးခြင်းကိုလည်း ခံရသည်။ ယင်းသို့ စာအရေးအသား ကောင်း၍လည်း ပါကာသည် အလွန် အရေးပါအရာရောက်သည့် စာရေးခြင်း အလုပ်တခု လက်ခံရရှိခြင်း ဖြစ်သည်။ ထိုအလုပ်ကတော့ အမေရိကန်သမ္မတကတော် ဘီလီ (သို့မဟုတ်) ဘီလီဘာရက်ဖို့ဒ်၏ ကိုယ်ရေးသမိုင်း အတ္ထုပ္ပတ္တိကို စာအုပ်တအုပ်အဖြစ် ရေးသား ပြုစုရမည့်အလုပ်ဖြစ်သည်။ အမေရိကန်စာပေလောကတွင် သတင်းစာဆရာ၊ စာရေးဆရာ ပါကာသည် အမေရိကန်သမ္မတ ကတော် ဘီလီ၏ အတ္ထုပ္ပတ္တိ စာမူခအတွက် ထုတ်ဝေသူတို့က ဒေါ်လာငွေ တသန်း (ဆယ်သိန်း) ပေးရန် သဘောတူ၍ လောလောဆယ် ပါကာသည် ဒေါ်လာငွေ ငါးသိန်း ရရှိထားပြီဟူ၍လည်း သတင်းကျော်ကြားနေသူဖြစ်သည်။

ချိန်းထားသူကား-မယ်ဒီဆင်ကဖီးစားသောက်ဆိုင်၌ ဝါရှင့်သတင်းစာဆရာ ကီလ်ဒေဆိုသူ ဖြစ်လေသည်။

ကီလ်ဒေက နာမည်ကြီး လေ့အိန်ဂျယ်လိစ် တိုင်းသတင်းစာ၏ ဝါရှင်တန်မြို့တော်ဆိုင်ရာ သတင်းဌာနခွဲ၌ တာဝန်ခံ ဌာနမှူးဖြစ်သည်။ အမေရိကန်သမ္မတကတော် ဘီလီနှင့် နဂိုက ခင်မင် ရင်းနှီးခဲ့သူလည်း ဖြစ်သည်။ စိတ်ဝင်စားဖွယ်ကောင်းသော အချက်တခုကား ဘီလီသည် သမ္မတကတော် မဖြစ်မီ အပျိုဘဝက အမျိုးသမီးသတင်းထောက် လုပ်ခဲ့ဖူးခြင်းပင် ဖြစ်သည်။ ထိုစဉ်က သတင်းအယ်ဒီတာဖြစ်နေသူ ကီလ်ဒေ၏ လက်အောက်တွင် အလုပ်လုပ်ခဲ့ရ၍ လူချင်း ခင်မင်ရင်းနှီးနေခဲ့ခြင်း ဖြစ်လေသည်

ထို့ကြောင့်လည်း အတ္ထုပ္ပတ္တိရေးရန်အတွက် သမ္မတကတော် ဘီလီက သူမ၏ စောစောပိုင်း သတင်းထောက်ဘဝက အကြောင်းအချက်များကို အယ်ဒီတာ

ကီလ်ဒေထံတွင် မေးမြန်း မှတ်သားပြီး ရေးပါဟု ပါကာအား အကြံပေးတိုက်တွန်းခဲ့ခြင်းပင် ဖြစ်လေသည်။

*

သမ္မတကတော် ဘီလီသည် မိန်းကလေးတန်မယ့် သတ္တိကောင်းသူတဦး ဖြစ်လေသည်။

တခါသော် သူမအား တာဝန်ခံ အယ်ဒီတာက မူးယစ်ဆေးဝါး စွဲသူများအား ဆေးဝါးကုသမှုနှင့် ပြန်လည် ထူထောင်ရေးအကြောင်း အချက်အလက် စုံလင်စွာဖြင့် သတင်းဆောင်းပါးတစောင် ရေးခိုင်းခဲ့ဖူးသည်။

ထိုအခါ သူမသည် တဆင့်စကား မေးမြန်းပြီး ရေးသားခြင်းထက် ကိုယ်တိုင် အတွင်းကျကျ လေ့လာပြီးမှ ရေးရလျှင် ပိုကောင်းမည်ဟု ယူဆကာ မူးယစ်ဆေးဝါးကုသရေး ဆေးရုံတရုံသို့ သူမကိုယ်တိုင် ကုတ်ကင်း ဆေးစွဲနေသူ လူနာတယောက် ဟန်ဆောင်ကာ ဆေးရုံတက်ခဲ့ဖူးသည်။ ဆေးရုံ၌ ဆေးစွဲသူ လုလင်ငယ်၊ လုံမငယ်များနှင့် ရင်းနှီးစွာ တွေ့ဆုံဆွေးနွေး မေးမြန်း၍ ရရှိသော အချက်အလက်များကို အခြေခံကာ သတင်းဆောင်းပါးရေးသောအခါ မှန်ကန်ပြီး အလွန်ပြည့်စုံသော စာမူ ဖြစ်လာလေသည်။

*

ပါကာသည် မယ်ဒီဆင်ကဖီး စားသောက်ဆိုင်သို့ ချိန်းထားသည့် အချိန်ထက် အနည်းငယ်စော၍ ရောက်သွားသော်လည်း သတင်းစာဆရာကြီး ကီလ်ဒေကကြို၍ ရောက်ရှိနေသဖြင့် နှစ်ယောက်သား စားရင်းသောက်ရင်း ဆွေးနွေးစကား ပြောကြလေသည်။

ပါကာအနေဖြင့် မူလက လူချင်း မရင်းနှီးသော်လည်း ကီလ်ဒေသည် သူ့အား ခင်မင်ရင်းနှီးစွာ ဆက်ဆံရုံမက ပါကာ တာဝန်ယူထားသည့် သမ္မတကတော် အတ္ထုပ္ပတ္တိစာအုပ် ပြုစုရေးတွင် အစွမ်းကုန် ကူညီပါမည်ဟု ကတိပေးလေသည်။

ပါကာသည် ကီလ်ဒေဆိုသူအား စိတ်ဝင်စားမိသဖြင့် ကိုယ်ရေးကိုယ်တာ အကြောင်းများကိုပါ မေးကြည့်လေသည်။

"မစ္စတာကီလ်ဒေအနေနဲ့ ဒီဝါရှင်တန်မှာ တာဝန်ကျနေတာ ဘယ်လောက်ကြာပြီလဲ ခင်ဗျာ"

ဤသို့ မေးလိုက်လျှင် ကီလ်ဒေက ပြုံးလိုက်သည်။

"ကျုပ် ဒီမြို့ကိုရောက်တာဆိုရင် ဘီလီ သမ္မတကတော်ဖြစ်ပြီး

အိမ်ဖြူတော်ကို ရောက်မလာခင် ကပဲ"

"ဒါဖြင့် သုံးနှစ်ခွဲလောက်တောင် ရှိနေပြီပေါ့"

"ဟုတ်ပါတယ်၊ ကျုပ်က ဘီလီကို စောစောကတည်းက သိနေခဲ့သူ တယောက်အနေနဲ့ မောင်ရင့်ကို ပြောရဦးမယ်။ သူက တခြား သမ္မတကတော်တွေနဲ့ မတူဘူး၊ သတင်းစာပညာ ဝါသနာပါခဲ့တာကိုက ထူးခြားတဲ့ အရည်အချင်းတရပ် ဖြစ်တယ်လို့ ဆိုရမယ်။ တခြား သမ္မတကတော်တွေထဲက ဂျက်ကလင်း ကနေဒီဆိုရင် ခန့်ညားလှပတယ် မဟုတ်လား၊ သမ္မတကာတာရဲ့ဇနီး ရိုဆလင်ကတော့ တီထွင်ဉာဏ်ရှိတယ်လို့ ဆိုကြတယ်။ အခု ဘီလီကတော့ အဲဒီ အရည်အချင်းတွေ အားလုံးပြည့်စုံတဲ့ အပြင် စိတ်ကူးဉာဏ် ပိုပြီးထက်မြက်တယ်လို့ ကျုပ်က ဆိုချင်တယ်။ ကျုပ် သတင်းအယ်ဒီတာ ဘဝမှာ ဘီလီက အမျိုးသမီးသတင်းထောက် လုပ်ခဲ့တယ်။ သူဟာ ထူးချွန်ထက်မြက်တဲ့ သတင်းထောက် တဦးဖြစ်တာ တွေ့ခဲ့ရလို့ ကျုပ်တော့ သူ့အတွက် ဂုဏ်ယူမိပါတယ်"

"ဟုတ်ကဲ့ခင်ဗျာ၊ ဘီလီကိုယ်တိုင်ကလည်း သူ သတင်းထောက် ပေါက်စဘဝက ခင်ဗျားက အများကြီး အားပေးကူညီခဲ့ဖူးတယ်လို့ ကျွန်တော့်ကို ပြောပါတယ်"

"ဒါလောက်လည်း မဟုတ်ပါဘူးဗျာ၊ ကျုပ်က တာဝန်ဝတ္တရားအရ ကူညီခဲ့တာပါပဲ။ တခုတော့ရှိတယ်၊ ဘီလီက မိတ်ဆွေတယောက်အဖြစ် အလွန်ပေါင်းသင်းထိုက်တယ်လို့ ကျုပ်မြင်တယ်။ ဒါ့ကြောင့် ကျုပ်ကလည်း အခုအချိန်ထိ ဘီလီရဲ့မိတ်ဆွေအဖြစ် နေခဲ့တာပဲ"

ကီလ်ဒေက ဤသို့ ပြောနေစဉ်မှာပင် စားပွဲထိုးတဦးသည် သူတို့ရှိရာသို့လာပြီး မစ္စတာ ပါကာ အတွက် တယ်လီဖုန်းလာကြောင်း ပြောလေသည်။

ပါကာလည်း ဘယ်ကများ အရေးတကြီး တယ်လီဖုန်း ဆက်တာပါလိမ့်ဟု စဉ်းစားရင်း တယ်လီဖုန်း ရှိရာသို့ ထသွားပြီး နားထောင်ကြည့်လိုက်သောအခါ တဘက်မှ ဆက်နေသူမှာ သမ္မတကတော်၏ သတင်းပြန်ကြားရေးမှူး နိုရာ ဖြစ်နေ၍ အံ့အားသင့်သွားမိလေသည်။

"ဟဲလို မစ္စတာပါကာ မဟုတ်လား၊ ကျွန်မ အိမ်ဖြူတော်က နိုရာပါ၊ ရှင့်ကိုရှာရတာ မောနေတာပဲရှင့်"

(မှတ်ချက်။ ။ ပါကာသည် သမ္မကတော်၏ ပြန်ကြားရေးမှူး နိုရာနှင့်လည်း ခင်မင်ရင်းနှီးနေပြီ ဖြစ်သည်။)

"ဘာများ အရေးကြီးလို့လဲ နိုရာ"

"အရေးကြီးဆို သမ္မတကတော်က ရှင်နဲ့ အမြန်ဆုံး တွေ့ချင်လို့တဲ့၊ အခု ရှင်ဘာလုပ်နေတာလဲ"

"မစ္စတာကီလ်ဒေနဲ့ စကားပြောနေတာပါပဲ"

"ဒါဖြင့် မြန်မြန်စကားဖြတ်ပြီးသာ လာခဲ့စမ်းပါ၊ ဆက်ဆက်လာခဲ့နော်"

ပါကာလည်း သတင်းစာဆရာကြီး ကီလ်ဒေအား အကျိုးအကြောင်း ပြော၍ တောင်းပန်ပြီး ထွက်ခဲ့လေသည်။

လမ်း၌ သူသည် ကိုယ့်ကိုယ်ကိုယ် ပြန်၍ သုံးသပ်ဆင်ခြင်မိလေသည်။ သတင်းစာဆရာ၊ စာရေးဆရာ ဖြစ်လာပုံကလည်း စိတ်ဝင်စားဖွယ် ကောင်းပေသည်။ သူတို့မျိုးရိုးတွင် စာပေသမား စာရေးဆရာ ဟူ၍ တယောက်မှ မရှိချေ။

ပါကာသည် တက္ကသိုလ်မှ ဘွဲ့ရပြီးနောက် အမေရိကန်စစ်တပ်သို့ ဝင်၍ အမှုထမ်းခဲ့ရာ စစ်ထောက်လှမ်းရေးဘက်တွင် တာဝန်ကျခဲ့သည်။ စစ်တပ်မှ ပြန်ထွက်လာပြီးနောက် ပုဂ္ဂလိက စုံထောက်လုပ်ငန်းတခုတွင်လည်း ခေတ္တဝင်အလုပ်လုပ်ခဲ့ဖူးသေးသည်။ သို့သော် သူသည် စာရေးရန် အလွန်ဝါသနာပါ၍ သူ၏ အတွေ့အကြုံများကို အခြေခံကာ ဆောင်းပါးများ စတင်ရေးသားခဲ့သည်။ ရေးပုံသားပုံက အလွန်သွက်လက်ပြီး စိတ်ဝင်စားဖွယ် ကောင်းသဖြင့် သူ၏ ဆောင်းပါးများ စွဲသွားရာမှ ပါတာသည် သတင်းစာဆရာ၊ စာရေးဆရာ ဘဝဖြင့် အသက်မွေးဝမ်းကျောင်းပြုရန် ဆုံးဖြတ်လိုက်လေသည်။

စာရေးကောင်းသူများအား အမေရိကန်တွင် နိုင်ငံရေးသမားများက အခကြေးငွေပေး ငှား၍ အသုံးပြုသည့် အလေ့အထ ရှိနေသဖြင့် ပါကာအဖို့ အမေရိကန် နိုင်ငံရေးလောကနှင့် ပတ်သက်ပြီး သူ၏ ဘဝကြမ္မာ တမျိုးတဖုံ ပြောင်းလဲခဲ့ရပြန်လေသည်။

ပါကာသည် အေပီကြေးနန်းသတင်းဌာန၌ သတင်းထောက်အဖြစ် ဝင်ရောက် အလုပ်လုပ်လျက် ရှိနေစဉ် တနေ့သ၌ ဝိန်းဂစ်ဆိုသူက သူ့အား လှမ်း၍ ဆက်သွယ်လေသည်။

ဝိန်းဂစ်သည် ပါကာ၏ ဆောင်းပါးများကို ဖတ်ရ၍ ရေးသားဟန်ကို အလွန်သဘောကျပြီး ယခုကဲ့သို့ ဆက်သွယ်ရပါသည်ဟု ဆိုလေသည်။ သူဆက်သွယ်သည့်အကြောင်းက အမေရိကန် ဒီမိုကရက်တစ် ပါတီမှ နိုင်ငံရေးသမားတဦးနှင့် ပတ်သက်လေသည်။

နိုင်ငံရေးသမား၏အမည်က အင်ဒရူးဘရက်ဖို့ဒ်ဖြစ်ပြီး နောက်များ မကြာမီ သမ္မတရွေးကောက်ပွဲတွင် အပြတ်အသတ် အနိုင်ရပြီး အမေရိကန်သမ္မတအသစ် ဖြစ်လာမည့် ပုဂ္ဂိုလ်ပင်တည်း။

သမ္မတလောင်းကို ဆက်ခံအားပေးသူများက ရွေးကောက်ပွဲမတိုင်မီ အင်ဒရူးဘရက်ဖို့ဒ်၏ ဘဝဖြစ်စဉ် အတ္ထုပ္ပတ္တိကို စိတ်ဝင်စားဖွယ် စာအုပ်တအုပ်အဖြစ် ရေးသားထုတ်ဝေလိုကြသည်။ ယင်းစာအုပ်ကို သမ္မတရွေးကောက်ပွဲ အကြိုကာလတွင် ဝါဒဖြန့် အစီအစဉ်တရပ်အဖြစ် အသုံးချရန် ဖြစ်လေသည်။

ယင်းစာအုပ်ကို ရိုက်နှိပ်ထုတ်ဝေပေးမည့် ထုတ်ဝေသူတဦးကလည်း အဆင်သင့်ရှိရာ စာအုပ် ရေးသားပေးမည့် စာရေးဆရာကောင်းကောင်းသာ လိုနေချိန်တွင် ဝိန်းဂစ်ဆိုသူက ပါကာနှင့် လှမ်းဆက်သွယ်ခြင်း ဖြစ်လေသည်။

စာအုပ်ရေးသည့်အတွက် ပေးမည့် စာမူခငွေကလည်း ပါကာအချို့ မက်မောစရာ ကောင်းလှပေ သည်။ ထို့ပြင် ပါကာ သဘောကျမိသောအချက်မှာ အမေရိကန်နိုင်ငံရေးလောကနှင့် ဆက်သွယ် နီးစပ်ခြင်းအားဖြင့် သူလို စာရေးဆရာ၊ သတင်းစာဆရာတယောက်သည် နောင်တွင် အသုံးဝင်မည့် အထွေထွေ သုတမျိုးစုံ ကြွယ်ဝပြည့်စုံလာနိုင်သည်ဟူသော အချက်ပင် ဖြစ်လေသည်။

ထို့ကြောင့် ပါကာသည် သူအလုပ်လုပ်နေသော အေပီကြေးနန်း သတင်းစာဌာနမှ နုတ်ထွက်လိုက်ပြီး နိုင်ငံရေး စာရေးဆရာတယောက် ဖြစ်လာလေတော့သည်။

စာအုပ်အတွက် ပြင်ဆင်လေ့လာနေချိန်တွင် သမ္မတလောင်း အင်ဒရူး ဘရက်ဖို့ဒ်နှင့် သိကျွမ်း ခင်မင်ရာမှ သူ၏ဇနီး ဘီလီနှင့်လည်း တွေ့ဆုံသိကျွမ်းခဲ့ရလေသည်။

ပါကာသည် စာအုပ်ကို ကြိုးစားရေးသားလိုက်သဖြင့် အချိန်မီ ပြီးစီးသွားကာ ပုံနှိပ်ထုတ်ဝေနိုင်ခဲ့ သည်။ သူ၏နာမည်သည်လည်း နေ့ချင်း ညချင်း ဆိုသလို ထင်ရှားကျော်ကြားလာခဲ့သည်။

အချိန်တန်၍ သမ္မတရွေးကောက်ပွဲ ပြုလုပ်သော် အင်ဒရူးဘရက်ဖို့ဒ်သည် အနိုင်ရ၍ သမ္မတ ဖြစ်လာလေသည်။ ထိုအခါ သမ္မတဘရက်ဖို့ဒ်က သူ၏ အတ္ထုပ္ပတ္တိစာအုပ် ရေးခဲ့သူ ပါကာကိုပင် သမ္မတအိမ်တော်၌ လစာငွေနှင့် ငှားရမ်းပြီး နိုင်ငံရေး မိန့်ခွန်းများ ရေးသားရန် တာဝန်ပေးထား လိုက်လေသည်။

ဤသည်တို့ကား လွန်ခဲ့သော နှစ်နှစ်ကျော်က အဖြစ်အပျက်များပင်တည်း။

ပါကာသည် သူ၏ အလုပ်တာဝန်သစ်တွင် စိတ်ပါဝင်စားကာ ပျော်ရွှင်ကျေနပ်နေမိလေသည်။ ထိုအတောအတွင်းတွင် သမ္မတကတော် ဘီလီသည်လည်း ရုပ်ရည်လှပ ကြော့ရှင်းသလောက် သွက်လက်ချက်ချာကာ လူချစ်လူခင် အထူးများလာခဲ့လေသည်။ သတင်းစာများနှင့် မဂ္ဂဇင်းများက သူမအကြောင်း အသားပေး ရေးသားဖော်ပြလာကြသည်။

သမ္မတကတော် ဘီလီသည် တချိန်က သတင်းစာဆရာ အလုပ်လုပ်ခဲ့ဖူးသည်ဟူသော အချက်ကြောင့် လည်း သူမအပေါ် စိတ်ဝင်စားလာကြခြင်း ဖြစ်ဟန်တူပေသည်။

သမ္မတ အင်ဒရူးဘရက်ဖို့ဒ်၏ အတ္ထုပ္ပတ္တိစာအုပ်ကို ရိုက်နှိပ်ထုတ်ဝေခဲ့သူ နယူးယောက်မြို့မှ ထုတ်ဝေသူများက တခု အကြံပေး တိုက်တွန်းပုံမှာ သမ္မတကတော် ဘီလီက သတင်းစာဆရာ လုပ်ခဲ့ဖူးသည်ကို အကြောင်းပြု၍ ကိုယ်တိုင်ရေး အတ္ထုပ္ပတ္တိ စာအုပ်တအုပ် ရေးသားရန်ပင် ဖြစ်လေသည်။

အနောက်နိုင်ငံယဉ်ကျေးမှုအရ နိုင်ငံအကြီးအကဲဇနီးကို ဖတ်စ်လေဒီဟု ခေါ်လေ့ရှိကြသည်။ နိုင်ငံ၏ ပထမဆုံး (နံပါတ်တစ်) အမျိုးသမီးဟူသော အဓိပ္ပာယ်ပင် ဖြစ်သည်။

ယခု ထုတ်ဝေသူများက အမေရိကန်နိုင်ငံ၏ ပထမ အမျိုးသမီး ဖတ်စ်လေဒီ၏ ကိုယ်တိုင်ရေး အတ္ထုပ္ပတ္တိကို စာအုပ်အဖြစ် ထုတ်ဝေလျှင် မုချအောင်မြင်လိမ့်မည်ဟု တွက်ချက် အကြံပေး တိုက်တွန်းခြင်း ဖြစ်လေသည်။

အသက် သုံးဆယ့်ခြောက်နှစ်အရွယ် ရှိပြီဖြစ်သော သမ္မတကတော် ဘီလီသည် ရုပ်ရည်လှပ ချောမောသလောက် ဉာဏ်ထက်မြက်သူလည်းဖြစ်၍ ထုတ်ဝေသူများ၏ အကြံပေးချက်ကို စဉ်းစားပြီးနောက် လက်ခံရန် သဘောတူလိုက်သည်။ သို့သော် သူမက တခု တောင်းဆိုလေသည်။ ကိုယ်တိုင်ရေး အတ္ထုပ္ပတ္တိ (အော်တိုဘိုင်အိုဂရပ်ဖီ) ကို ရေးသားပြုစုရာတွင် သမ္မတကြီး၏ စာရေးဆရာ ပါကာက သူမအား ကူညီပံ့ပိုးပေးရမည် ဟူ၍ပင်ဖြစ်သည်။ ယင်းသို့ ကူညီပံ့ပိုးပေးသည့် အတွက် ပါကာအား စာမူခအဖြစ် ဒေါ်လာငွေ ငါးသိန်းပေးပါမည်ဟု ကမ်းလှမ်းလာသောအခါ၌ကား ငြင်းပယ်စရာ အကြောင်း မရှိတော့ချေ။

လူချင်းနီးကပ်စွာ ဆက်ဆံရင်း လေ့လာကြည့်သောအခါ ပါကာသည် သမ္မတကတော် ဘီလီအပေါ် အထူးပင် လေးစားမိလေသည်။ အထွေထွေ ဗဟုသုတ ကြွယ်ဝပြီး စကားပြော၍ အလွန်ကောင်းသူ အမျိုးသမီးတဦးဖြစ်သည့်အပြင် စာရေးခြင်းအတတ်ပညာနှင့် ပတ်သက်၍ ပါကာက တစ်ထွာပြရုံနှင့် တစ်တောင်မြင်နိုင်သည့် အရည်အချင်းပါ ရှိလေသည်။

ပါကာ အလုပ်လုပ်ရန် ပေးထားသည့်နေရာ (ရုံးခန်း) ကား သမ္မတကတော်၏ ပြန်ကြားရေးမှူး နိုရာ ထိုင်သည့် ရုံးခန်းနှင့် ကပ်လျက် အခန်းတခန်း ဖြစ်လေသည်။

နိုရာသည် ကိုယ်လုံးကိုယ်ဟန် အချိုးကျနပြီး လှပကြော့ရှင်းသော အမျိုးသမီးတဦး ဖြစ်လေသည်။ သူမကို ကြည့်ရသည်မှာ စိတ်ကြည်နူး ပျော်ရွှင်ဖွယ် ကောင်းသည်ဟု ပါကာ၏ စိတ်ဝယ် ထင်မိလေသည်။ သို့သော် နိုရာက ပါကာအား အလွန်အမင်း မရောဘဲ ခပ်တည်တည် ခပ်မှန်မှန်သာ ဆက်ဆံလေ့ ရှိလေသည်။

သို့ဖြစ်လင့်ကစား ပါကာအနေဖြင့် သူမနှင့် နီးနီးကပ်ကပ် နေရသည်ကိုပင် ကျေနပ် ကြည်နူးနေမိ လေသည်။

သမ္မတကတော်၏ ကိုယ်ရေးအတ္ထုပ္ပတ္တိ ရေးသားရန် အချက်အလက် ရှာဖွေစုဆောင်းပေးရန်မှာ ပါကာ၏ တာဝန်တခု ဖြစ်လေရာ သူသည် ယင်းကိစ္စအတွက်ပင် အလုပ်များခဲ့ရပေသည်။ သတင်းစာများနှင့် မဂ္ဂဇင်းများ၌ ပါသော ဘီလီအကြောင်း ဖော်ပြချက်ချက်များကအစ ပြည့်ပြည့်စုံစုံ ရှာဖွေ စုဆောင်းရလေသည်။

တဖန် လူပေါင်းများစွာကို တွေ့ဆုံမေးမြန်း၍ အချက်အလက် မှတ်ယူရသည့် အလုပ်ကလည်း ရှိသေးသည်။ ထို့ပြင် သမ္မတကတော် ဘီလီကိုယ်တိုင်ကို ပါကာက မေးခွန်းတွေ မေး၍ ပြန်လည် ဖြေကြားချက်များကို မှတ်စုအဖြစ် ရေးသား စုဆောင်းထားရလေသည်။ စာအုပ်အတွက် ကုန်ကြမ်း ရှာဖွေ စုဆောင်းရသည့် သဘောပင် ဖြစ်ပေသည်။

ဤသို့ လူချင်းတွေ့ဆုံ မေးမြန်းသည့် အစီအစဉ်ကို နေ့စဉ် မွန်းလွဲပိုင်း ဘီလီ အားလပ်ချိန်တွင် ပြုလုပ်လျက်ရှိရာ ယနေ့အဖို့ အားလပ်၍ အစီအစဉ် ဖျက်ထားပြီးကာမှ ယခုတဖန် တယ်လီဖုန်း ဆက်ခေါ်ခြင်းမှာ တွေ့ဆုံမေးမြန်းသည့် အစီအစဉ် လုပ်ဖြစ်သည်ဟု ထင်ရပါသည်။

ဤသို့ တွေးတောရင်းနှင့်ပင် ပါကာသည် သမ္မတအိမ်တော်သို့ ရောက်သွားလေသည်။ သူ့အား ပြန်ကြားရေးမှူး နိုရာက ဆီးကြိုနေလေသည်။

"ဘယ်လိုလဲဗျ၊ ဒီနေ့ အစီအစဉ် ဘာမှ မရှိဘူး ဆိုပြီးကာမှ ကျုပ်ကို သမ္မတကတော်က တွေ့ချင်ပြန်တယ်ဆို"

ခရီးရောက်မဆိုက်မှာပင် ပါကာက မေးလိုက်သည်။

"ဒါတော့ မပြောတတ်ဘူးရှင့်၊ သူက မော်စကိုမြို့ကို သွားဖို့ ပြင်ဆင်နေရလို့ အလုပ်အလွန်များနေတဲ့ ကြားက ရှင်နဲ့ ငါးမိနစ်လောက် တွေ့ချင်တယ်လို့

ပြောတာပဲ၊ ကဲ လာပါရှင် ဟိုက ရှင့်ကို စောင့်နေတယ်"

ပြောပြောဆိုဆို နိုရာသည် ပေါ့ကာအား သမ္မတကတော် ဘီလီထံသို့ တိုက်ရိုက် ခေါ်သွားသည်။

"ဟဲလို မစ္စက်ဘာရက်ဖို့ဒ်"

ပါကာ လူချင်း တွေ့တွေ့ချင်းပင် နှုတ်ဆက်လိုက်ရာ သမ္မတကတော်က သဘောကျပုံ မရ။

"ဒီမယ် ရှင်က ကျွန်မကို တစိမ်းတွေ ခေါ်သလို မစ္စက်ဘာရက်ဖို့ဒ်လို့ မခေါ်ပါနဲ့ရှင်၊ လူချင်းရင်းနှီးနေမှ ကျွန်မကို ရင်းရင်းနှီးနှီးပဲ ဘီလီလို့ပဲ ခေါ်စမ်းပါ။ ရှေ့လျှောက် ရှင်နဲ့ကျွန်မ အတူတွဲပြီး အလုပ် လုပ်စရာတွေ အများကြီး ရှိသေးတယ် မဟုတ်လား"

သူမက ဤသို့ ပြောလိုက်သဖြင့် ပါကာကလည်း ပြုံး၍

"ဟုတ်ကဲ့ ဘီလီ" ဟု ပြန်ပြင် ပြောလိုက်ရလေသည်။

ထို့နောက် ဘီလီက စိတ်မကောင်းဖွယ်ရာ သတင်းတခု ပြောလေသည်။ သတင်းကတော့ သူမနှင့် အလွန် ခင်မင်ရင်းနှီးသော နာမည်ကျော် ဗြိတိသျှ အမျိုးသမီး စာရေးဆရာမ ဂျက်နက်ဖာလေး ဆိုသူသည် ယမန်နေ့ကပင် ရုတ်တရက် ကွယ်လွန်သွားသည့် သတင်းပင်ဖြစ်သည်။

သို့သော် သမ္မတကတော်က ပါကာအား ရုတ်တရက် ခေါ်ယူ တွေ့ဆုံရသည့်အကြောင်းကား တမျိုးဖြစ်လေသည်။

"ဒီမယ် ရှင့်ကို ကျွန်မ ခေါ်လိုက်တာ တခြားကြောင့် မဟုတ်ဘူး၊ နက်ဖြန်ညကို ကျွန်မက ရှရှပြည် မော်စကိုမြို့ကို သမ္မတကြီးနဲ့ သီးသန့်လေယာဉ်နဲ့ သွားဖို့ရှိတာ ရှင် သိမှာပေါ့။ ဟိုမှာ နိုင်ငံတကာ အမျိုးသမီး ညီလာခံတခု တက်ရမှာ ဖြစ်တယ်။ ဝါရှင်တန်မြို့ကနေပြီး မော်စကိုမြို့ ဆိုတော့ ခရီးရှည်ကြာ လေယာဉ် စီးရမှာ အလွန် ပျင်းစရာကောင်းတယ်။ ဒါကြောင့် ကျွန်မ ရှင့်ကို မော်စကို မြို့ကို လိုက်ခဲ့ဖို့ ဖိတ်ချင်ပါတယ်။ အသွားရော အပြန်ရော လမ်းမှာ ရှင်နဲ့ ကျွန်မ အေးအေးဆေးဆေး စကားပြောချိန်ရမယ်။ ကျွန်မတို့ရဲ့စာအုပ်ကို ပြုစုဖို့တွေ ဆွေးနွေးစရာ အများကြီး ရှိတယ် မဟုတ်လား။ ဒါထက် ရှင်က မော်စကိုမြို့ကို ရောက်ဖူးသလား"

"မရောက်ဖူးပါဘူး"

"ဒါဖြင့် ဟန်ကျတာပေါ့။ ကဲ ရှင် ဘာမှ စဉ်းစားမနေနဲ့၊ နက်ဖြန်ည

ကျွန်မနဲ့အတူ ရှင် မော်စကိုမြို့ကို လိုက်ခဲ့ရမယ် ဒါပဲ"

သမ္မတကတော် ဘီလီက သွက်လက်စွာ ပြောလိုက်ရာ ပါကာမှာ အလွန်ပင် အံ့အားသင့်ရုံမှတပါး ဘာမျှ မပြောနိုင်တော့ချေ။ ထိုအချိန်၌ မော်စကိုမြို့တွင် အချိန်မှာ ည ၁၂ နာရီထိုးရန် ငါးမိနစ်မျှအလို ဖြစ်လေသည်။

ကမ္ဘာကျော် ကရင်မလင် နန်းတော်ကြီးအနီး အမှတ် (၂) ဇာရှင်စကီ ဥယျာဉ်လမ်း၌ မီးခိုးရောင် အဆင်းရှိသော အဆောက်အအုံကြီးတခု ရှိလေသည်။

ထိုအဆောက်အအုံကြီးကား နာမည်ကြီး ရုရှ ထောက်လှမ်းရေး (ကေ-ဂျီ-ဘီ) အဖွဲ့ကြီး၏ ဌာနချုပ်ရုံးပင်ဖြစ်သည်။

ယင်းအဖွဲ့ကြီးတွင် ညွှန်ကြားရေးမှူးတဦးစီ ကွပ်ကဲသော ဌာနခွဲ ခုနစ်ခု ရှိပေသည်။ ဌာနခွဲ အားလုံးအပေါ်မှ ကြီးကြပ်ရေးမှူး အုပ်ချုပ်သူ (ကေ-ဂျီ-ဘီ) ထောက်လှမ်းရေးအဖွဲ့၏ အာဏာပိုင် အကြီးအကဲ (ဥက္ကဋ္ဌ) ၏ ရုံးက အဆောက်အအုံ၏ တတိယထပ်တွင် ရှိလေသည်။

(ကေ-ဂျီ-ဘီ) အကြီးအကဲ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် သူ၏စားပွဲကြီးတွင် ထိုင်ကာ ပြတင်းပေါက်မှ အပြင်ဘက်သို့ လှမ်းကြည့်နေလေသည်။

သူ့မျက်နှာချင်းဆိုင် နံရံတွင်ကား ရုရှခေါင်းဆောင်ကြီး လီနင်၏ ဓာတ်ပုံကြီးတပုံကို ဘောင်သွင်း၍ ချိတ်ဆွဲထားသည်။ အခန်းတွင်းရှိ ဆိုဖာကုလားထိုင် ပရိဘောဂ အသုံးအဆောင်များကလည်း ထိပ်တန်း အကောင်းဆုံး အမျိုးအစားများ ဖြစ်လေသည်။

စာရေးစားပွဲကြီး၏လက်ယာဘက်တွင် တယ်လီဖုန်း ခြောက်လုံး တန်းစီ၍ ရှိလေသည်။ ယင်းတယ်လီဖုန်း ခြောက်လုံးအနက် တလုံးမှာ ဆိုဗီယက် ကွန်မြူနစ် ပါတီအထွေထွေ အတွင်းရေးမှူးဖြစ်သူ (ဝန်ကြီးချုပ်) ကီရေချင်ကို၏ ရုံးနှင့် တိုက်ရိုက် ဆက်သွယ်ထားသော ဖုန်း ဖြစ်လေသည်။ ကျန်တယ်လီဖုန်းများက ပါတီ ပေါ်လစ်ဗြူရို အဖွဲ့သို့လည်းကောင်း၊ ကာကွယ်ရေး ဝန်ကြီးဌာနသို့လည်းကောင်း၊ သူ၏ လက်ထောက် ညွှန်ကြားရေးမှူး အသီးသီးထံသို့လည်းကောင်း ဆက်သွယ်စကားပြောနိုင်သည့် တယ်လီဖုန်းများ ဖြစ်လေသည်။

*

ယခုလတ်တလောအချိန်တွင်မူ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်၏စိတ်သည် သူ၏လက်တွင် ဆုပ်ကိုင် ထားသော စာရွက်တရွက်ပေါ်သာ အာရုံစူးစိုက်လျက် ရှိလေသည်။

ထိုစာရွက် သူ၏လက်ထဲသို့ ရောက်လာသည်မှာ မိနစ်ပိုင်းမျှသာ ရှိသေးသည်။ စာရွက်မှာ အမေရိကန်ပြည် ဝါရှင်တန်မြို့တော်မှ သူတို့၏ (ကေ-ဂျီ-ဘီ) သူလျှို (အေးဂျင်း) များထံမှ လျှို့ဝှက် သင်္ကေတဖြင့် ပို့လိုက်သော သတင်းပို့ အစီရင်ခံချက်ပင် ဖြစ်လေသည်။ သာမန်အားဖြင့်ဆိုလျှင် ထိုသတင်းပို့ချက်သည် အရေးမကြီးလှဟု ထင်ရမည်ဖြစ်သော်လည်း (ကေ-ဂျီ-ဘီ) အကြီးအကဲ ပီထရော့ဗ်က စာရွက်ကိုကြည့်ပြီး မယုံသင်္ကာဖြစ်လာမိသည်။ သတင်းပို့ချက်တွင် အမေရိကန် သမ္မတကတော် နောက်တနေ့ မော်စကိုမြို့သို့ လာရောက်ရာ၌ လိုက်ပါလာသူများ၏ စာရင်းတွင် လူတယောက် ထပ်တိုးလာကြောင်း ဖော်ပြထားပေသည်။

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် စာရွက်ကို စားပွဲပေါ် ပြန်ချထားလိုက်ပြီး ခေတ္တ စဉ်းစားနေလေသည်။

ဤကိစ္စကို နောက်တနေ့နံနက် ကိုးနာရီထိုးမှ သူ၏လက်ထောက်တဦးဦးအား တာဝန်ပေးလိုက်လျှင် ဖြစ်သည်။ သို့တည်းမဟုတ် သူ သိချင်သောအချက်ကို ယခုချက်ချင်း စုံစမ်းလျှင်လည်း ဖြစ်ပေသည်။

သူသည် ရုတ်တရက် ထိုင်ရာမှ ထပြီး အခန်းထောင့်ရှိ ဗီရိုတခုရှိရာသို့ လျှောက်သွားလေသည်။ ထိုဗီရိုမှာ ကမ္ဘာ့နိုင်ငံအသီးသီးမှ လူပေါင်းစုံတို့နှင့် ပတ်သက်၍ ဆိုဗီယက် ထောက်လှမ်းရေးက စုံစမ်းပြီး နာမည် အက္ခရာစဉ်အလိုက် ကတ်ပြားများဖြင့် သင်္ကေတသင်္ဘော ထားရှိသော ဗီရိုပင် ဖြစ်သည်။

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ကတ်ပြားဗီရိုအတွင်းရှိ "ပီ" အက္ခရာများရှိရာတွင် ရှာဖွေပြီး ပါကာဟူသော ကတ်ပြားကို ဆွဲထုတ်ယူလိုက်သည်။ ထိုကတ်ပြားတွင် သင်္ကေတနံပါတခုသာ ရှိသည်။ ယင်းနံပါတ်ဖြင့် ရုံးအဆောက်အအုံ အောက်ဆုံးထပ်ရှိ ကွန်ပျူတာဌာနခွဲသို့ အကြောင်းကြား လိုက်ရုံနှင့် ထိုလူနှင့် ပတ်သက်သော အချက်အလက်များ သိနိုင်ပေသည်။

ပီထရော့ဖ်သည် ပါကာ၏ကတ်ပြားများ နံပါတ်ဖြင့် ကွန်ပျူတာဌာနသို့ ချက်ချင်း အကြောင်းကြား လိုက်ရာ ဆယ်မိနစ်အတွင်း ဝန်ထမ်းတဦးက ကိုယ်ရေးမှတ်တမ်း ဖိုင်တခုကို လာပို့ပေးလေသည်။

ဖိုင်ကို ကိုင်ကြည့်လိုက်သည့်အခါ ပါကာဆိုသူနှင့် ပတ်သက်၍ အောက်ပါ အချက်အလက်များ တွေ့ရလေသည်။

သတင်းစာဆရာ၊ တချိန်က အမေရိကန်ထောက်လှမ်းရေးတွင် လုပ်ခဲ့ဖူးသည်။ အလွတ်စုံထောက် လည်း လုပ်ခဲ့ဖူးသည်။ သတင်းစာဆရာလုပ်ရာမှ အမေရိကန်နိုင်ငံရေးနယ်သို့ ရောက်လာပြီး ကိုယ်ရေးအတ္ထုပ္ပတ္တိ ရေးခြင်း၊

နိုင်ငံရေးခေါင်းဆောင်များအတွက် မိန့်ခွန်းရေးခြင်း လုပ်သည်။ လောလောဆယ် အမေရိကန် သမ္မတကတော်၏ ကိုယ်ရေးအတ္ထုပ္ပတ္တိ ရေးသားပြုစုရာတွင် ကူညီဆောင်ရွက်လျက်ရှိသည်။

ထိုအချက်အလက်များကို ဖတ်ရင်း ဗိုလ်ချုပ်ကြီး ပီထရေ့ဗ်သည် စဉ်းစားကြည့်ပြန်သည်။ အမေရိကန် သမ္မတကတော် မော်စကိုမြို့သို့ လာရာတွင် နောက်ဆုံးထွက်ခါနီးကျမှ ပါကာက ဘာကြောင့် လိုက်ပါလာရလေသနည်း။

သမ္မတကတော်အဖို့ အဖော်ရအောင် လိုက်ပါလာခြင်းလည်း ဖြစ်နိုင်သည်။ ခရီးသွားရင်း ကိုယ်ရေး အတ္ထုပ္ပတ္တိ ပြုစုရေးကိစ္စ တိုင်ပင်ဆွေးနွေးမှတ်စုများ ရေးမှတ်ရန်လည်း ဖြစ်နိုင်သည်။

သို့တည်းမဟုတ် အမေရိကန်ထောက်လှမ်းရေး (စီအိုင်အေ) သူလျှိုတဦးအဖြစ် လိုက်ပါလာခြင်း လည်း ဖြစ်နိုင်သည်။ ယင်း တတိယယူဆချက်က ပို၍ ဖြစ်နိုင်ပေသည်။

အမေရိကန် သမ္မတကတော် မော်စကိုမြို့တွင် သုံးရက်ကြာ နေထိုင်စဉ်ကာလအတွင်း ပါကာက သတင်းစာဆရာ အမည်ခံပြီး စီအိုင်အေ ထောက်လှမ်းရေး သူလျှိုလုပ်ငန်းတွေ လုပ်ဖို့များသည်။

ဤသို့ စဉ်းစားသုံးသပ်ပြီးနောက် ဗိုလ်ချုပ်ကြီး ပီထရေ့ဗ်သည် စာရွက်တရွက်ပေါ်တွင် ဗိုလ်မှူးကြီး ဇူးခါး ဆိုသူထံ ညွှန်ကြားချက် ရေးလိုက်သည်။

ညွှန်ကြားချက်တွင် အမေရိကန် သမ္မတကတော်နှင့် လိုက်ပါမည့်သူများအနက် ပါကာဆိုသူတဦး နောက်ထပ် တိုးလာကြောင်းနှင့် မိမိတို့ ကေဂျီဘီ ထောက်လှမ်းရေးက ယင်း ပါကာဆိုသူအား မျက်ခြည်မပြတ် အထူးဂရုစိုက်ကြည့်ရန် ဖော်ပြထားလေသည်။

ညွှန်ကြားချက်စာရွက်ကို စားပွဲတနေရာတွင် ချထားလိုက်ပြီးနောက် ပီထရေ့ဗ်သည် သူ့ကိုယ်သူ ပြန်သတိပေးသည့်အနေဖြင့် ဆင်ခြင်သုံးသပ်နေပြန်လေသည်။

မိမိတို့၏ အထူးလျှို့ဝှက် အကြံအစည်တွင် အားနည်းချက်၊ ဟာကွက် တခုမှမရှိအောင် အထူးသတိထားရန် လိုအပ်ပေသည်။ ရှုထောင့်စုံမှ လိုလေးသေးမရှိ၊ ချွတ်ယွင်းချက် မရှိစေရန် ဂရုစိုက်ရမည်ဖြစ်သည်။

မှားယွင်းချက်၊ ပေါ့ဆချက်ဆို၍လည်း တခုမှ မရှိအောင် ပိရိပိုင်နိုင်စွာ လုပ်ရပေမည်။

ဤသို့လျှင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် သူ့ကိုယ်သူ ပြန်သတိပေးလိုက်လေသည်။

အပြင်ဘက်တွင်ကား ပတ်ဝန်းကျင်တခုလုံး တိတ်ဆိတ်ငြိမ်သက်နေလေသည်။ သန်းခေါင်ကျော်ပြီ ဖြစ်၍ ဤအချိန်သည် မော်စကိုမြို့ကြီး အိပ်မောကျနေသည့်အချိန်ပင်တည်း။

သို့ရာတွင် (ကေ-ဂျီ-ဘီ) ထောက်လှမ်းရေး အကြီးအကဲ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်အဖို့မှာမူ ဤအချိန် (ညဥ့်သန်းခေါင်ကျော်အချိန်) သည် စဥ်းစား၍ အကောင်းဆုံးအချိန် ဖြစ်လေသည်။ အကြံဉာဏ် ထုတ်ရန်လည်း အကောင်းဆုံးအချိန် ဖြစ်လေသည်။

ထို့ကြောင့် သူသည် ထိုနေ့က ဝတ်စုံပြည့် လေ့ကျင့်ခန်းလုပ်ခဲ့သူ ဗီရာအမည်ရှိ ပြဇာတ်မင်းသမီး အကြောင်း ပြန်လည် စဥ်းစားသုံးသပ်နေလေသည်။

ဗီရာ၏ သရုပ်ဆောင်မှုကား လုံးဝ ဆိုစရာမရှိအောင် ရာနှုန်းပြည့် ကောင်းမွန်ပိရိသဖြင့် ရာနှုန်းပြည့် ကျေနပ်ဖွယ် ကောင်းလှပေသည်။

အမေရိကန် သမ္မတကတော်ကို ဖတ်စ်လေဒီ (ပထမဆုံး အမျိုးသမီး) ဟု တင်စားခေါ်ဆိုကြလျှင် မိမိတို့လူ ဗီရာကို ဒုတိယအမျိုးသမီး (စက္ကင်း လေဒီ) ဟု ခေါ်ရမည်လော။

သို့သော် ယခု မိမိတို့၏ လျှို့ဝှက်အကြံအစည်အရ ဗီရာသည် အမေရိကန် သမ္မတကတော်နေရာ လူစားဝင်လိုက်ခြင်းအားဖြင့် ဒုတိယ အမျိုးသမီး (စက္ကင်းလေဒီ) မဟုတ်တော့ဘဲ ပထမ အမျိုးသမီး (ဖတ်စ်လေဒီ) တကယ်ပင် ဖြစ်သွားပေတော့မည်။

သူမကို တကယ် အမေရိကန် သမ္မတကတော် ဘီလီနှင့် မည်သို့မျှ ခွဲခြား၍မရအောင် အဘက်ဘက်ကလည်း ပြင်ဆင် လေ့ကျင့်ထားပြီး ဖြစ်ပေသည်။ ဤသို့ဖြစ်လာရန်လည်း မိမိတို့ဘက်မှ အထူးကြိုးစား အပင်ပန်းခံ၍ ဆောင်ရွက်ခဲ့ရပေသည်။ ယခုတော့ မိမိတို့၏ အောင်မြင်မှုသည် အံ့သြဖွယ်ရာပင် ကောင်းနေတော့သည်။

ဗီရာအမည်ရှိ အမျိုးသမီးအား အမေရိကန် သမ္မတကတော် ဘီလီနှင့် တထေရာတည်းတူအောင် လေ့ကျင့်ဖန်တီးပေးခဲ့ရာတွင် အရေးပါဆုံး လူတယောက်ကတော့ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်၏ လက်ထောက်ဖြစ်သော အရာရှိတဦးမှာ ရာဇင် ဆိုသူပင်ဖြစ်သည်။ ယခု မိမိတို့၏ အထူးလျှို့ဝှက် စီမံချက်တွင် ရာဇင်သည် အလွန်အရေးပါသော အခန်းကဏ္ဍမှ ပါဝင်ခဲ့ပေသည်။

ထို့ကြောင့် ရာဇဝင်အား ချီးကျူးရမည်ဖြစ်ပေသည်။

သို့ဖြစ်လင့်ကစား ဤလျှို့ဝှက်အကြံအစည်ကို စိတ်ကူးရခဲ့သူ (တနည်းအားဖြင့်) တီထွင်ဉာဏ် ပေါ်ပေါက်ခဲ့သူကား မိမိပီထရော့ဗ်ပင် ဖြစ်လေသည်။ မိမိက အကြံရ၍သာ အမေရိကန် သမ္မတကတော်နှင့် အလားတူ ဒုတိယအမျိုးသမီး (စက္ကင်းလေဒီ) သည် ဖြစ်လာရလေသည်။

ဤအကြံအစည်ကို အောင်မြင်စွာ အကောင်အထည် ဖော်ပြီးသွားပါက မျက်မှောက်ခေတ် နိုင်ငံတကာ သူလျှိုလုပ်ငန်းသမိုင်းတွင် မရှိစဖူး မကြုံစဖူး ထူးကဲလှစွာသော သူလျှိုထောက်လှမ်းရေး လုပ်ငန်းကြီးတခု ဖြစ်ပေမည်။

သို့သော် ဤကိစ္စကို မည်သူမှ လူသိခံ၍ မဖြစ်သောကြောင့် မိမိတို့၏ စွန့်စွန့်စားစား သတ္တိရှိစွာ ပြုလုပ်သည့် လျှို့ဝှက်စီမံချက်အကြောင်းကို ကမ္ဘာ့သမိုင်းဆရာများက မှတ်တမ်းတင် ရေးသားနိုင် ကြမည် မဟုတ်ချေ။

တဖန် ရှုထောင့်အမျိုးမျိုးမှ လှည့်စဉ်းစားကြည့်ပြန်သောအခါ မိမိတို့၏လျှို့ဝှက်အကြံသည် စုံထောက်ဝတ္ထုရေးဆရာများ ရံဖန်ရံခါ ရေးလေ့ရှိသော မည်သို့မျှ မမိနိုင်သော ရာဇဝတ်ပြစ်မှု တခုနှင့်လည်း တူနေပေသည်။ သက်ဆိုင်ရာတို့က ဘယ်လိုမှ စုံစမ်းထောက်လှမ်း၍ မရနိုင်အောင် ပိပိရိရိ ပြစ်မှုကျူးလွန်ခြင်း တမျိုးနှင့် တူနေပေသည်။

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ဤသို့ စဉ်းစားသုံးသပ်ရင်း သူ့ကိုယ်ကို ကျေနပ်အားရ မိလေသည်။

ယခု မိမိတို့ အကောင်အထည် ဖော်လာခဲ့သော လျှို့ဝှက်စီမံချက်အကြောင်း သိသူဆို၍ အလွန် နည်းပါးလှပေသည်။ မိမိ (ပီထရော့ဗ်) အပြင် စီမံချက်တွင် တကယ်ပါဝင်သူ အချို့သာ သိသည်။ ထို့နောက် ဆိုဗီယက်ဝန်ကြီးချုပ်နှင့် ပေါလစ်ဗျူရိုအဖွဲ့ဝင်အချို့သိကြသည်။ မိမိတို့ ထောက်လှမ်းရေး (ကေဂျီ-ဘီ) အဖွဲ့မှ အရာရှိလူများစုပင်လျှင် မသိကြချေ။

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ဝန်ကြီးချုပ်အား မိမိတို့၏ နောက်ဆုံး ဝတ်စုံပြည့် လေ့ကျင့်ခန်း အောင်မြင်စွာ ပြုလုပ်ခဲ့ပုံကို မွန်းလွဲပိုင်းက အစီရင်ခံခဲ့ရာ ဝန်ကြီးချုပ်က စိတ်ဝင်စားပုံရပေသည်။ တကယ်တမ်း လက်တွေ့အကောင်အထည်ဖော်ရန် အမိန့်ကို ဝန်ကြီးချုပ်တဦးကသာ ပေးပိုင်ခွင့်ရှိရာ ဝန်ကြီးချုပ်က စိတ်ပါဝင်စားမှုရှိရန် အလွန်အရေးကြီး ပေသည်။

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် စောစောပိုင်းက သူ၏ လျှို့ဝှက် အကြံအစည်ကို ဝန်ကြီးချုပ်အား စတင်အသိပေးစဉ်က အတော် ခဲခဲယဉ်းယဉ်း

ပြောဆိုတင်ပြခဲ့ရသည်။ ထိုအချိန်က ဝန်ကြီးချုပ်သည် ပီထရော့ဗ်၏အကြံကို ဝတ်ကျေတမ်းကျေသဘောသာ လက်ခံနားထောင်ပြီး နေခဲ့သည်။ စိတ်ပါဝင်စားမှု သိသိသာသာ မရှိခဲ့ချေ။ ထို့ကြောင့် ပီထရော့ဗ်သည် ဝန်ကြီးချုပ် စိတ်ဝင်စားအောင် အထူးကြိုးစားခဲ့ရလေသည်။ အမှန်အားဖြင့် သူ၏အကြံသည် အလွန် အန္တရာယ်များသဖြင့် အကောင်အထည် ဖော်ရန် ဆုံးဖြတ်ချက်ကို လေးနက်စွာ စဉ်းစားချိန်ဆပြီးမှသာ ဆုံးဖြတ်ရမည့် ကိစ္စမျိုး ဖြစ်ပေသည်။

ကမ္ဘာ့သမိုင်းတွင် မရှိစဖူး ထူးခြားလှသလောက် အလွန်ရဲတင်းစွာ စွန့်စားလုပ်ရမည့် အကြံမျိုးဖြစ်၍ လောင်းကစားနည်းကြီးတခုဟုလည်း ဆိုနိုင်ပေသည်။ စတင် အကောင်အထည် ဖော်လိုက်မိပြီ ဆိုလျှင်ကား မည်သို့မှ နောက်ပြန်ဆုတ်၍ ရတော့မည် မဟုတ်သော စွန့်စားမှုမျိုး ဖြစ်ပေသည်။

စတင် အကောင်အထည်ဖော်ပြီဆိုလျှင် မအောင်မြင်စရာအကြောင်း လုံးဝမရှိဟုလည်း ပီထရော့ဗ်က ယုံကြည်လေသည်။ ဤအကြံ အောင်မြင်သွားလျှင်ကား မိမိအဖို့လည်း ထူးခြားသော အောင်မြင်မှုများ ရရှိနိုင်ပေသည်။ ဆိုဗီယက်ယူနီယံတွင် အမြင့်ဆုံး ဘွဲ့ထူးဂုဏ်ထူးများ ဖြစ်သော လီနင်တံဆိပ်၊ ဆိုဗီယက်သူရဲကောင်း ဘွဲ့တံဆိပ်များဖြင့် မိမိအား ပေါ်လစ်ဗျူရို အာဏာပိုင်အဖွဲ့က ဂုဏ်ပြုချီးမြှင့်လိမ့်မည်မှာ သေချာသည်ဟု ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က တထစ်ချ တွက်မိပေသည်။

ဤသို့ ဆင်ခြင်သုံးသပ်ရင်း သူ့ကိုယ်သူ ကျေနပ်ပီတိဖြစ်နေသော ပီထရော့ဗ်သည် မိမိ၏ လျှို့ဝှက်အကြံ စတင်ဖြစ်ပေါ်ခဲ့ပုံကိုပါ ပြန်လည် စဉ်းစားမိလေသည်။ ကြိုတင် ကြံစည်ထားခြင်း မရှိဘဲ ရုတ်တရက် အကြံ ဖြစ်ပေါ်လာခဲ့သည်ကား လွန်ခဲ့သော သုံးနှစ်တာကာလ အတိတ်က ဖြစ်ပေ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် အဖွဲ့ဝင်များ လိုက်ပါလျက် ဆိုဗီယက်ယူနီယံအတွင်းရှိ မြို့ကြီး အသီးသီး ခရီးလှည့်လည် လေ့လာသည့်အချိန်က ဖြစ်လေသည်။ ရည်ရွယ်ချက်ကား မြို့အသီးသီးရှိ မိမိတို့ ကေ-ဂျီ-ဘီ ထောက်လှမ်းရေး အဖွဲ့ခွဲများကို စစ်ဆေးကြည့်ရှုရင်း ပိုမိုတိုးတက်အောင် မြင်အောင် ကြီးကြပ်ညွှန်ကြားရန်ပင် ဖြစ်လေသည်။

ယင်းသို့ ခရီးလှည့်လည်သွားရင်း သူတို့အဖွဲ့သည် မော်စကိုမြို့၏ တောင်ဘက် ကိဗ်မြို့သို့ ရောက်သွားသည့်နေ့တွင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် အထူးပင် ပင်ပန်းနွမ်းနယ်နေလေသည်။ တနေကုန် ပင်ပန်းသဖြင့် ညဘက်တွင် လုံးဝ အနားယူရန် စိတ်ကူးထားသော်လည်း ဒေသခံ ကေ- ဂျီ-ဘီ ထောက်လှမ်းရေးအဖွဲ့ တာဝန်ခံက ဧည့်သည်တော်အဖွဲ့အား ထိုနေ့ညတွင် ပြဇာတ်တခု ကြည့်ရှုရန် စီစဉ်ထားပြီးဖြစ်ကြောင်း သိရသဖြင့် ရုတ်တရက် စိတ်ပျက်သွားမိလေသည်။ ပြဇာတ်က နာမည်ကျော် ဆိုဗီယက်အနုပညာရှင်

ချက်ကော့ဗ်၏ ပြဇာတ်တခု ဖြစ်သည်ဟုလည်း သိရလေသည်။

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ပြဇာတ်ကို မကြည့်ချင်သော်လည်း မြို့ခံ ကေ-ဂျီ-ဘီ တာဝန်ခံက အစီအစဉ် လုပ်ပြီးနေပြီဖြစ်၍ အားနာနာနှင့်ပင် လိုက်သွားလေသည်။ ပြဇာတ်ရုံသို့ရောက်၍ အတွင်းသို့မဝင်မီ ဇာတ်ခုံနောက်သို့ ဝင်သည့်အပေါက်နား၌ လူသူပရိသတ် ကြိတ်ကြိတ်တိုးနေသည်ကို သတိပြုမိသဖြင့် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ဘာကြောင့်များပါလိမ့်ဟု သိလိုသဖြင့် ကိုယ်ရံတော် (ဘော်ဒီဂတ်) တဦးနှင့်အတူ လူအုပ်ရှိရာသို့ ချဉ်းကပ်သွားကြည့်လေသည်။

သည်တော့မှ ပရိသတ်တိုးဝှေ့နေခြင်းအကြောင်းကို သိရလေတော့သည်။

ဇာတ်ခုံဝင်ပေါက်အနီးတွင် အလွန်လှပ ကြော့ရှင်းသော အမျိုးသမီးသည် ပရိသတ်ကို ပြုံးရွှင်စွာ နှုတ်ဆက်ရင်း အော်တိုမှတ်တမ်းစာအုပ်များ လက်မှတ်ရေးထိုးလျက်ရှိသည်ကို တွေ့ရလေသည်။

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ထိုအမျိုးသမီးကို မြင်ဖူးသလို ရှိသည်ဟု စိတ်ထဲမှ ထင်မိလေသည်။ အလွန်ထင်ရှား ကျော်ကြားသော အမေရိကန် အမျိုးသမီးတဦး ဆိုဗီယက်ယူနီယံသို့ လာရောက် လည်ပတ်ရင်း သူမကို သိနေသူများက အော်တိုလက်မှတ် ရေးထိုးခိုင်းနေသည်ဟုလည်း ထင်မိသည်။ အမေရိကန် အမျိုးသမီး မည်သူမည်ဝါဟူ၍ကား သူသည် ရုတ်တရက် စဉ်းစား၍မရချေ။ အင်္ဂါရုပ်က ဆိုဗီယက် ရုရှလူမျိုးနှင့် မတူဘဲ နိုင်ငံခြားသူ ရုပ်မျိုးဖြစ်ကြောင်းကတော့ ထင်ရှားပေသည်။

ခဏမျှကြာသောအခါ သူသည် မြို့ခံ ကေဂျီ-ဘီ အဖွဲ့ဝင်များနှင့် လိုက်သွားလေသည်။ ထိုအချိန်၌ သူသည် ပြဇာတ်ခုံနား၌ မြင်ခဲ့ရသော နိုင်ငံခြားသူ အမျိုးသမီးကိုလည်း မေ့သွားလေသည်။

ပြဇာတ်ရုံထဲ ထိုင်မိသောအခါ ပီထရော့ဗ်သည် ကြည့်ချင်စိတ် မရှိသဖြင့် ထိုင်ခုံတွင် ထိုင်ရင်း မသိမသာ အိပ်နေလိုက်မည် စိတ်ကူးထားလေသည်။ သို့သော် သူအိပ်မပျော်မီ ဇာတ်ခုံပေါ်၌ ထွက်လာသော မင်းသမီးကို မြင်လျှင် အံ့ဩသွားမိလေသည်။ မင်းသမီးမှာ စောစောက ဇာတ်ခုံ အပြင်ဘက်တွင် အော်တိုလက်မှတ်ရေးထိုးနေသူ (အမေရိကန် အမျိုးသမီးတဦးဟု မိမိထင်မှတ်ခဲ့သူ) ဖြစ်နေလေသည်။

သူမသည် နာမည်ကျော် ချက်ကော့ဗ်၏ ပြဇာတ်၌ မင်းသမီးအဖြစ် သရုပ်ဆောင် ကပြနေလေသည်။

သည်တော့မှပင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် စောစောက

အမေရိကန်အမျိုးသမီးတဦးဟု မိမိထင်ခဲ့မိသူမှာ စင်စစ်အားဖြင့် ဆိုဗီယက် ပြဇာတ်မင်းသမီးတဦး ဖြစ်နေကြောင်း သိရလေတော့သည်။

ဤတွင် သူသည် အိပ်ငိုက်ချင်စိတ် ပျောက်သွားလောက်အောင် စိတ်ဝင်စားလာမိသဖြင့် ထိုင်ခုံတွင် ချထားသော ပြဇာတ်ကြော်ငြာစာရွက်ကို ယူပြီး ကြည့်မိလေသည်။

ဇာတ်ခုံပေါ်၌ သရုပ်ဆောင် ကပြနေသူ မင်းသမီး၏နာမည်ကား ဗီရာဗာဗီလိုဗာ ဖြစ်ကြောင်း သိရပေပြီ။

ဗိုလ်ချုပ်ကြီးသည် ဇာတ်ခုံပေါ်မှ မင်းသမီး၏မျက်နှာကို သေချာစွာ လေ့လာကြည့်လေသည်။ ဤတွင် ဘာကြောင့် သူမကို အမေရိကန် အမျိုးသမီးဟု ရုတ်တရက် ထင်မိခဲ့ကြောင်း အဖြေကို စဉ်းစားမိလေသည်။ အကြောင်းကတော့ သူမသည် သတင်းစာ၊ ဂျာနယ်မဂ္ဂဇင်းများတွင် မကြာခဏ ဖော်ပြပါရှိနေသော နာမည်ကြီး အမေရိကန်အမျိုးသမီးတဦးနှင့် အလွန်တူနေသောကြောင့်ပင် ဖြစ်လေသည်။

ထိုအမျိုးသမီးသည် အခြားမဟုတ်၊ အမေရိကန်သမ္မတ ရွေးကောက်ပွဲတွင် ယှဉ်ပြိုင်အရွေးခံရန် ကြိုးစားနေပြီး အနိုင်ရရန် သေချာသလောက် ဖြစ်နေသူ သမ္မတ အင်ဒရူးဘရက်ဖို့ဒ်၏ ဇနီးပင် ဖြစ်ပေသည်။ သူမ၏နာမည်က ဘီလီဟုခေါ်ကြောင်းကိုလည်း ဂျာနယ်မဂ္ဂဇင်းများ၌ ဖော်ပြပါရှိနေပြီ ဖြစ်လေသည်။

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ဤသို့ စဉ်းစားမိရင်း ဇာတ်ခုံပေါ်မှ ပြဇာတ်မင်းသမီး ဗီရာကို သေချာစွာ ကြည့်လိုက်ပြန်လေသည်။ ဆံပင် အလု ပြုပြင်ထားပုံကလွဲလျှင် ပြဇာတ်မင်းသမီး ဗီရာသည် အမေရိကန် သမ္မတလောင်း၏ဇနီး ဘီလီနှင့် အင်္ဂါရုပ်ချင်း အံ့သြဖွယ် ကောင်းလောက်အောင် တူနေကြောင်း သတိပြုမိလေသည်။

(မှတ်ချက်။ ။ လွန်ခဲ့သောသုံးနှစ်က အဖြစ်အပျက်ဖြစ်၍ ထိုစဉ်က အမေရိကန်သမ္မတ ရွေးကောက်ပွဲ မပြုလုပ်ရသေးချေ။)

ထိုသို့ လူချင်း ရွေးမရအောင် ချွတ်စွပ်တူနေပုံမျိုးကို ယခင်က တကြိမ်တခါမှ မမြင်ဖူးသဖြင့် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် အံ့အားသင့်နေမိခြင်း ဖြစ်လေသည်။ ယခု မိမိမျက်စိရှေ့မှောက်မှ ပြဇာတ်မင်းသမီး ဗီရာသည် အမေရိကန်သမ္မတကတော် ဘီလီနှင့် အမွှာပူး ညီအစ်မဟု ဆိုရလောက်အောင်ပင် တူနေပေသည်။

ဤသို့လျှင် စဉ်းစားနေရင်းနှင့် သူသည် အိပ်ချင်စိတ် လုံးဝပျောက်သွားကာ

ပြဇာတ်ကို အစအဆုံး ထိုင်ကြည့်နေမိလေသည်။ ပွဲပြီးသွားသောအခါ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ပြဇာတ်ခုံနောက်သို့ သွား၍ ပြဇာတ်မင်းသမီး ဗီရာအား ချီးကျူးနှုတ်ဆက်ခြင်းကြောင်း ပြောလိုက်ရာ ပြဇာတ်အဖွဲ့ ဒါရိုက်တာကိုယ်တိုင်က ဝမ်းသာအားရစွာဖြင့် ပီထရော့ဗ်နှင့်ကိုယ်ရံတော်တဦးအား ဇာတ်ခုံနောက်သို့ ခေါ်သွားလေသည်။

အဝတ်လဲခန်းသို့ရောက်လျှင် မင်းသမီး ဗီရာက မိတ်ကပ်များ ဖျက်နေခိုက်နှင့် ကြုံသဖြင့် ပြဇာတ် ဒါရိုက်တာကိုယ်တိုင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်နှင့် မိတ်ဆက်ပေးလေသည်။

အနီးကပ်မြင်ရသောအခါ သူမသည် အမေရိကန်သမ္မတလောင်းကတော် ဘီလီနှင့် ရွေးမနေအောင် ရုပ်ချင်းတူနေကြောင်း ပို၍ပင် ထင်ရှားပေါ်လွင်လာလေသည်။

"ဗီရာ့ကို အထူး ချီးကျူး နှုတ်ဆက်ချင်လို့ လာတာပါ၊ မင်းရဲ့သရုပ်ဆောင်မှုကို ကြည့်ရတာ အလွန်ကောင်းပါတယ်"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ပြုံးရွှင်စွာဖြင့် ပြောလိုက်ရာ ပြဇာတ်မင်းသမီး ဗီရာသည် ရိုသေစွာ ဦးညွှတ်လျက်

"ကျေးဇူးတင်ပါတယ်ရှင်၊ အခုလို ချီးကျူးတာကို ကျွန်မအနေနဲ့ အလွန် ဂုဏ်ယူမိပါတယ်" ဟု ပြန်ပြောလေသည်။

"ဒါထက် စကားမစပ် မေးရဦးမယ်၊ မင်းက အမေရိကန်နိုင်ငံကို ရောက်ဖူးသလား"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ဆက်၍ မေးလိုက်သည်။

"အမေရိကန်ကို ကျွန်မ တခါမှ မရောက်ဖူးပါဘူးရှင့်"

"ဟုတ်လား၊ ဒါဖြင့် အမေရိကန်နိုင်ငံမှာ မင်းရဲ့ဆွေမျိုးသားချင်း တယောက်ယောက်များ ရှိသလားကွယ့်"

"ဆွေမျိုးလည်း မရှိပါဘူး၊ ကျွန်မ ယူကရိမ်းပြည်နယ် ဇာတိပါ။ ယူကရိမ်းမှာပဲ ကြီးပြင်းလာခဲ့ပါတယ်၊ ကျွန်မရဲ့မိဘများကတော့ ကိပ်မြို့ရဲ့ ဆယ့်လေးမိုင်လောက် ဝေးတဲ့ ကျေးရွာတရွာက ဖြစ်ပါတယ်။ ကျွန်မတို့မိသားစုထဲက ခရီးသွားလာဖူးတဲ့လူဆိုလို့ ကျွန်မတယောက်တည်းပဲ ရှိပါတယ်၊ ဒါဟာလည်း ဆိုဗီယက်နိုင်ငံတွင်းမှာသာ ဖြစ်ပါတယ်။ နိုင်ငံခြားကို မသွားဖူးပါဘူး"

"မင်း အင်္ဂလိပ်စကား ပြောတတ်သလား"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က မေးလိုက်သည်။ ယခုအချိန်အထိ သူတို့သည် ရုရှဘာသာဖြင့် ပြောနေကြခြင်း ဖြစ်ရာ ဗီရာက ထိုမေးခွန်းကို အင်္ဂလိပ်ဘာသာဖြင့် ရေလည် ကျွမ်းကျင်စွာ ပြန်ဖြေလိုက်လေသည်။

"ဟုတ်ကဲ့ရှင့်၊ ကျွန်မ အင်္ဂလိပ်ဘာသာကို ကောင်းကောင်း တတ်ပါတယ်၊ မော်စကိုမြို့ ပြဇာတ် အနုပညာသင်ကျောင်းမှာ ကျွန်မ လေးနှစ်တက်ခဲ့တုန်းက အင်္ဂလိပ်ဘာသာစကားကို သေသေချာချာ လေ့လာသင်ကြားခဲ့တယ်။ ကျွန်မပြောတဲ့ အင်္ဂလိပ်စကားကလည်း အမေရိကန်လူမျိုးတွေပြောတဲ့ အင်္ဂလိပ်ဘာသာလေသံမျိုး ဖြစ်ပါတယ်။ ကျွန်မကို အင်္ဂလိပ်ဘာသာ သင်ကြားပေးတဲ့ နည်းပြဆရာက အမေရိကန်နိုင်ငံမှာ ကြီးပြင်းလာခဲ့သူ ဖြစ်ပါတယ်"

"ဪ ဟုတ်လား၊ ကောင်းတယ် ကောင်းတယ်"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် အင်္ဂလိပ်စကားကို ကောင်းစွာ မကျွမ်းကျင်ဘဲ ကြိုးစား၍ ပြောလိုက်လေသည်။

နောက်နှစ်နာရီကြာသောအခါ သူသည် ကိမ်မြို့မှ မော်စကိုမြို့သို့ လေယာဉ်ဖြင့် ပြန်လာခဲ့သည်။ လမ်းတလျှောက်လုံး သူ၏စိတ်ထဲတွင် ပြဇာတ်မင်းသမီး ဗီရာနှင့် အမေရိကန်သမ္မတလောင်း၏ဇနီး ဘီလီတို့ ချွတ်စွပ်တူနေခြင်းကို ဖျောက်ဖျက်၍ မရချေ။

ယင်းလေယာဉ်ပေါ်မှာပင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် အလွန်ထူးခြား ဆန်းကြယ်သော လျှို့ဝှက်အကြံအစည်ကို စတင် စိတ်ကူးရမိလေသည်။

မော်စကိုမြို့သို့ ပြန်ရောက်၍ သူ၏ရုံးခန်းနှင့် ကပ်လျက် သီးသန့်အခန်းတွင် အဝတ်အစားလဲရင်း ထိုအကြောင်းကိုပင် ဆက်လက် စဉ်းစားနေမိလေသည်။

သို့ရာတွင် သူ၏လျှို့ဝှက်အကြံအစည်ကို လက်တွေ့လုပ်ရန်မှာ ကြိုတင်မသိနိုင်သောအချက် တခုပေါ် တည်နေပေသည်။ ယင်းအချက်ကား နောက်ထပ် နှစ်လအကြာ (နိုဝင်ဘာလ) တွင် ကျင်းပပြုလုပ်မည့် အမေရိကန်သမ္မတ ရွေးကောက်ပွဲပင် ဖြစ်သည်။

အကယ်၍ သမ္မတရွေးကောက်ပွဲတွင် ဘီလီအမည်ရှိ အမျိုးသမီး၏ ခင်ပွန်း အင်ဒရူးဘရက်ဖို့ဒ်က အနိုင်မရဘဲ အရေးနိမ့်သွားပါမူ မိမိတို့၏ လျှို့ဝှက် အကြံအစည်နှင့် ပတ်သက်၍ ဘာမှဆက်လုပ်ရန် လိုတော့မည် မဟုတ်ချေ။ သို့သော် အင်ဒရူးဘရက်ဖို့ဒ်က ရွေးကောက်ပွဲတွင် အနိုင်ရပြီး သမ္မတ ဖြစ်လာပါက သူ၏ဇနီး ဘီလီသည် အမေရိကန်သမ္မတကတော် သို့မဟုတ် ဖတ်စ်လေဒီ (ပထမအမျိုးသမီး)

ဖြစ်လာပေမည်။ ထိုအခါ မိမိတို့၏ သမ္မတကတော်ဘီလီနှင့် ရွေးမရအောင် ရုပ်ချင်းတူနေသူ ပြဇာတ်မင်းသမီး ဗီရာအား တွေ့ရှိထားခြင်းသည် အလွန်ပင် အဖိုးတန်မည် မဟုတ်ပါလား။

ဤသို့ ဆင်ခြင်သုံးသပ်ပြီးချိန်မှစ၍ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် အမေရိကန်နိုင်ငံ သမ္မတ ရွေးကောက်ပွဲနှင့် ပတ်သက်သည့် သတင်းများကို နေ့စဉ်နှင့်အမျှ အထူး စိတ်ပါဝင်စားစွာ သတိထား လေ့လာခဲ့လေသည်။

ကေ-ဂျီ-ဘီ (ထောက်လှမ်းရေး) အဖွဲ့၏ အကြီးအကဲ ဥက္ကဋ္ဌအဖြစ် သူသည် အလွန် အလုပ် များပြားလှသည်ဖြစ်၍ သူ၏အလုပ်တွင် အကူအညီရစေရန် လက်ထောက်အရာရှိတဦးဖြစ်သူ ရာဇင်အား အထူးတာဝန်ဖြင့် သူ၏ ရုံးအဖွဲ့သို့ ခေါ်ယူထားလိုက်လေသည်။

ရာဇင်သည် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်၏လုပ်ငန်းအတွက် များစွာ အထောက်အကူပြုမည့် အရည်အချင်းများနှင့်လည်း ပြည့်စုံနေပေသည်။

သူသည် အမေရိကန်နိုင်ငံ၌ မွေးဖွားခဲ့ပြီး ထိုနိုင်ငံမှာပင် စောစောပိုင်းက ပညာသင်ကြားခဲ့ရသူဖြစ်သည်။ နောက်ပိုင်းကျမှ ဆိုဗီယက်ယူနီယံတွင် ထောက်လှမ်းရေး လုပ်ငန်းအတွက် လေ့ကျင့် သင်ကြားခဲ့ရသည်။ ထို့ကြောင့် ရာဇင်သည် ကေ-ဂျီ-ဘီ (ထောက်လှမ်းရေး) အဖွဲ့တွင် အမေရိကန် အကြောင်း အထူးကျွမ်းကျင်သူ ပါရဂူတဦး ဖြစ်နေပေသည်။ အမေရိကန်နိုင်ငံ၏ သမိုင်းအစ၊ လူနေမှုစနစ်အကြောင်း၊ နိုင်ငံရေးအကြောင်းနှင့် အမေရိကန်လူမျိုးတို့ တွေးခေါ်ပုံပါမကျန် သူသည် ကောင်းစွာ နားလည်ကျွမ်းကျင်သူလည်း ဖြစ်သည်။

ရာဇင်သည် အသက် သုံးဆယ့်ခြောက်နှစ်ရွယ် ရုပ်ရည်ခန့်ညား ချောမွေ့သူတဦးလည်း ဖြစ်သည်။ ကေ-ဂျီ-ဘီ (ထောက်လှမ်းရေး) အဖွဲ့ ဝန်ထမ်းအဖြစ် ၁၂ နှစ်ကျော်ကျော် သစ္စာရှိစွာဖြင့် ကြိုးစား အမှုထမ်းခဲ့၍ အထက်လူကြီးများက သူ့အပေါ် အလွန်သဘောကျခဲ့ပေသည်။

ရာဇင်သည် သူ့အား အဖွဲ့ဥက္ကဋ္ဌကြီး ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က အထူးတာဝန်အဖြစ် ခေါ်ယူခိုင်း နေခြင်းကို အလွန်ပျော်ရွှင်နေမိသည်။ သူ၏တာဝန်ဝတ္တရားမှာ အကြိတ်အနယ် ကျင်းပလာခဲ့သော အမေရိကန်သမ္မတ ရွေးကောက်ပွဲနှင့် ပတ်သက်သည့် ရနိုင်သမျှ သတင်း အချက်အလက်များကို ရယူစုဆောင်းပြီး မိမိ၏ထင်မြင်ချက် ဝေဖန်သုံးသပ်ချက်များ ရေးသားပြုစုကာ ဗိုလ်ချုပ်ကြီးထံ တင်ပြရခြင်း ဖြစ်လေသည်။

အဆိုပါ သတင်းမှတ်ချက်ကို စာရွက်တရွက်တွင် ရေးသား၍ နေ့စဉ် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်၏ စားပွဲပေါ်တွင် တင်ပေးရလေသည်။

ရာဇင်သည် ယုံကြည်စိတ်ချရသော လူတယောက်ဖြစ်မှန်း သိသော်လည်း ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က သူ၏ လျှို့ဝှက်အကြံအစည်အကြောင်းကို ဖွင့်မပြောဘဲ ထားလေသည်။ အမေရိကန်သမ္မတ ရွေးကောက်ပွဲကို စိတ်ဝင်စားသဖြင့် သတင်း အချက်အလက်များ စုဆောင်း တင်ပြရန်သာ တာဝန် ပေးထားလေသည်။

တနေ့တွင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ရာဇင်အား သူ၏ရုံးခန်းသို့ခေါ်၍ အမေရိကန်သမ္မတ ရွေးကောက်ပွဲအကြောင်း စကားစပ်လေသည်။

ရွေးကောက်ပွဲမှာ အမေရိကန် ဒီမိုကရက်ပါတီမှ သမ္မတလောင်း ဘရက်ဖို့ဒ်နှင့် ရီပတ်ဗလီကင်ပါတီမှ သမ္မတလောင်း တဦးတို့ အကြိတ်အနယ် ယှဉ်ပြိုင်ကြရမည့်ပွဲ ဖြစ်နေပေသည်။ ထိုအကြောင်း ဆွေးနွေးရင်း ဆိုဗီယက် ပေါ်လစ်ဗြူရိုအဖွဲ့ သဘောထားမှာ သမ္မတလောင်း အင်ဒရူးဘရက်ဖို့ဒ် အနိုင်ရစေလိုကြောင်း ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ရာဇင် သိအောင် ထုတ်ဖော်ပြောလိုက်သည်။ ထို့ပြင် မိမိတို့လိုလားသော သမ္မတလောင်း အင်ဒရူးဘရက်ဖို့ဒ် အနိုင်ရရေးအတွက် ဆိုဗီယက်ယူနီယံ အနေဖြင့် ဘာလုပ်လျှင် ကောင်းမည်နည်းဟုလည်း ပီထရော့ဗ်က သူ့ဟာသူ စဉ်းစားသလိုနှင့် ရာဇင်အား ပြောလိုက်သည်။

အမေရိန်သမ္မတ ရွေးကောက်ပွဲတွင် မိမိတို့ ကေ-ဂျီ-ဘီ (ထောက်လှမ်းရေး) က တနေရာရာမှ ဝင်ရောက် စွက်ဖက်ပြီး ကြံစည်ရလျှင် ကောင်းမည်လော။

ထိုအခါ ရာဇင်က ယင်းသို့ ဝင်ရောက် စွက်ဖက်လျှင် အန္တရာယ်ရှိသဖြင့် မပြုလုပ်သင့်ကြောင်း အကြံပေး တင်ပြလေသည်။ သူ၏ တင်ပြချက်ကိုလည်း အမေရိကန်လူမျိုးတို့၏ တွေးခေါ်ပုံများကို အထောက်အထားအဖြစ် ကိုးကား တင်ပြလေရာ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်ကလည်း လက်ခံလိုက်လေသည်။

သို့နှင့်ပင် အချိန်တွေ တဖြည်းဖြည်း ကုန်၍ အမေရိကန်သမ္မတ ရွေးကောက်ပွဲ ကျင်းပမည့်အချိန်သို့ ရောက်ခဲ့လေသည်။

ထိုရွေးကောက်ပွဲ၌ သမ္မတလောင်း အင်ဒရူးဘရက်ဖို့ဒ်ပင်လျှင် အပြတ်အသတ်ဖြင့် အနိုင်ရသွား ကြောင်း ကြေးနန်းသတင်းများ ရောက်ရှိလာသောအခါ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် အလွန်ပင် ဝမ်းမြောက် ကျေနပ်သွားမိလေသည်။

လာမည့် ဇန်နဝါရီလဆိုလျှင် အင်ဒရူးဘရက်ဖို့ဒ်သည် အမေရိကန်နိုင်ငံ၏ သမ္မတအသစ်အဖြစ် ဝါရှင်တန်မြို့ရှိ သမ္မတ အိမ်ဖြူတော်သို့ သွားရောက်၍ တရားဝင် နေထိုင်ရပေတော့မည်။ ထိုအခါ သူ၏ဇနီးချော ဘီလီသည်လည်း သမ္မတကတော်အဖြစ် ဖတ်စ်လေဒီခေါ် ပထမ အမျိုးသမီး ဖြစ်လာပေတော့မည်။

ယင်းအခြေအနေတွင် ဆိုဗီယက်ယူနီယံအတွင်း၌ အမေရိကန်သမ္မတကတော် ဘီလီနှင့် ရုပ်ချင်း ချွတ်စွပ်တူသော အမျိုးသမီးတဦးက အဆင်သင့်ရှိနေပေသည်။ အလွန် အံ့ဩဖွယ် ကောင်းလှပါသည် တကား။

ထို့ကြောင့် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် သူ၏ လျှို့ဝှက်အကြံအစည်မှတဆင့် ကမ္ဘာ့သမိုင်းတွင် မရှိဖူးသေးသော သူလျှိုထောက်လှမ်းရေး လုပ်ငန်းကြီးတခုကို ရဲတင်းစွာ အကောင်အထည် ဖော်ရန်အတွက် စတင် အကွက်ချ စဉ်းစားလေတော့သည်။

သူ၏ အကြံအစည်ကား အဓိကအားဖြင့် အမေရိကန် သမ္မတကတော် ဘီလီ၏နေရာတွင် မိမိတို့၏လူ ဗီရာအား လူစားထိုး၍ နေရာဝင်ယူလိုက်ရန်ပင် ဖြစ်သည်။ ထိုအခါ မိမိတို့၏ ထောက်လှမ်းရေး သူလျှို (အေးဂျင်း) တဦးသည် အမေရိကန်သမ္မတအိမ်တော်အတွင်း၌ တရားဝင် ရောက်ရှိနေမည် မဟုတ်ပါလော။ ဤနည်းအားဖြင့် အမေရိကန်သမ္မတ၏ ထိပ်တန်း လျှို့ဝှက်ချက် သတင်း အချက်အလက်များကို မိမိတို့က ရယူနိုင်မည် ဖြစ်ပေသည်။

အကယ်၍ နိုင်ငံရေးပြဿနာနှင့် ပတ်သက်ပြီး အမေရိကန်နှင့် ဆိုဗီယက် ယူနီယံတို့သည် ထိပ်တိုက် လိပ်ခဲတည်းလည်း ရင်ဆိုင်ရသည် ရှိသော် အမေရိကန်သမ္မတ အိမ်တော်အတွင်း၌ မိမိတို့လူ တယောက် ရှိနေခြင်းအားဖြင့် မိမိတို့ဘက်မှ များစွာ အရေးသာနိုင်မည် ဖြစ်ပေသည်။

သူ၏လျှို့ဝှက်အကြံအစည်၏ ပထမဆုံးလိုအပ်ချက်သည်ကား ကိဗ်မြို့မှ ပြဇာတ်မင်းသမီး ဗီရာ၏ သစ္စာရှိစွာ ပူးပေါင်းပါဝင်ရေးပင် ဖြစ်သည်။

ထို့ကြောင့် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ပြဇာတ်မင်းသမီး ဗီရာအား မော်စကိုမြို့သို့ အမြန် လာရောက်ရန် ဆင့်ခေါ်လိုက်လေသည်။

ဆင့်ခေါ်ခြင်းကလည်း ရိုးရိုးဖိတ်ခေါ်ခြင်း မဟုတ်။ အမိန့်ပေးလိုက်ခြင်း ဖြစ်သဖြင့် ပြဇာတ်မင်းသမီး ဗီရာသည် ချက်ချင်းပင် မော်စကိုမြို့သို့ ရောက်ရှိလာလေသည်။

ကေ-ဂျီ-ဘီ ဌာနချုပ်ကြီး၏ ရုံးခန်းသို့ ဗီရာ ရောက်လာချိန်တွင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က သူ၏ လက်ထောက်အရာရှိ ရာဇင်ကိုပါ ခေါ်ထားလိုက်လေသည်။ အမေရိကန်နိုင်ငံအကြောင်း အထူးကျွမ်းကျင်သူ ပါရဂူအဖြစ် ခေါ်ထားလိုက်ခြင်းပင် ဖြစ်သည်။

ပြဇာတ်မင်းသမီး ဗီရာ ရုံးခန်းတွင်းသို့ ဝင်လာသောအခါ အမေရိကန် သမ္မတကတော်နှင့် တထေရာတည်း ရုပ်ချင်းတူနေသည်ကို ထပ်မံ၍

တွေ့ရပြန်လေသည်။

ဗိုလ်ချုပ်ကြီးပီထရော့ဗ်သည် အံ့သြမိသလို ရာဇင်သည်လည်း ဗီရာ၏အင်္ဂါရုပ်ကို ကြည့်ပြီး အကြီးအကျယ် အံ့သြငေးမောနေမိလေသည်။

ရာဇင်သည် အမေရိကန် သမ္မတကတော် ဘီလီ၏ ဓာတ်ပုံပေါင်းများစွာကို တွေ့ဖူးမြင်ဖူးနေ၍ ရုပ်ကိုမှတ်မိနေရာ ယခု ပြဇာတ်မင်းသမီး ဗီရာက သမ္မတကတော်နှင့် ခွဲ၍မရအောင် ရုပ်ချင်း တူနေခြင်းကြောင့် အကြီးအကျယ် အံ့သြနေခြင်း ဖြစ်ပေသည်။

ဤသည်ကိုပင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က အလွန်သဘောကျသွားမိလေသည်။

မိမိ၏စိတ်ကူးယဉ် အကြံအစည်ကို သွယ်ဝိုက်၍ စမ်းသပ်ကြည့်ရာ အောင်မြင်သဖြင့် သဘောကျမိခြင်း ဖြစ်လေသည်။

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ဗီရာ မလာမီက သူ၏အကြံကို ရာဇင်အား ဖွင့်ပြောမည်ဟု စိတ်ကူးလိုက်မိသေးသည်။ သို့သော် အချိန်အခါ မသင့်သေးသဖြင့် မပြောဘဲထားရန် ဆုံးဖြတ်ခဲ့ပေသည်။

ပြဇာတ်မင်းသမီး ဗီရာက ထိုင်လိုက်ချိန်တွင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က မတ်တတ်ထလိုက်သည်။

"ဒီမယ် ဗီရာကို မော်စကိုမြို့က လှိုက်လှဲစွာ ကြိုဆိုပါတယ်။ ကိဗ်မြို့တုန်းက လူချင်းဆုံခဲ့တာကို မှတ်မိပါသလား"

"ဟုတ်ကဲ့ ကျွန်မအနေနဲ့ မေ့နိုင်စရာမရှိပါဘူး"

ဗီရာက ယဉ်ကျေးစွာ ပြောလိုက်သည်။

"ဟော ဒါက ကျုပ်ရဲ့ လက်ထောက် မစ္စတာ ရာဇင် ဖြစ်ပါတယ်"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က မိတ်ဆက်ပေးရာ ဗီရာနှင့် ရာဇင်တို့သည် ထုံးစံအတိုင်း နှုတ်ဆက်ကြလေ သည်။

ထို့နောက် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ဆက်ပြောလေသည်။

"ကျုပ်က လိုရင်းကို တိုက်ရိုက်ပဲ ပြောပါမယ်၊ ဗီရာအနေနဲ့ ဘီလီ ဘရက်ဖို့ဒ်ဆိုတဲ့ အမျိုးသမီးတဦး အကြောင်း ကြားဖူးလား"

"ကျွန်မ လုံးဝ မကြားဖူးပါဘူးရှင့်"

"ဒါဖြင့် ရှေ့လျှောက် အဲဒီအမျိုးသမီးအကြောင်း အများကြီး ကြားရလိမ့်မယ်၊ သူဟာ အလွန် အရေးပါတဲ့ အမေရိကန် အမျိုးသမီးတဦး ဖြစ်တယ်။ ဘာကြောင့်လဲဆိုတော့ သူဟာ အမေရိကန် သမ္မတသစ်အဖြစ် ရွေးချယ်ခံရတဲ့ မစ္စတာ ဘရက်ဖို့ဒ်ရဲ့ဇနီးဖြစ်လို့ပဲ။ မကြာခင် သူတို့ဇနီးမောင်နှံ ဝါရှင်တန်မြို့က သမ္မတအိမ်တော်ကို ပြောင်းရွှေ့နေတဲ့အခါကျတော့ ဘီလီဟာ အမေရိကန်နိုင်ငံရဲ့ ဖတ်စ်လေဒီလို့ခေါ်တဲ့ ပထမ အမျိုးသမီး ဖြစ်လာလိမ့်မယ်"

ဗီရာသည် ဘာမှနားမလည်ဟန်ဖြင့် တိတ်ဆိတ်နေရာ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်ကပင် ဆက်၍ ပြောလေသည်။

"ကိဗ်မြို့မှာတုန်းက ကျုပ်ဟာ ဇာတ်ရုံနောက်ကို လာပြီး ဗီရာနဲ့ လာတွေ့တာ အကြောင်းရှိတယ်၊ မင်းဟာ အမေရိကန်သမ္မတကတော် ဘီလီနဲ့ အင်္ဂါရုပ်ချင်း အလွန်တူနေတယ်။ ဒါကြောင့်လဲပဲ မင်းကို မော်စကိုမြို့ကိုလာဖို့ ခေါ်လိုက်ရခြင်းဖြစ်တယ်"

ဗီရာက ငြိမ်၍ပင် ဆက်လက်နားထောင်နေလိုက်သည်။

"အဲဒီလို အင်္ဂါရုပ်ချင်း အလွန် တူနေတာဟာ တို့အစိုးရအတွက် အသုံးဝင်လာစရာ အကြောင်းရှိတယ်။ လောလောဆယ် ကျုပ်တို့က အမေရိကန်သမ္မတကတော် ဘီလီအကြောင်း သတင်းရုပ်ရှင် ကားတကား ရိုက်ကူးဖို့ အစီအစဉ်ရှိတယ်။ အဲဒီရုပ်ရှင်ကားမှာ မင်းဟာ သမ္မတကတော် ဘီလီ နေရာမှာ ပါဝင် သရုပ်ဆောင်ရမယ်"

"အလွန် စိတ်ဝင်စားဖို့ ကောင်းပါတယ်ရှင်၊ ကျွန်မအနေနဲ့လဲ သိပ်ပြီး ဂုဏ်ယူမိပါတယ်"

"စိတ်ဝင်စားဖို့ ကောင်းရုံတင်မဟုတ်ဘူး၊ ဒီကိစ္စက အလွန် အရေးကြီးတယ်၊ လောလောဆယ် မင်းအနေနဲ့ လက်ရှိအလုပ်တွေ အားလုံး စွန့်လွှတ် ရပ်စဲပစ်ရလိမ့်မယ်၊ ကျုပ်တို့ ရိုက်ကူးမယ့် ရုပ်ရှင်ကားအတွက် အထူးအာရုံစိုက်ပြီး ပြင်ဆင်လေ့ကျင့်ရမယ်။ ဒါကြောင့် မင်းဟာ မော်စကိုမြို့ကို ချက်ချင်းပဲ ပြောင်းလာပြီး နေရမယ်"

"ဒါပေမဲ့ ကိဗ်မြို့မှာ ကျွန်မ လက်ခံပြီးသား ပြဇာတ်တွေ ဘယ်လိုလုပ်မလဲရှင့်၊ ဒါရိုက်တာလုပ်သူက သဘောတူမှာ မဟုတ်ဘူး"

"ဒါတွေကို မေ့ထားလိုက်စမ်းပါ၊ ကျုပ်တို့က လိုအပ်တာတွေ အားလုံး စီစဉ်ပေးမှာပါ။ နောက်ပြီး မင်းရဲ့သရုပ်ဆောင်ခနှုန်းကိုလည်း ခါတိုင်း ရနေကျနှုန်းထက် လေးဆပိုပြီးပေးမယ်။ မော်စကိုမြို့မှာ ကောင်းကောင်းမွန်မွန်

နေထိုင်ဖို့ နေရာထိုင်ခင်း ကောင်းကောင်းလဲ ရမယ်"

"ဟင် ဟုတ်လား၊ အမေရိကန် သမ္မတကတော် ဘီလီအဖြစ် သရုပ်ဆောင်ရုံနဲ့ ဒီအခွင့်အရေးတွေ အများကြီး ရမှာလား၊ ဒါထက် အဲဒီ ရုပ်ရှင်ကားကို ဘယ်မှာ ပြမှာလဲ"

"ဒါက အရေးမကြီးပါဘူး၊ နောက်ပိုင်းကျတော့ မင်း သိသင့်သိထိုက်တာတွေ တဖြည်းဖြည်း သိရလိမ့်မယ်၊ အခုလောလောဆယ်တော့ မပြောသေးဘူး၊ နောက်တခု အရေးကြီးတာက မင်းမှာ အိမ်ထောင်ရှိသလား။ ဒါမှမဟုတ် ချစ်သူ ရည်းစား ရှိသလား"

"အိမ်ထောင်ရော ချစ်သူရော မရှိပါဘူး ဗိုလ်ချုပ်ကြီးရှင့်"

"အေး ကောင်းတယ်၊ ဒီစီမံချက်ဟာ အထူး လျှို့ဝှက်ချက် အစီအစဉ်တခု ဖြစ်တဲ့အတွက် အခု လတ်တလောလောက်မှာ ဒါနဲ့ပတ်သတ်လို့ လုံးဝဆွေးနွေးပြောဆိုလို့ မဖြစ်ဘူး။ မင်းပါဝင်မယ် ဆိုတာလဲ ဘယ်သူမှ မသိစေရဘူး။ တကယ်လို့ မင်းက တို့ရဲ့စီမံချက်မှာ ပါဝင်ဖို့ သဘောတူမယ် ဆိုရင် မင်းဟာ ချက်ချင်း လူမြင်ကွင်းက ပျောက်သွားအောင် တို့က စီစဉ်ရလိမ့်မယ်။ အဓိပ္ပာယ်က မင်းဘယ်ကိုရောက်သွားမှန်းကို ဘယ်သူမှ မသိအောင် ပျောက်သွားရလိမ့်မယ်။ ဒါကို တို့စီစဉ်မယ်၊ မင်းကိုယ်တိုင်ကလည်း ဒါနဲ့ပတ်သက်လို့ မင်းရဲ့မိသားစုအပါအဝင် မိတ်ဆွေ အပေါင်းအသင်းတွေ ကအစ ဘယ်သူ့ကိုမှ မပြောရဘူး၊ ဒီအတွက် မင်းဘယ်လို အကျိုးရှိမလဲဆိုတော့ မင်းဟာ ဆိုဗီယက် ယူနီယံရဲ့ထိပ်တန်း သရုပ်ဆောင် မင်းသမီးဖြစ်စေရမယ်။ ဘယ့်နှယ့်လဲ ဗီရာ အခုပြောတာ စိတ်ဝင်စားရဲ့လား"

"စိတ်မဝင်စားဘူးဆိုရင်ကော ငြင်းပိုင်ခွင့် ရှိလို့လားရှင့်"

ဗီရာက ပြုံး၍ ပြန်မေးလိုက်သည်။

"ရှိတာပေါ့ကွယ့်"

"ကောင်းပါပြီ၊ ကျွန်မ အလွန်ပဲ စိတ်ဝင်စားပါတယ်၊ ကျွန်မတို့ အစိုးရအတွက် အကျိုးရှိမယ်ဆိုရင် ကျွန်မဟာ ဘာမဆို လုပ်ဖို့ အဆင်သင့်ရှိပါတယ်"

သူမက ဤသို့ ပြောလိုက်သောအခါ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် သဘောကျသွားဟန်ဖြင့် စားပွဲကို လက်ဝါးဖြင့် အားရပါးရ ပုတ်လိုက်လေသည်။

"ဒီလိုမှပေါ့ကွယ့် မင်းဟာ တကယ်တော်တဲ့ မိန်းကလေးတယောက်ပါပဲ၊

ကိုင်း မင်းအခု အပြင်ဘက်က ဧည့်ခန်းမှာ သွားစောင့်နေပေတော့၊ မစ္စတာရာဇင်ကလာပြီး မင်းအတွက် နောက်ထပ် ညွှန်ကြားချက် ပေးပါလိမ့်မယ်"

ဗိုလ်ချုပ်ကြီးက ပြောလိုက်သည်တွင် ဗီရာလည်း ထ၍ အပြင်ဘက်ခန်းသို့ ထွက်သွားလေသည်။

သည့်တော့မှ ပီထရော့ဗ်သည် သူ၏ လက်ထောက်အရာရှိ ရာဇင်အား လှမ်းမေးလေသည်။

"ကိုင်း ရာဇင်၊ မောင်ရင် ဘယ်လိုသဘောရသလဲ"

"ဗီရာကို ပြောတာလား၊ ဘီလီနဲ့ အလွန်တူတာ အမှန်ပါပဲ၊ ဆံပင်ကို နည်းနည်း ပိုရှည်အောင် ထားလိုက်ပြီး နှာခေါင်းကိုတော့ နည်းနည်း တိုအောင် ပြုပြင်ပေးရပါမယ်၊ နောက်ပြီး ပါးက အနာရွတ်ကလေးကိုပါ ပျောက်အောင် လုပ်လိုက်မယ်ဆိုရင် အမေရိကန် သမ္မတကတော် ဘီလီနဲ့ ခွဲလို့ကို ရမှာ မဟုတ်ဘူး"

"ဒါက ထားပါတော့၊ ကျုပ်က သူ့ကို ရုပ်ရှင်ရိုက်မယ် ဘာညာနဲ့ ပြောလိုက်တော့ ဗီရာက ယုံပါ့မလား၊ ယုံမယ်ထင်သလား"

"ဒါတော့ ယုံမယ်ဆိုရင်လဲ ဖြစ်နိုင်ပါတယ်"

"ဒါဖြင့် မောင်ရင်ကတော့ ယုံသလား"

"မယုံပါဘူး၊ ကျွန်တော်က ကေ-ဂျီ-ဘီ အဖွဲ့မှာ အမှုထမ်းနေတာ လုပ်သက် ဝါရင့်နေပြီမို့ အကဲခတ်တတ်နေပါတယ်၊ ရုပ်ရှင်ရိုက်မယ်လို့ ပြောတာကို မဖြစ်နိုင်ဘူးလို့ ယူဆမိပါတယ်"

ရာဇင်က ပွင့်လင်းစွာပင် ပြောလိုက်ရာ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် သဘောကျသွားပြီး အားရပါးရ ရယ်မောလိုက်သည်။ သို့သော်ချက်ချင်း ဣန္ဒြေဆည်လိုက်ပြီး ခပ်တည်တည် ပြောလေသည်။

"ဒီလိုရှိတယ်ကွယ့်၊ ရုပ်ရှင်ကားကိုတော့ ရိုက်ဖြစ်အောင် ရိုက်မယ်၊ ဒါပေမဲ့ အဲဒါက ကျုပ်တို့ရဲ့အဓိက ရည်မှန်းချက်မဟုတ်ဘူး၊ မင်းကသာ ကျုပ်အပေါ် ယုံကြည်ချက် အပြည့်အဝထားပြီး လိုက်လုပ်စမ်းပါ။ မကြာခင် မင်းလည်း တကယ့်အမှန်ကို သိရပါလိမ့်မယ်၊ အလုပ်ကိုတော့ ချက်ချင်း စရလိမ့်မယ်၊ ဒီစီမံချက်ကို မင်းကိုယ်တိုင် ကျုပ်ရဲ့ကွပ်ကဲမှုအောက်မှာ တာဝန်ယူ ဆောင်ရွက်ရမယ်၊ ဒီရုပ်ရှင်ကားရိုက်ဖို့ကို မင်းက တခြားအလုပ်တွေထက် ဦးစားပေး ဆောင်ရွက်ရမယ်၊ ဗီရာကိုလည်း မင်းက ကိဗ်မြို့ကို ပြန်မလွှတ်နဲ့တော့၊

သူအလုပ်လုပ်နေတဲ့ ပြဇာတ်ရုံနဲ့ ဒါရိုက်တာဆီကို အကြောင်း တခုခုပြပြီး သတင်းပို့လိုက်ပါ။ ဗီရာရဲ့ ပစ္စည်းအသုံးအဆောင်တွေကိုသာ တယောက်ယောက်နဲ့ အယူလွှတ်လိုက်၊ လောလောဆယ် ဗီရာနေဖို့ အိမ်ခန်းတခန်းကိုပါ တက္ကသိုလ်ဝင်းနားမှာ စီစဉ်ပေးထားရမယ်၊ သူ အမြဲတမ်းနေဖို့ နေရာကိုတော့ ကျုပ်တို့ မကြာခင်ပြီးအောင် စီစဉ်ပေးပါ့မယ်၊ အရေးကြီးတာက ဒီအချိန်ကစပြီး ဗီရာကို အပြင်လူ ဘယ်သူနဲ့မှ တွေ့ခွင့်မရှိအောင် လုပ်ထားဖို့ ဖြစ်တယ်။ နက်ဖြန်ကျမှ မင်းနဲ့ ကျုပ် ဆုံပြီး သေးစိတ် အစီအစဉ်တွေ ဆွေးနွေးကြမယ်၊ နက်ဖြန်ကစပြီး ဗီရာကို အမေရိကန် သမ္မတကတော် ဘီလီဖြစ်အောင် ပုံသွင်းကြရမယ်"

သို့နှင့်ပင် လက်ထောက်အရာရှိ ရာဇင်သည် သူ၏ လုပ်ငန်းတာဝန်ကို စတင်ဆောင်ရွက်ရလေသည်။ အမေရိကန်နိုင်ငံ ဝါရှင်တန်မြို့တော်နှင့် နယူးယောက်မြို့ ရှိ ကေ-ဂျီ-ဘီ အဖွဲ့ဝင်များ ထောက်လှမ်းရေးသူလျှို များ အသုံးချလျက် သမ္မတကတော် ဘီလီနှင့် ပတ်သက်သည့် အချက်အလက်သတင်းများ ရုပ်သေရုပ်ရှင်ဓာတ်ပုံနှင့် ဖလင်ကားများ စသည်တို့ကို အရေးတကြီး မှာယူ၍ စုဆောင်းလေသည်။ ရည်ရွယ်ချက်ကား အမေရိကန် သမ္မတကတော် ဘီလီ၏ အင်္ဂါရုပ်ကို ခြေဆုံးခေါင်းဆုံး အနီးကပ် လေ့လာရန်အပြင် သူမ၏ သွားလာ လှုပ်ရှားဟန်၊ စကားပြောဟန်၊ စကားပြောပုံ လေယူလေသိမ်းမှစ၍ အသေးစိတ် လေ့လာမှတ်သားရန်ပင် ဖြစ်လေသည်။

ရာဇင်က ဤသို့ အချက်အလက်များ အပြည့်အစုံ ရရှိအောင် ရယူ စုဆောင်းလျက်ရှိစဉ် ကေ-ဂျီ-ဘီ ထောက်လှမ်းရေး အကြီးအကဲ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်ကလည်း တဘက်မှ အလွန်ခြေလှမ်းသွက်စွာ လှုပ်ရှားလျက် ရှိလေသည်။

သူ၏ လျှို့ဝှက်စီမံချက်ကို စက္ကင်းလေဒီ စီမံချက်ဟူ၍ နာမည်ဝှက် ပေးလိုက်ပြီး လက်တွေ့ အကောင်အထည်ဖော်ရန် စတင်လှုပ်ရှားလေတော့သည်။

ရှေးဦးစွာ သူသည် မော်စကိုမြို့မှ တောင်ဘက် ဆယ့်ငါးကီလိုမီတာအကွာ အဝေးပြေးလမ်းမကြီး၏ အတွင်းဘက် သစ်ပင်တောအုပ်များအတွင်း၌ မြေ ငါးကေခန့်ကို သိမ်းယူလိုက်သည်။ ထိုနေရာတွင် ရုပ်ရှင်ရိုက်ရန် စတူဒီယိုကြီးတခု အမြန်တည်ဆောက်စေသည်။ ယင်း စတူဒီယိုအတွင်း၌ကား ဗိုလ်ချုပ်ကြီး ပီထရော့ဗ်၏ ညွှန်ကြားချက်ဖြင့် ဝါရှင်တန်မြို့ အမေရိကန်သမ္မတ အိမ်ဖြူတော်မှာရှိသည့် အိပ်ခန်း၊ ထမင်းစားခန်း၊ သတင်းစာကွန်ဖရင့်လုပ်သည့် အခန်း စသည်ဖြင့် အခန်းများကို အမေရိကန်မှပုံစံအတိုင်း တသဝေမတိမ်း တူအောင် ဖန်တီးတည်ဆောက်စေသည်။

ထိုအခန်းများ၌ ပရိဘောဂများ၊ ကော်ဇောများ၊ ပြတင်းပေါက် ခန်းဆီးများ၊

လျှပ်စစ်ခေတ်မီးလုံးများ ကအစ ဝါရှင်တန်မြို့မှ သမ္မတအိမ်တော်အတိုင်း တထေရာတည်း ဖြစ်နေအောင်လည်း ဖန်တီးထားစေသည်။

အဆိုပါ ရုပ်ရှင်စတူဒီယိုကြီး ပတ်ပတ်လည်တွင် လုံခြုံခိုင်ခံ့သော နံရံကြီးများ ကာထားစေလျက် ဝင်ဝဂိတ်ပေါက်တွင်လည်း တင်းကျပ်သော လုံခြုံရေး အစောင့်များ ချထားလိုက်သည်။

စတူဒီယိုနှင့် မီတာတစ်ရာ အကွာတွင်ကား နှစ်ထပ်အိမ်တလုံး သီးသန့် ဆောက်လုပ်စေပြီး ထိုအိမ် ပြီးသွားသည်နှင့် ပြဇာတ်မင်းသမီး ဗီရာတယောက်တည်း နေထိုင်စေလေသည်။

ထိုအတော်အတွင်း ရာဇင်က အမေရိကန်မှ မှာယူထားသော အချက်အလက် စာရွက်စာတမ်းများ၊ ဓာတ်ပုံများ၊ ရုပ်ရှင်ဖလင်များ၊ အသံဖမ်း တိတ်ခွေများသည်လည်း အပြည့်အစုံ ရောက်ရှိလာပြီ ဖြစ်သည်။

ရရှိသည့် အချက်အလက်တွေကလည်း အထူး ပြည့်စုံလှပေသည်။ ဥပမာ သမ္မတကတော် ဘီလီ၏ အတိုင်းအထွာများကိုပါ ရရှိသည်။ အရပ် ငါးပေ ခြောက်လက်မ၊ ကိုယ်အလေးချိန် ပေါင် (၁၁၀)၊ ရင် (၃၄) လက်မ၊ ခါး (၂၁) လက်မ၊ တင် (၃၄) လက်မ စသည်ဖြင့် အသေးစိတ်ရရှိသည့်အပြင် မျက်လုံးက အပြာရောင်၊ နှာခေါင်းက (1¾) လက်မ၊ ပါးစပ်က (2 ¼) လက်မဟူ၍ပင် ပါရှိလေသည်။

ယခင်တိုင်းထွာချက်များနှင့် နှိုင်းယှဉ် လေ့လာရန်အတွက် ရာဇင်သည် ပြဇာတ်မင်းသမီး ဗီရာ စတူဒီယိုတွင်းရှိ အိမ်သို့ ရောက်ရှိပြီး နောက်တနေ့တွင် ကေ-ဂျီ-ဘီ ဆရာဝန်တဦးအား သူမအား တိကျစွာ တိုင်းထွာစေလေသည်။

ဗီရာ၏ ခန္ဓာကိုယ် အနေအထားကလည်း မဆိုးလှပေ။ အရပ် ငါးပေ ခုနစ်လက်မ၊ ကိုယ်အလေးချိန် (၁၁၈) ပေါင် ရှိသည်။ ရင် (၃၁) လက်မ၊ ခါး (၂၅) လက်မ ရှိသည်။ မျက်လုံးအရောင်ကလည်း အပြာရောင် ဖြစ်နေပြီး ပါးစပ်ပေါက်ကပါ သမ္မတကတော် ဘီလီအတိုင်း (၂ /၃ ) လက်မ ရှိသည်။

ယင်းတိုင်းထွာချက်များ ရရှိပြီးနောက် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ရာဇင်အား ခေါ်ယူ တွေ့ဆုံလေသည်။

ပီထရော့ဗ်ကိုယ်တိုင်က ထိုတိုင်းထွာချက် နှစ်စုံကို လေ့လာကြည့်ပြီး ဖြစ်ရာ ကွာခြားချက်များက မပြောပလောက်ဟု ယူဆလိုက်သည်။ သို့သော် တတ်နိုင်သလောက် တိုင်းထွာချက်များ တူအောင် ကြိုးစား ဖန်တီးယူရမည်ဟု ဆုံးဖြတ်လိုက်သည်။ ဗီရာ၏ ရင်သား အတိုင်းအထွာကို သုံးလက်မခန့် ပိုလာအောင် လုပ်ရမည်။ နှာခေါင်းအနေအထားကိုလည်း အနည်းငယ် တိုအောင် လုပ်ရမည်။

ခါးနှင့်တင်ကိုတော့ နှစ်လက်မစီ လျှော့အောင် လုပ်ရမည်။ ထို့ပြင် ကိုယ်အလေးချိန် (၈) ပေါင်ခန့် လျှော့လိုက်ရမည် ဖြစ်သည်။

ယင်းလိုအပ်ချက်များ ဖြစ်နိုင်ပါမည်လော။ မော်စကိုမြို့မှ ဆရာဝန်ကြီးများက အလွယ်တကူပင် ဖြစ်နိုင်ကြောင်း အဖြေပေးကြလေသည်။

ဗီရာကိုယ်တိုင်ကမူ ထိုမျှ အသေးစိတ် ပြုပြင်ပေးရမည်ဆိုခြင်းကို ကောင်းစွာ နားလည် သဘောပေါက်ပုံ မရချေ။

"ကိုယ်အလေးချိန် လျှော့ရတာတော့ ကိစ္စမရှိပါဘူး၊ ဒါပေမဲ့ နှာခေါင်းကအစ ပြုပြင်ရမယ်ဆိုတာ ကျွန်မဖြင့် နားမလည်နိုင်ဘူး။ ရုပ်ရှင်ရိုက်ဖို့သက်သက်ဆိုရင် ဘာ့ကြောင့် ကျွန်မက အမေရိကန် သမ္မတကတော်နဲ့ အသေးစိတ် ချွတ်စွပ်တူဖို့ လိုမှာလဲ။ ကျွန်မရဲ့လက်ရှိအင်္ဂါရုပ်နဲ့ပဲ ရိုက်ရင် ဖြစ်တယ်မဟုတ်လား"

ဤသို့ ဗီရာက မေးသောအခါ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က စိတ်ရှည်လက်ရှည် ပြန်ဖြေလေသည်။

"ဒါတွေက တကယ်လိုအပ်လို့ လုပ်ရတယ်လို့သာ မှတ်ထားပါကွာ၊ နောက်မကြာမီ မင်းလည်း ဒီကားအကြောင်း ပိုပြီး ပြည့်ပြည့်စုံစုံ သိလာရပါလိမ့်မယ်"

"ဒါဖြင့် ဒီကိစ္စမှာ ကျွန်မက ဘာမှ ပြောပိုင်ခွင့်မရှိဘူးလား"

"လောလောဆယ်တော့ မင်း ဘာမှ မပြောစေချင်ဘူး"

"ဒါဟာ ကျွန်မကို အကျပ်ကိုင်သလို ဖြစ်နေပြီပေါ့"

"အခုအချိန်မှာတော့ မင်းက သည်းခံစေချင်တယ်။ ဒီအတွက် နောင်ကျရင် မင်းကျေနပ်လာမှာပါ။ မင်းအတွက် အကျိုးလည်း ရှိစေရပါမယ်"

"ဒါဖြင့်လည်း ကောင်းပါပြီလေ၊ ဗိုလ်ချုပ်ကြီးတို့ သဘောအတိုင်းပါပဲ"

ဤသို့ ဗီရာက ပြန်ပြောလိုက်သည်။ သူမသည် ပင်ကိုစရိုက်အားဖြင့် မဟုတ်လျှင် မခံတတ်သူ ဖြစ်၍တော့ မဟုတ်ချေ။ သို့သော် စိတ်ထဲက သဘောမကျလျှင် ပွင့်လင်းစွာ ထုတ်ဖော်ပြောတတ်သူ ဖြစ်၍ ပြောကြည့်ခဲ့သည်။ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က မလုပ်လျှင် မဖြစ်ဟု ပြောသောအခါ ၌ သူမက လက်ခံသဘောတူလိုက်လေသည်။

*

နောက်ရက်အနည်းငယ် ကြာသောအခါ ဆရာဝန်ကြီးများက ဗီရာအား ပလတ်စတစ်ဆာဂျရီခေါ် ခွဲစိတ်အသားထိုးကုပညာဖြင့် ခွဲစိတ်ပြုပြင်ကြရာ ရာနှုန်းပြည့် အောင်မြင်ခဲ့လေသည်။ ထို့နောက် ကိုယ်အလေးချိန် လျော့စေရန်အတွက် ဆရာဝန်များက ကျွေးသော အစားအစာများသာ စားရပြီး ကျန်းမာရေး လေ့ကျင့်ခန်းများလည်း မှန်မှန်ပြုလုပ်ရလေသည်။

မကြာမီ ကေ-ဂျီ-ဘီ ဆရာဝန်များက ဗီရာ၏ ခန္ဓာကို ထပ်မံစစ်ဆေး တိုင်းထွာကြည့်သောအခါ အစစအရာရာ အမေရိကန်သမ္မတကတော် ဘီလီ၏ အတိုင်းအထွာများအတိုင်း ထပ်တူ ဖြစ်နေလေတော့သည်။

ထိုအတောအတွင်း အမေရိကန်နိုင်ငံတွင် အင်ဒရူးဘရက်ဖို့ဒ်သည် အမေရိကန်သမ္မတသစ် အဖြစ် တရားဝင် ကျမ်းကျိန်လက်ခံယူပြီးနောက် ဝါရှင်တန်မြို့ သမ္မတ အိမ်ဖြူတော်သို့ ပြောင်းရွှေ့နေထိုင် လေရာ သူ၏ဇနီး ဘီလီသည်လည်း ဖတ်စ်လေဒီ ခေါ် နိုင်ငံတော် ပထမအမျိုးသမီး ဖြစ်လာတော့သည်။

နောက်နှစ်လ ကြာသောအခါ သမ္မတကတော် ဘီလီသည် အများပြည်သူတို့ ဗဟုသုတ ရစေရန် ရည်ရွက်လျက် ဝါရှင်တန်မြို့ရှိ သမ္မတ အိမ်ဖြူတော် အခန်းအသီးသီးကို ရုပ်မြင်သံကြား ရိုက်ကူးစေ၍ သူမကိုယ်တိုင်က တိုးရစ္စဂိုက်ဒ်ခေါ် ခရီးသွားဇာတ်ကြောင်း ပြောသူအဖြစ် အသေးစိတ် ရှင်းပြသည်။ အစီအစဉ်ကို ရုပ်မြင်သံကြားမှ လွှင့်လိုက်လေသည်။ ဤသည်မှာ ဘီလီ၏ တီထွင် ဆန်းသစ်ချက် တခုဖြစ်၍ ပြည်သူပရိသတ်က အထူး နှစ်သက်သဘောကျကြသည်နှင့်အမျှ သမ္မတကတော် သို့မဟုတ် ဖတ်စ်လေဒီ ဘီလီပေါ် လူထုက ပို၍လေးစားလာကြလေသည်။

အဆိုပါ သမ္မတကတော် ဘီလီ၏ ရုပ်မြင်သံကြား အစီအစဉ်ကို ကေ-ဂျီ-ဘီ (ရုရှထောက်လှမ်းရေး) အဖွဲ့ဝင်များက မိတ္တူတခုရအောင် ကူးယူပြီး မော်စကိုမြို့သို့ လေယာဉ်ဖြင့် ပို့ပေးလိုက်လေသည်။

ယင်းရုပ်မြင်သံကြားဖလင်ကို ရရှိသောအခါ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် လက်ထောက်အရာရှိ ရာဇင်၊ ပြဇာတ်မင်းသမီး ဗီရာတို့နှင့်အတူ သုံးယောက်တည်း ပြကြည့်ကြလေသည်။

ဤကား ပထမအကြိမ် ကြည့်ကြခြင်းဖြစ်သည်။ ဗီရာအနေဖြင့် ထို ရုပ်ရှင်ဖလင်ကို တနေ့လျှင် သုံးကြိမ်နှုန်းဖြင့် ရက်သတ္တခြောက်ပတ်တိတိ ဆက်တိုက်ကြည့်ရသည်။ သူမ၏တာဝန်မှာ ထိုရုပ်ရှင်ကားကို ကြည့်ရှုလေ့လာ မှတ်သား၍ အမေရိကန်သမ္မတကတော် ဘီလီ၏ သွားလာပုံ၊ စကားပြောပုံ၊ လက်ဟန်ခြေဟန် အသုံးပြုပုံ စသည်တို့ကို အသေးစိတ် အတုခိုး လေ့ကျင့်ရန်ပင်

ဖြစ်သည်။ ထို့နောက် ရုပ်ရှင် စတူဒီယိုအတွင်း ဖန်တီး တည်ဆောက်ထားသော သမ္မတအိမ်တော် အခန်း အသီးသီး၌ ဗီရာက သမ္မတကတော် ဘီလီဟာန်အတိုင်း အတုခိုး၍ လေ့ကျင့်ရပြန်လေသည်။

ထို့ပြင် ဗီရာသည် ကျွမ်းကျင်သော နည်းပြဆရာများ၏ သင်ပြချက်ဖြင့် အသံကိုလည်း လေ့ကျင့်ရ လေသည်။ သမ္မတကတော်ဘီလီနှင့် စကားပြောပုံ လေယူလေသိမ်းဖြင့် အသံပါ တူလာအောင် လေ့ကျင့်ခြင်း ဖြစ်သည်။ တခြားနည်းပြဆရာများကလည်း သူမအား လမ်းလျှောက်ရာတွင် အမေရိကန် သမ္မတကတော်နှင့် တပုံစံတည်းတူအောင် လေ့ကျင့် သင်ကြားပေးကြလေသည်။

ရက်သတ္တခြောက်ပတ် ပြည့်သွားသောအခါ ရာဇင်က ဗီရာအားခေါ်၍

"နက်ဖြန်မနက် ရှစ်နာရီတိတိမှာ မင်းဟာ စတူဒီယိုထဲက သမ္မတအိမ်ဖြူတော် ဆက်တင်ကို အရောက်လာရလိမ့်မယ်၊ ငါတို့ ရုပ်ရှင် စရိုက်တော့မယ်"

ဟု ပြောလေသည်။

"ဒါဖြင့် တကယ်ပဲ ရုပ်ရှင်ရိုက်ဖြစ်တော့မယ်ပေါ့"

ဗီရာ ပြောလိုက်ပုံကို ရာဇင် သဘောကျသွားမိသော်လည်း ခပ်တည်တည်နှင့်

"ဟုတ်တယ် ရုပ်ရှင်ရိုက်မှာပါ၊ အဲဒီရုပ်ရှင်ကားမှာ မင်းက သရုပ်ဆောင် မင်းသမီးပဲကွယ့်"

ဟု ပြန်ပြောလိုက်သည်။

"တကယ်လည်း ရုပ်ရှင် ရိုက်ကူးလေရာ ရက်သတ္တ လေးပတ်ကြာသောအခါ ထိုရုပ်ရှင်ကို တည်းဖြတ် ကူးဆေးပြီးစီး၍ ကော်ပီချော ဖြစ်လာလေသည်။

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ရုပ်ရှင်ကားကို သီးသန့်ပြစေ၍ သေချာစွာ လေ့လာကြည့်ပြီးနောက် စိတ်တိုင်းကျ ဆုံးဖြတ်ချက်တခု ချလိုက်လေသည်။

ဆုံးဖြတ်ချက်ကား သူ၏ လျှို့ဝှက်စီမံချက် ဆက်လက် မဆောင်ရွက်မီ အစိုးရအဖွဲ့၏ တရားဝင် ခွင့်ပြုချက်နှင့် ဘတ်ဂျက်ရန်ပုံငွေ လုံလောက်စွာ ရယူရန်ပင်ဖြစ်သည်။

ထို့ကြောင့် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် နောက်တနေ့တွင် ဝန်ကြီးချုပ် ကီရင်ချင်ကိုနှင့် ရုပ်ရှင်ပြခန်း၌ တွေ့ဆုံလိုကြောင်း

တယ်လီဖုန်းဆက်လိုက်လေသည်။

"ရုပ်ရှင်ပြခန်းထဲမှာ ဘာလုပ်ဖို့လဲ၊ ကျုပ် အလွန် အလုပ်များနေတယ်။ ရုပ်ရှင်ကြည့်ဖို့ အချိန်မရဘူး"

ဝန်ကြီးချုပ်က တဘက်မှ ပြန်ပြောရာ ပီထရော့ဗ်ကလည်း

"ဝန်ကြီးချုပ်ခင်ဗျား၊ အခုကိစ္စဟာ အလွန် အရေးကြီးလို့ပါ"

ဟု ပြောလိုက်လေသည်။

"မနက်ဖြန် တနေ့လုံးလိုလို ကျုပ်မအားဘူး၊ ညဘက်ကျတော့လည်း ဂါရာနင်တို့ လူစုနဲ့ ညစာ စားဖို့ရှိတယ်" (ဂါရာနင်တို့လူစုဆိုသည်မှာ ဆိုဗီယက်ပေါ်လစ်ဗျူရို အာဏာပိုင် အဖွဲ့ဝင်များ ဖြစ်ကြသည်။)

"ဟုတ်ကဲ့ သူတို့ကိုပါ ခေါ်ခဲ့ပါ၊ ဝန်ကြီးချုပ်အနေနဲ့ အချိန်နာရီဝက်ပေးရင် ဖြစ်ပါတယ်"

"ဒါဖြင့် ကောင်းပြီလေ၊ နက်ဖြန်ည ခုနစ်နာရီခွဲကို လာခဲ့မယ်"

ဝန်ကြီးချုပ်က သဘောတူ လက်ခံလိုက်လေသည်။

*

နောက်တနေ့ည ခုနစ်နာရီမခွဲမီ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် မော်စကိုမြို့ ကရင်မလင် နန်းတော် အဆောက်အအုံ တနေရာရှိ သီးသန့် ရုပ်ရှင်ပြခန်းသို့ ရောက်နေလေသည်။ သူသည် လက်ထောက် အရာရှိ ရာဇင်ကိုပါ ခေါ်ထားလေသည်။ ရာဇင်က ရုပ်ရှင်ပြစက်မောင်းသူအနီးတွင် လိုအပ်သလို ညွှန်ကြားရန် အသင့်နေလေသည်။

ခုနစ်နာရီခွဲ၍ ငါးမိနစ်အလိုတွင် ဝန်ကြီးချုပ် ကီရင်ချက်ကိုသည် ဂါရာနင့် အပါအဝင် ပေါ်လစ် ဗျူရိုအဖွဲ့ဝင် သုံးဦးနှင့်အတူ ရုပ်ရှင်ပြခန်း သို့ ရောက်လာလေသည်။

ဝန်ကြီးချုပ် ကီရင်ချင်ကိုသည် ငါးပေ ဆယ့်တစ်လက်မရှိပြီး ခန္ဓာကိုယ် တုတ်တုတ်ခိုင်ခိုင်နှင့် လူတယောက်ဖြစ်လေသည်။ နှုတ်ခမ်းလွှာ ထားပုံနှင့် မျက်နှာပေါက်မှာ ရုရှသမိုင်းမှ ထရော့စကီးနှင့် ခပ်ဆင်ဆင် တူလေသည်။

သူတို့အဖွဲ့ ဝင်ရောက်သောအခါ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က မတ်တတ်ထ၍ ခရီးဦးကြို ပြုလေသည်။

"ကိုင်း ကျုပ်တို့ အခုရောက်လာကြပြီခင်ဗျားက ဘာများ အရေးကြီးလို့ ဒီကိုခေါ်တာလဲ"

ဝန်ကြီးချုပ်က စတင်၍ မေးလိုက်သည်။

"စီမံချက်အသစ်တခု တင်ပြစရာရှိလို့ပါ။ အလွန်ထူးခြားတဲ့ စီမံချက် ဖြစ်ပါတယ်။ ဒါကို အကောင်အထည် ဖော်လိုက်ရင် ကမ္ဘာ့သမိုင်းဟာ တမျိုးတဖုံ ဖြစ်သွားနိုင်တယ်။ ဒီစီမံချက်က အခုပြသမယ့် ရုပ်ရှင်ကားနဲ့ စတင်ပါတယ်"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ဤသို့ပြောပြီး အချက်ပြလိုက်ရာ ရာဇင်လည်း ရုပ်ရှင်ပြစက် မောင်းသူအား စပြရန် ညွှန်ကြားလိုက်လေသည်။

လျှပ်စစ်မီးများ ပိတ်သွားပြီးနောက် ရုပ်ရှင် စပြလေသည်။

ပြသည့် ရုပ်ရှင်ကားမှာ အမေရိကန်မှ တင်ပို့လိုက်သော သမ္မတကတော် ဘီလီက ဝါရှင်တန်မြို့ အိမ်ဖြူတော်၏ အတွင်းခန်းများကို ရုပ်မြင်သံကြားဖြင့် ရိုက်ကူးပြသည့် သတင်းကားပင် ဖြစ်သည်။ သမ္မတကတော် ဘီလီကိုယ်တိုင် သွားလာလှုပ်ရှားဟန်များကိုလည်း သေချာစွာ မြင်ရလေသည်။

ဆယ်မိနစ်ခန့် ကြာသော် ရုပ်ရှင်ကားပြီးသွား၍ မီးများ ပြန်လင်းလာရာ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ဝန်ကြီးချုပ်အား လှမ်း၍ ရှင်းပြလေသည်။

"အဲဒါ မကြာသေးခင်က အမေရိကန် သမ္မတကတော် ဘီလီက ရုပ်မြင်သံကြား ပရိသတ်အတွက် ဝါရှင်တန်မြို့က သမ္မတအိမ်တော် အတွင်းရှုခင်းတွေကို သတင်းကားအဖြစ် ရိုက်ကူးပြီး ရုပ်မြင်သံကြားကတဆင့် ထုတ်လွှင့်ပြသခဲ့တဲ့ ဖလင်ကား ဖြစ်ပါတယ်။ အခုနောက်ထပ် ရုပ်ရှင်ကားတကား ပြပါဦးမယ်"

ပီထရော့ဗ်က ပြောလိုက်လျှင် ဝန်ကြီးချုပ်သည် ရယ်မောလိုက်သည်။

"ကျုပ်ရဲ့နိုင်ငံတော် လုံခြုံရေး ကေ-ဂျီ-ဘီ အကြီးအကဲက ရုပ်ရှင်ဖလင်ကား ဖြန့်ချိရေးအလုပ်လည်း လုပ်နေသကိုးဗျ ဟဲဟဲ"

"ခဏလေးစောင့်ကြည့်ပါဦး၊ ကျွန်တော့်ရဲ့ရည်ရွက်ချက်ကို သဘော ပေါက်လာပါလိမ့်မယ်"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ပြန်ပြောလိုက်ပြီးနောက် ဒုတိယ ရုပ်ရှင်ကားကို စတင်ပြလေသည်။

ယင်းရုပ်ရှင်ကားတွင်လည်း ဝါရှင်တန်မြို့ သမ္မတအိမ်တော်အခန်း အသီးသီးသို့ သမ္မတကတော် ကိုယ်တိုင် လိုက်ပြနေသည့် ရိုက်ကွင်းများ မြင်ရလေသည်။

ဝန်ကြီးချုပ် ကီရင်ချင်ကိုသည် စိတ်တိုလာဟန်ဖြင့်

"ဘယ်လိုလဲဗျ၊ စောစောကပဲ ကျုပ်တို့ကြည့်ခဲ့ပြီးသား ဖလင်ကားကို ဘာကြောင့် နောက်တကြိမ် ထပ်ပြနေရတာလဲ"

ဟု ပီထရော့ဗ်အား လှမ်းမေးလိုက်သည်။

"ဟုတ်ကဲ့၊ ခဏလေး ဆက်သည်းခံပြီး ကြည့်စေချင်ပါတယ်၊ ကျွန်တော့်မှာ အကြောင်းရှိလို့ပါ"

သို့နှင့်ပင် ရုပ်ရှင်ကို ဆက်ပြသည်။ ပြီးဆုံးသွား၍ မီးများ ပြန်လင်းလာချိန်တွင် ဝန်ကြီးချုပ်သည် စိတ်တိုနေလေတော့သည်။

"ပီထရော့ဗ် ခင်ဗျား ရူးနေသလား၊ ဘာဖြစ်လို့ ရုပ်ရှင်ကားတကားတည်းကို နှစ်ကြိမ်ထပ်ပြရတာလဲ၊ ဒါနဲ့ ပတ်သက်လို့ ခင်ဗျား ကောင်းကောင်း ဖြေရှင်းမှဖြစ်မယ်၊ ကဲ ပြောစမ်း"

"ဝန်ကြီးချုပ်ခင်ဗျား အခုပြသွားတဲ့ ရုပ်ရှင်ဖလင်ကား နှစ်ကားဟာ တခုတည်းကို နှစ်ကြိမ် ထပ်ပြတယ် ဆိုတာ သေချာပါသလား"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က မေးလိုက်ရာ ဝန်ကြီးချုပ်သည် ပို၍ပင် စိတ်တိုလာလေသည်။

"ဘာလဲ ခင်ဗျားက ကျုပ်မျက်စိကန်းနေတယ် ထင်လို့လား၊ ဖလင်တကားတည်း နှစ်ကြိမ်တိတိ ပြသွားတာပဲ မဟုတ်လား"

"ဝန်ကြီးချုပ် ခင်ဗျား ပထမရုပ်ရှင်ကားမှာ အမေရိကန်သမ္မတ ကတော်ကို မြင်ခဲ့ရသလို ဒုတိယ ရုပ်ရှင်ကားမှာလည်း အမေရိကန် သမ္မတကတော် (ဖတ်စ်လေဒီ) ကို မြင်ခဲ့ရတာ သေချာပါသလား"

"သေချာတာပေါ့ဗျ"

"မဟုတ်ပါဘူး၊ ဝန်ကြီးချုပ် အမြင်မှားနေပါတယ်။ ပထမ ရုပ်ရှင်ကားက အမျိုးသမီးဟာ အမေရိကန် သမ္မတကတော် ဘီလီ အမှန်ဖြစ်ပါတယ်။ ဒါပေမဲ့ ဒုတိယကားက အမျိုးသမီးဟာ သမ္မတကတော် အစစ် မဟုတ်ဘူးဗျ၊ အဲဒါ ကျွန်တော်တို့ ဆိုဗီယက် ပြဇာတ်မင်းသမီးတဦးဖြစ်တဲ့ ဗီရာက အမေရိကန် သမ္မတကတော်အဖြစ် သရုပ်ဆောင်ရိုက်ကူးထားတဲ့ ရုပ်ရှင်ကားဖြစ်ပါတယ်"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ရှင်းပြလိုက်သော်လည်း ဝန်ကြီးချုပ် ကီရင်ချင်သည် ရုတ်တရက် သဘောပေါက်ပုံမရချေ။

"ဟာ ခင်ဗျားကလည်း မဖြစ်နိုင်တာ ပြောပြန်ပြီ"

"မဖြစ်နိုင်တာကို ပြောနေတာ မဟုတ်ပါဘူး ဝန်ကြီးချုပ်ခင်ဗျား၊ ဒုတိယ ရုပ်ရှင်ကားက ဆိုဗီယက် ပြဇာတ်မင်းသမီးကို သမ္မတကတော်အဖြစ် သရုပ်ဆောင်စေပြီး နောက်ခံရှုခင်းများကိုလည်း အမေရိကန် သမ္မတအိမ်တော်က အခန်းတွေ ပုံစံအတိုင်း တထေရာတည်း ဆက်တင်အဖြစ် တည်ဆောက်ရိုက်ကူးခဲ့ခြင်း ဖြစ်ပါတယ်။ ဒါနဲ့ပတ်သက်လို့ ကျွန်တော်ပြောတာ အမှန်ဖြစ်ကြောင်း ဟောဒီက ကျွန်တော့်ရဲ့လက်ထောက် အရာရှိ ရာဇင်က အတည်ပြုပြောပြပါလိမ့်မယ်။ ဒါကြောင့် ဝန်ကြီးချုပ်အနေနဲ့ ဒုတိယရုပ်ရှင်ကားမှာ အမေရိကန်သမ္မတကတော်နဲ့ ရုပ်ချင်း ခွဲမရအောင်တူတဲ့ ရုရှအမျိုးသမီးတဦးကို ကြည့်ခဲ့ရခြင်း ဖြစ်ပါတယ်"

သည်တော့မှ ဝန်ကြီးချုပ်သည် အလွန်အံ့အားသင့်စွာဖြင့် ခေါင်းညိတ်လိုက်သည်။

"အင်း ယုံနိုင်စရာ မရှိအောင် အံ့ဩစရာပါပဲ။ ကဲ ပီထရော့ဗ် ဒါနဲ့ပတ်သက်လို့ ခင်ဗျားမှာ ဘာအကြံအစည် ရှိလို့လဲ"

ဝန်ကြီးချုပ်က မေးလိုက်ရာ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် လေသံအေးအေးဖြင့် သူ၏ အကြံအစည်ကို ရှင်းလင်းတင်ပြလေသည်။

"လာမယ့် နှစ်အနည်းငယ့်အတွင်းမှာ ကမ္ဘာ့အခြေအနေအရ ဆိုဗီယက်ယူနီယံနဲ့ အမေရိကန်နိုင်ငံ တို့ဟာ ထိပ်တိုက်ရင်ဆိုင်ရမယ့် ပဋိပက္ခ ပြဿနာ ဖြစ်လာနိုင်ပါတယ်။ ဒါကို အီရန်လို၊ ကိုရီးယား နိုင်ငံလို နေရာမျိုးမှာလည်း ဖြစ်လာနိုင်ပါတယ်။ ထိပ်တိုက် ပဋိပက္ခ ဖြစ်လာရင် တဘက်ဘက်က အလျှော့ပေးရင်ပေး၊ မပေးရင်တော့ ကမ္ဘာစစ်ကြီး ဖြစ်လာမှာပဲ။ ဒီတော့ ကျွန်တော်တို့ဘက်က အလေးသာစေမယ့် လျှို့ဝှက်လက်နက် ရှိထားဖို့လိုပါတယ်။

အခု ဝန်ကြီးချုပ်ကိုယ်တိုင် ကြည့်ခဲ့တဲ့ ရုပ်ရှင် ကားနှစ်ကားအရ ကျွန်တော်တို့အနေနဲ့ လျှို့ဝှက်လက်နက်အဖြစ် အသုံးချနိုင်တဲ့နည်းလမ်း ရှိနေပြီဖြစ်ပါတယ်။ တကယ်လို့ အမေရိကန် သမ္မတကတော်နဲ့ ဘယ်လိုမှ ရွေးမရအောင်တူတဲ့ အမျိုးသမီးတဦးကို ခဏဖြစ်ဖြစ် ဝါရှင်တန်မြို့တော်က သမ္မတအိမ်တော်မှာ လူစားထိုး လဲထား လိုက်ရရင် ကျွန်တော်တို့အဖို့ ကမ္ဘာ့သမိုင်းမှာ မရှိဖူးသေးတဲ့ ထောက်လှမ်းရေး သူလျှိုတဦးကို ရန်သူပိုင်နက်အတွင်းမှာ ထားရှိပြီးသား ဖြစ်သွားနိုင်ပါလိမ့်မယ်။ အမေရိကန်သမ္မတရဲ့ လျှို့ဝှက်ချက် များကို ထောက်လှမ်း ရယူခြင်းအားဖြင့် ရန်သူရဲ့ခြေလှမ်းကို ကြိုတင်သိပြီး ကျွန်တော်တို့ဘက်က အလေးသာအောင် ကြံစည်လို့ ရနိုင်ပါတယ်"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ် စကားအဆုံးတွင် မည်သူမျှ ဘာမှ မပြောဘဲ တခန်းလုံး တိတ်ဆိတ် ငြိမ်သက်နေလေသည်။

အတန်ကြာမှ ဝန်ကြီးချုပ်ကစတင်၍ စကားပြောလေသည်။

"ဒါဟာ ဖြစ်နိုင်ပါ့မလား၊ တကယ်လုပ်ရင် ဖြစ်ပါ့မလား"

"ကျွန်တော်တို့ရဲ့ပြဇာတ်မင်းသမီးက ပိုင်အောင် လုပ်နိုင်ပါ့မလားလို့ ဆိုလိုတာပါလား ဟုတ်တယ်၊ လုပ်နိုင်ပါ့မလား"

ဝန်ကြီးချုပ်က ထပ်မေးလိုက်လျှင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ခေါင်းညိတ်လိုက်သည်။

"လုပ်နိုင်ပါတယ်လုပ်ဖို့လဲ အဆင်သင့် ရှိနေပါတယ်၊ သူလုပ်ဖို့ အခွင့်အရေး ရဖို့ပဲ လိုပါတယ်။ ဝန်ကြီးချုပ်ခင်ဗျား၊ ပြဇာတ်မင်းသမီး ဗီရာရဲ့စွမ်းရည်ကို အခုပဲ ဝန်ကြီးချုပ်ကိုယ်တိုင် ရုပ်ရှင်ဖလင် အထောက်အထားနဲ့တကွ မြင်ခဲ့ရပြီးပါပြီ။ သူဟာ အမေရိကန်သမ္မတကတော် ဘီလီနဲ့ ဘယ်လိုမှ ရွေးလို့မရပါဘူး၊ ဒါနဲ့ပတ်သက်လို့ ဘယ်လို စတင်ပြီး အကြံပေါ်ခဲ့ပုံ၊ ဘယ်လို ကြိုတင်ပြင်ဆင်ခဲ့ပြီး ဘယ်ပုံဘယ်ညာ အသုံးချဖို့ ရည်ရွယ်လာပုံ အသေးစိတ်ကိုလည်း အစီရင်ခံပါရစေ"

ဤသို့ အစချီကာ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် လေးဆယ့်ငါးမိနစ်ခန့် အသေးစိတ် ရှင်းလင်း တင်ပြလိုက်လေသည်။

ထိုရှင်းလင်းချက်ကို ဝန်ကြီးချုပ်သည် နားထောင်ပြီးနောက် ချက်ချင်းဘာမှ မပြောဘဲ ခေတ္တငြိမ်၍ စဉ်းစားနေလေသည်။

အတန်ကြာမှ သူ၏သဘောထားကို ပြောပြလေသည်။

"ကျုပ်အနေနဲ့ ဆုံးဖြတ်ချက်ပေးဖို့ အတော်ခက်နေတယ်၊ ကာယကံရှင် မိန်းကလေးက အသက်အန္တရာယ် ပဓာနမထား စွန့်စွန့်စားစား လုပ်ဖို့ အသင့်ရှိတာတော့ ဟုတ်ပါပြီ။ ဒါပေမဲ့ ခင်ဗျားပြောသလို အနည်းဆုံး ရက်သတ္တ နှစ်ပတ်လောက် အမေရိကန်မှာသွားပြီး ဟန်ဆောင်နေဖို့က စဉ်းစားစရာရှိတယ်၊ သူဟာ တချိန်မဟုတ် တချိန်မှာ ခြေလှမ်း မှားနိုင်တယ်၊ ရုပ်ရှင်ရိုက်တုန်းမှာ မှားယွင်းရင် ကိစ္စမရှိဘူး။ အသစ်တခါ ပြန်ရိုက်ရုံပဲ၊ သို့သော်လည်း တကယ့်အပြင်ဘဝမှာ တချက်မှားလို့ မဖြစ်ဘူး"

"ဝန်ကြီးချုပ်ခင်ဗျား၊ ဗီရာက တချက်မှ မမှားနိုင်ပါဘူး၊ စိတ်ချပါ၊ သူ့ကို ပြင်ဆင် လေ့ကျင့်တုန်း ကလည်း မှားယွင်းချက်ဆိုလို့ တခုမှ မရှိခဲ့ပါဘူး၊ ကျွန်တော့်ရဲ့ဘဝရှေ့ရေးအတွက် အာမခံချက် ထားပြီး ပြောဝံ့ပါတယ်"

"တကယ်လို့ သူက မှားယွင်းချွတ်ချော်သွားတာနဲ့ ခင်ဗျားရဲ့ရှေ့ရေးကံကြမ္မာလဲ လုံးလုံးပျက်စီး ဆုံးရှုံးသွားရလိမ့်မယ်"

"ဟုတ်ကဲ့၊ ကျွန်တော်သိပါတယ်"

"ပြီးတော့ ကျုပ်တို့နိုင်ငံနဲ့ ပြည်သူများအတွက်လဲ အများကြီး ထိခိုက် နစ်နာသွားနိုင်တယ်"

"ဒါကိုလဲ သိပါတယ်"

"ဒါနဲ့များ ခင်ဗျား ဒီအကြံအစည်ကို အကောင်အထည်ဖော်ဖို့ တိုက်တွန်း ထောက်ခံချင်သလား"

"ဟုတ်ကဲ့၊ ကျွန်တော်က အလေးအနက် တိုက်တွန်းထောက်ခံချင်ပါတယ်။ ကျွန်တော်က ဗီရာကို လုံးဝ စိတ်ချပါတယ်၊ သူ့ရဲ့ကြိုးပမ်းမှုကြောင့် ကျွန်တော်တို့အဖို့ အမေရိကန်ရဲ့ အရေးအကြီးဆုံး လျှို့ဝှက်ချက်သတင်းတွေ ရရှိနိုင်ပါတယ်၊ အန္တရာယ်တော့ ရှိတာ အမှန်ပါပဲ၊ ဒါပေမဲ့ ဝန်ကြီးချုပ် ခင်ဗျား၊ ကမ္ဘာ့သမိုင်းဝင် လှုပ်ရှားမှုကြီးမှန်သမျှဟာလဲ အန္တရာယ်ရှိကြတာချည်းပဲ မဟုတ်လား"

"တခုတော့ ရှိတယ်နော်၊ ဒီအမျိုးသမီးက ခြေလှမ်းတချက် မှားလိုက်တာနဲ့ ကျုပ်တို့အဖို့ အကြီးအကျယ် သိက္ခာကျ အရှက်ကွဲရုံမက တတိယကမ္ဘာစစ်ကြီး ဖြစ်ပွားနိုင်တဲ့ အန္တရာယ်တောင် ရှိလာလိမ့်မယ်"

"ဒါတော့ မှန်ပါတယ်၊ သို့သော်လည်း ဒီအကြံအစည်ဟာ အောင်မြင်သွားခဲ့ရင်လည်း ဆိုဗီယက် ယူနီယံဟာ အမေရိကန်အပေါ် ကောင်းကောင်း အပေါ်စီး ရသွားမှာ သေချာပါတယ်"

ဤတွင် ဝန်ကြီးချုပ်သည် ခေတ္တ စဉ်းစားပြန်ရာ ပေါ်လစ်ဗျူရို အဖွဲ့ဝင်တဦးဖြစ်သူ ဂါရာနင်က

"တန်ဖိုး မဖြတ်နိုင်လောက်အောင် ကောင်းတဲ့ အခွင့်အရေး တခုပါပဲ"

ဟု ခပ်တိုးတိုး ပြောလိုက်လေသည်။

ဝန်ကြီးချုပ်ကမူ ဂါရာနင်၏စကားကို လျစ်လျူရှုပြီး ဗိုလ်ချုပ်ကြီး ပီထရော့ဗ်ကိုသာ တိုက်ရိုက် ပြောလေသည်။

"ခင်ဗျားကတော့ တကယ် အပြောကောင်းတာပဲ၊ ခင်ဗျားရဲ့ပြဇာတ်မင်းသမီး သရုပ်ဆောင်ပုံ ကလည်း ဘာမှ ပြောစရာမရှိအောင် ပိုင်နိုင်လှပါတယ်။ ကောင်းပြီ၊ ခင်ဗျား ဘာများ အလိုရှိသလဲ"

"ဝန်ကြီးချုပ်ရဲ့သဘောတူ ခွင့်ပြုချက် လိုချင်ပါတယ်၊ ဒီအကြံအစည် ဆက်လက် အကောင်အထည် ဖော်သွားဖို့ ခွင့်ပြုချက်ရဖို့ လိုပါတယ်။ ကျွန်တော်တို့က ဆက်လက်ပြင်ဆင်ကြပြီး တကယ်တမ်း လုပ်ရတော့မယ့် နောက်ဆုံးအချိန်ကျတော့ ဆက်လုပ်ကြပေတော့ဆိုတဲ့ နောက်ဆုံးခွင့်ပြုချက် အမိန့်ကိုတော့ ဝန်ကြီးချုပ်ကပဲ ပေးရပါမယ်"

"ကောင်းပြီ၊ ကျုပ်သဘောတူခွင့်ပြုပါတယ်"

"နောက်တခုက ဒီစီမံချက် အကောင်အထည်ဖော်ဖို့ လိုအပ်မယ့် ငွေကြေးရန်ပုံငွေ"

"ဒါလဲ ခင်ဗျား ရပါစေမယ်"

ဤသို့လျှင် ဝန်ကြီးချုပ် ကီရင်ချင်ကိုက ဆုံးဖြတ်ချက်ပေးလိုက်လေသည်။

*

ဤသည်တို့ကား လွန်ခဲ့သော သုံးနှစ်က အဖြစ်အပျက်များပင် ဖြစ်လေသည်။

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် သူ၏ ရုံးခန်းထဲတွင် လက်ရှိ အခြေအနေကို စဉ်းစားနေလေသည်။

အချိန်ကြာမြင့်စွာကြိုးစားပြင်ဆင်ခဲ့ရသော သူ၏အကြံအစည်ကို လက်တွေ့ စတင် အကောင်အထည် ဖော်ရန် အချိန်သည် အလွန်နီးကပ်လာပြီဖြစ်သည်။

နောက်ထပ် နာရီပေါင်း ၇၂ နာရီခန့်သာ စောင့်ရန်လိုတော့သည်။

အချိန်မှာ သန်းခေါင်ကျော် တစ်နာရီထိုးပြီဖြစ်၍ အိပ်ချိန်တန်နေပြီ ဟု စဉ်းစားမိလေသည်။ သို့သော် ဗိုလ်ချုပ်ကြီးပီထရော့ဗ်၏ အလေ့အကျင့်တခုမှာ ယခုကဲ့သို့ စိတ်လှုပ်ရှားနေလျှင် မည်သို့မျှ အိပ်၍ မပျော်နိုင်ခြင်းပင် ဖြစ်လေသည်။

သူ၏စိတ်များသည် သုံးနှစ်သုံးမိုး တောက်လျှောက် ကြိုးစားခဲ့ရပုံများကို ပြန်ပြောင်း သတိရနေမိ လေသည်။ သူသည် ဗီရာအမည်ရှိ မိန်းကလေးအား သီးသန့် ကျူရှင် သင်ကြားပို့ချပေးသလို ဆက်တိုက် လေ့ကျင့် သင်ကြားပေးခဲ့ရသည်။ ယခုတော့ သင်တန်းကာလ ပြီးဆုံးလုပြီဖြစ်သည်။

ဗီရာသည် အမေရိကန်သမ္မတကတော် ဘီလီအဖြစ် တကယ်လက်တွေ့ သရုပ်ဆောင်ရန် အသင့် ဖြစ်ပြီလော၊ နောက်ဆုံး အခြေအနေကိုမူ သူ၏ လက်ထောက်အရာရှိ ရာဇင်ကတော့ ကောင်းစွာ အကဲဖြတ် ပြောဆိုနိုင်မည်ဖြစ်သည်။

ရာဇင်သည်လည်း မိမိကဲ့သို့ပင် အိပ်မပျော်ဘဲ စဉ်းစားနေလေသလော ဟူ၍လည်း ပီထရော့ဗ်က တွေးမိလေသည်။

*

ကေ-ဂျီ-ဘီ (ထောက်လှမ်းရေး) ဌာနချုပ် အဆောက်အအုံ စတုတ္ထထပ်ရှိ ရုံးခန်းထဲတွင် ရာဇင်သည် သူ၏ လက်ဆွဲသားရေအိတ်တွင်းသို့ စာရွက်စာတမ်းတွေ တထပ်ကြီး ထည့်နေလေသည်။

အမှန်တော့ ယခုည သူသည် ဗီရာထံ သွားတွေ့ရန် ချိန်းထားပြီးဖြစ်သည်။ သူ နောက်ကျမှ လာနိုင်မည်ဟု ပြောခဲ့သည်။ ဗီရာက မအိပ်ဘဲ ရာဇင်လာချိန်ထိ စောင့်နေပါမည်ဟု ပြောခဲ့သည်။

ယခုတော့ ရာဇင်သည် အလုပ်တွေကို ရပ်ထားပြီး ဗီရာနှင့် တညလုံး အတူသွားနေရန် ပြင်ဆင်နေခြင်းဖြစ်သည်။

အချိန်က နီးကပ်လာပြီဖြစ်၍ ယခုညသည် ဗီရာနှင့် အတူနေရန် နောက်ဆုံးညပင် ဖြစ်သည်ပါ တကားဟု တွေးရင်း စိတ်တွေ လှုပ်ရှားနေမိသည်။

အကြောင်းမူကား ရာဇင်နှင့် ဗီရာတို့သည် တဦးပေါ်တဦး ချစ်ခင်မြတ်နိုးကာ ချစ်သူများ ဖြစ်နေသောကြောင့်ပင်တည်း။

ဗီရာအား အမေရိကန် သမ္မတကတော်ဘီလီအဖြစ် သရုပ်ဆောင်နိုင်ရန်အတွက် အသေးစိတ် သင်ကြား ပို့ချမှုကို ရာဇင်ကပင် နည်းပြဆရာအဖြစ် တာဝန်ယူခဲ့ရသည်ဖြစ်ရာ သူသည် အစွမ်းကုန်

ကြိုးစားပို့ချပေးခဲ့လေသည်။ ဤစီမံချက် အောင်မြင်မှုသည် သူ၏ ရှေ့ရေးအလားအလာအတွက် များစွာ အရေးကြီးလှသောကြောင့်ပင် ဖြစ်သည်။

လူချင်း ရင်းနှီးစွာ ထိတွေ့ရာမှ ရာဇင်သည် ဗီရာအား ချစ်ခင်မြတ်နိုးလာခဲ့ခြင်း ဖြစ်သည်။ ဤတွင် သူ၏အလုပ်တာဝန်က ပို၍ အရေးကြီးလာလေသည်။ မိမိ၏ ချစ်သူ ဗီရာသည် ယခုစီမံချက်တွင် အသက်စွန့်၍ အလုပ်လုပ်ရမည်ဖြစ်ရာ ချစ်သူ၏ အသက်အန္တရာယ်ကိုလည်း စိုးရိမ်နေမိလေသည်။ ထို့ကြောင့် ဗီရာ အသက်အန္တရာယ် မရှိစေရန်မှာ သူမ၏သရုပ်ဆောင်မှုသည် လုံးဝ အပြစ်မရှိ အမှားမရှိမှ ဖြစ်ပေမည်။ ဤသို့ သံယောဇဉ် ဖြစ်နေခြင်းကြောင့်လည်း ရာဇင်အဖို့ အလွန် တာဝန်ကြီးလှပါတကားဟု စိုးရိမ်ပူပန်မိခြင်း ဖြစ်လေသည်။

ဤသို့ ရာဇင်က ဆင်ခြင်စဉ်းစားနေစဉ်မှာပင် သူ၏ရုံးခန်းသို့ ဗိုလ်ချုပ်ကြီး ပီထရော့ဗ် ရောက်လာပြီး ဗီရာ လေ့ကျင့်ပြင်ဆင်မှုနှင့် ပတ်သက်ပြီး နောက်ဆုံးအကြိမ် ဆွေးနွေးလိုသည်ဟု ပြောလေသည်။

ရာဇင်မှာ ချစ်သူ ဗီရာနှင့် တူနှစ်ကိုယ် ရွှေလည်တွဲကာ ချစ်တင်းနှီးနှောရန် သွားမည့်ဆဲဆဲ ဖြစ်သော်လည်း သူ၏ အကြီးအကဲ ပီထရော့ဗ် ရောက်လာသဖြင့် မည်သို့မျှ မတတ်နိုင်တော့ချေ။

"မောင်ရင် သိပ်ပြီး ပင်ပန်းမနေဘူးလို့ မျှော်လင့်ပါတယ်"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ကုလားထိုင်တလုံးတွင် ဝင်ထိုင်ရင်း ပြောလိုက်သည်။

"မပင်ပန်းပါဘူးခင်ဗျာ၊ ကျွန်တော်ကလည်း အခုအချိန်မှာ နောက်ဆုံးအကြိမ် ဆွေးနွေးသုံးသပ်ဖို့ သင့်တယ်လို့ ယူဆမိပါတယ်၊ ကျွန်တော်တို့အနေနဲ့ ဒီကိစ္စမှာ ရာနှုန်းပြည့် သေချာအောင် လုပ်ထားဖို့လဲ လိုအပ်ပါတယ်"

ရာဇင် ပြောလိုက်ရင်း သူ၏ ဖိုင်တွဲများထားရာ ဗီရိုဆီသို့ လျှောက်သွားစဉ် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က

"ကျုပ်တို့ အစီအစဉ် ရာနှုန်းပြည့် အောင်မြင်ဖို့ သေချာပါတယ်၊ ဒါကို ကျုပ် သံသယရှိလို့ မဟုတ်ပါဘူး။ ဗီရာကို ကျုပ်တို့လက်က မလွှတ်လိုက်ရသေးခင် နောက်ဆုံးအကြိမ် သုံးသပ် ကြည့်ချင်လို့ပါ"

ဟု ပြောလိုက်သည်။

ဗိုလ်ချုပ်ကြီးက ဗီရာကို ကျုပ်တို့လက်က လွှတ်လိုက်ရတော့မည်ဟူ၍

စကားလုံး သုံးလိုက်ခြင်းသည် ပင်လျှင် ရာဇင်အဖို့ စိတ်ထဲတွင် တုန်လှုပ်စေလေသည်။ သူ ချစ်မြတ်နိုးသော ဗီရာအား လုံးဝ စွန့်လွှတ်လိုက်ရတော့မလို ဖြစ်နေပေသည်။

ရာဇင်သည် သူမ၏ စိတ်ထိခိုက်လှုပ်ရှားမှုကို အသာချုပ်တည်းလျက် ဗီရိုထဲမှ စက္ကင်းလေဒီ စစ်ဆင်ရေးဟု အမည်ရေး မှတ်ထားသော ဖိုင်တွဲ သုံးခုကို ထုတ်ယူလိုက်ပြီး စားပွဲပေါ် တင်လိုက်သည်။

"ဒီဖိုင်တွေထဲမှာ အားလုံး အပြည့်အစုံရှိပါတယ် ဗိုလ်ချုပ်ကြီးခင်ဗျာ၊ စာရွက်စာတမ်းတွေ တိုးတက်မှု မှတ်တမ်းတွေ၊ အပတ်စဉ် ဘာလုပ်ခဲ့တယ်ဆိုတဲ့ အစီအစဉ် ဇယားတွေ အားလုံးရှိပါတယ်။ ဝန်ကြီးချုပ်က ကျွန်တော်တို့ကို ဆက်လုပ်ဖို့ ခွင့်ပေးတဲ့ အမိန့်ပေးခဲ့တဲ့နေ့ကစပြီး ဒီနေ့အထိ နေ့စဉ်မှတ်တမ်းတွေလဲ ရှိပါတယ်"

ရာဇင်က ဤသို့ ပြောလိုက်ရာ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် အပေါ်ဆုံးမှ ဖိုင်တွဲကို ဖွင့်လိုက်သည်။

"ကျုပ်က အပေါ်ယံလောက်ပဲ လေ့လာကြည့်မှာပါ၊ သိပ်မကြာပါဘူး၊ ဒါထက် မောင်ရင့်အခန်းမှာ သောက်စရာ ယမကာများ တခုခုရှိသလား"

"ဟုတ်ကဲ့ ရှိပါတယ်။ ရေခဲတော့ မရှိပါဘူး"

"ရေခဲ မလိုပါဘူးကွာ"

ဗိုလ်ချုပ်ကြီးက ပြောလိုက်သောအခါ ရာဇင်သည် အသင့်ရှိသော ဗော့ဒ်ကာ အရက်ပုလင်းကို ယူ၍ ဖန်ခွက်နှစ်ခွက်တွင် အနည်းငယ်ထည့်ပြီး တခွက်ကို ဗိုလ်ချုပ်ကြီး ပီထရော့ဗ်အား ပေးလိုက်သည်။

အရက်ခွက်ကို ယူသောက်ရင်း ဗိုလ်ချုပ်ကြီးသည် ဖိုင်တွဲကို လှန်ကြည့်နေလေသည်။

"ကျုပ် မှတ်မိနေပါပြီ၊ ကျုပ်တို့ အလုပ်စပုံက အမေရိကန် သမ္မတ အိမ်တော်ရဲ့ပုံစံအတိုင်း ဆက်တင် အခန်းတွေ ဆောက်ယူခဲ့တယ်"

"ဟုတ်ပါတယ် ဗိုလ်ချုပ်ကြီး၊ ကျွန်တော်တို့ တည်ဆောက်ခဲ့တဲ့ အခန်းတွေက ဝါရှင်တန်မြို့က အမေရိကန် သမ္မတအိမ်တော်က အခန်းတွေနဲ့ တထေရာတည်းတူအောင် ဖန်တီးနိုင်ခဲ့ပါတယ်။ အခန်းအားလုံးကိုတော့ မဆောက်ခဲ့ပါဘူး။ ဒါကြောင့် ဗီရာက တကယ့် သမ္မတအိမ်တော်ကို ရောက်သွားတဲ့အခါ ရုတ်တရက် စိမ်းနေမလားလို့တောင် ကျွန်တော် က

စိုးရိမ်မိပါတယ်"

"ဒါ့အတွက် ဘာမှ မစိုးရိမ်ပါနဲ့၊ ဗီရာကိုယ်တိုင်က သူကြည့်လုပ်သွားပါမယ်လို့ ကတိပေးထားပြီပဲ၊ ပြဿနာ မရှိနိုင်ပါဘူးတဲ့"

"ဒါလဲ ဟုတ်နိုင်တာပါပဲ၊ ကျွန်တော်တို့က သမ္မတအိမ်တော်ရဲ့ ပုံတူ အခန်းတွေ တည်ဆောက်နေဆဲ မှာပဲ ဝါရှင်တန်မှာရှိတဲ့ ကျွန်တော်တို့ရဲ့ အေးဂျင်း (သူလျှို) တွေဆီက သတင်းအချက်အလက်တွေ တောင်းယူပြီး ဘာမှ လိုလေသေး မရှိအောင် လုပ်ခဲ့ပါတယ်"

သူပြောသည့်အတိုင်း တကယ်လည်း လုပ်ခဲ့ပေသည်။ အမေရိကန်နိုင်ငံ၏ ကေ-ဂျီ-ဘီ (ထောက်လှမ်းရေး) သူလျှိုများက သတင်း အချက်အလက်များ ဓာတ်ပုံများ၊ ရုပ်ရှင်ဖလင်များ၊ သမ္မတကတော် ဘီလီ စကားပြောပုံကို အသံဖမ်းယူထားသည့် တိတ်ခွေများ အပြည့်အစုံကို တောက်လျှောက် ပို့ပေးခဲ့လေသည်။

ယင်းပစ္စည်း ကိရိယာများကို အသုံးချပြီး ဗီရာက အထူးကြိုးစား လေ့ကျင့်ခဲ့ပေသည်။ အမေရိကန် သမ္မတကတော်ဘီလီ၏ စကားပြောပုံ လေယူလေသိမ်းနှင့် သူမပြောဆိုသုံးလေ့ရှိသော အင်္ဂလိပ် စကားလုံးများက အစ ပြဇာတ်မင်းသမီးဗီရာက အတိအကျ အတုခိုး၍ လေ့ကျင့်ခဲ့လေသည်။

ထိုအတောအတွင်း ဗီရာ၏ ခန္ဓာကိုယ် အတိုင်းအထွာများသည် လည်းကောင်း၊ မျက်နှာအလှပြင်ပုံ ဆံပင်ပုံ ထားပုံတို့တွင်လည်း အမေရိကန် သမ္မတကတော်နှင့် တပုံစံတည်း ဖြစ်အောင် ပြုပြင် ဖန်တီးထားပြီး ဖြစ်နေသည်။

ထို့ပြင် သမ္မတကတော် ဘီလီ၏ ဆေးဝါးကုသခံခဲ့မှု မှတ်တမ်းများ၊ သွားဘက်ဆိုင်ရာ ဆရာဝန်ထံ သွားရောက် ကုသခံခဲ့ပုံ မှတ်တမ်းများကိုလည်း အမေရိကန်ရှိ ကေ-ဂျီ-ဘီ သူလျှိုများက ဖြစ်သည့်နည်းနှင့် မိတ္တူရအောင် ကြံဖန်ပြီး ပို့ပေးခဲ့ရာ အသေးစိတ် လိုအပ်ချက်များကိုပါ လေ့လာခွင့် ရရှိခဲ့ပေသည်။

ရာဇင်သည် အလုပ်တခုကိုလုပ်လျှင် အသေးအဖွဲကိစ္စများမှ အစ သေချာစေ့စပ်စွာ အပင်ပန်းခံ လုပ်လေ့ ရှိလေသည်။

ဗီရာအား အမေရိကန်သမ္မတကတော်အဖြစ် သရုပ်ဆောင်ရန် လေ့ကျင့်သင်ကြားပေးနေရင်း ရာဇင်အနေဖြင့် ပြဿနာတခုကို စဉ်းစားမိလေသည်။

သမ္မတကတော် ဘီလီသည် ညဘက် အိပ်ခန်းအတွင်း ခင်ပွန်းဖြစ်သူ သမ္မတကြီးနှင့် နှစ်ယောက်တည်း ရှိနေချိန်၌ အဝတ်အစား လုံးဝမဝတ်ဘဲ ဗလာကျင်းနေဖို့များသည်။ သို့ဖြစ်လျှင် သမ္မတကတော် ဘီလီကို ဝတ်လစ်စလစ်ဖြင့်

မြင်ရလျှင် မည်သို့ နေမည်နည်းဟု စဉ်းစားမိသည်။

ဤတွင် ဘီလီ၏ ဝတ်လစ်စလစ် ဓာတ်ပုံတပုံကို လိုချင်လာသည်။ ယင်းဓာတ်ပုံကိုကြည့်ပြီး မိမိတို့၏လူ ဗီရာကို ပြုပြင်သင့်က ပြုပြင်နိုင်မည် ဖြစ်ပေသည်။

ထို့ကြောင့် ရာဇင်သည် အမေရိကန်သမ္မတကတော် ဘီလီ၏ ကိုယ်လုံးတီးဓာတ်ပုံတပုံ ရရှိရေး အတွက် ကြိုးစားခဲ့လေသည်။

အမေရိကန် အမျိုးသမီးများသည် လုံခြုံစိတ်ချရသော ရေကူးကန် သို့မဟုတ် ပင်လယ်ကမ်းခြေ အပန်းဖြေစခန်းများသို့ ရောက်သည့်အခါ လွတ်လပ်စွာ ရေကူးခြင်း၊ နေပူဆာလှုံခင်းတို့ ပြုလုပ်လေ့ ရှိကြရာ ရံဖန် ရံခါ ရေကူးဝတ်စုံ မဝတ်ဘဲ မိမွေးတိုင်း ဖမွေးတိုင်း ဗလာကျင်း၍ ရေကူးတတ်သည်။ နေပူဆာလှုံတတ်သည်ဟု ရာဇင်က သိရှိနားလည်ထားသည်။

ထို့ကြောင့် သမ္မတကတော် ဘီလီသည်လည်း တချိန်မဟုတ် တချိန်တွင် ရေကူးဝတ်စုံ မဝတ်ဘဲ ရေကူးလိမ့်မည်ဟု မျှော်လင့်လျက် ရာဇင်က အလွန်ကျွမ်းကျင်သော ကြေးစားဓာတ်ပုံ ဆရာတဦးကို အခကြေးငွေ မြောက်မြားစွာပေး၍ ငှားလိုက်သည်။ ထိုဓာတ်ပုံဆရာ၏ တာဝန်မှာ အဝေးမှ ဓာတ်ပုံ ရိုက်ယူနိုင်သော တယ်လီစကုတ် မှန်ဘီလူးပါသည့် ကင်မရာတလုံးနှင့် သမ္မတကတော် ဘီလီ အပန်းဖြေ ခရီးထွက်သည့် နေရာတိုင်းသို့ နောက်မှလိုက်၍ အခြေအနေပေးလျှင် အဝေးမှ ဓာတ်ပုံရိုက်ယူရန်ပင်ဖြစ်သည်။

ဓာတ်ပုံဆရာကလည်း သဘောတူလက်ခံ၍ ကြိုးစားလေတော့သည်။

ပထမတစ်နှစ်လုံးလုံး အခွင့်မကြုံသော်လည်း စိတ်ရှည်ရှည်နှင့် ဆက်လက်စောင့်ကြည့်ခဲ့ရာ ဒုတိယနှစ်မှာ အခြေအနေက ပေးလာလေသည်။ ထိုနှစ်က အမေရိကန်နိုင်ငံဆိုင်ရာ အီတလီ သံအမတ်ကြီး၏ ဖိတ်ကြားချက်အရ သမ္မတကတော်ဘီလီသည် အီတလီနိုင်ငံ စစ်စလီကျွန်း တနေရာရှိ လူသူရှင်းသလောက် သာယာသော ပင်လယ်ကမ်းခြေ စခန်းသို့ ရက်သတ္တတစ်ပတ်မျှ အပန်းဖြေခရီး ထွက်ခဲ့လေသည်။

ရာဇင်၏ ဓာတ်ပုံဆရာသည်လည်း စစ်စလီကျွန်းသို့ လိုက်သွားလေသည်။

အပန်းဖြေစခန်းတွင်နေ၍ တတိယမြောက်နေ့တွင် ရာသီဥတုက အထူးကြည်လင် သာယာနေရာ လူသူပရိသတ်လည်း ရှင်းနေသဖြင့် သမ္မတကတော် ဘီလီသည် အဝတ်အစား လုံးဝမပါဘဲ လွတ်လပ်စွာ ရေကူးလေသည်။

ဤတွင် အဝေးမှ တယ်လီစကုတ် (မှန်ဘီလူး) တပ် ကင်မရာဖြင့်

ချောင်းနေသူ ဓာတ်ပုံဆရာက ဓာတ်ပုံတွေ အားရပါးရ ရိုက်လေသည်။ ထိုဓာတ်ပုံများ မော်စကိုမြို့သို့ ရောက်လာသောအခါ ရာဇင်သည် အထူးပင် ဝမ်းမြောက်ကျေနပ်မိတော့သည်။

ပြဇာတ်မင်းသမီး ဗီရာကိုလည်း အလားတူ အဝတ်အစားမပါဘဲ ဓာတ်ပုံ ရိုက်ကူးယူပြီးနောက် အမေရိကန်သမ္မတကတော်၏ ဝစ်လစ်စလစ်ပုံမျိုးများနှင့် အတူချကာ လေ့လာကြည့်ရှုလေသည်။

ရာဇင်သည် အလွန် သေချာစေ့စပ်သူ ဖြစ်သည့်အလျောက် အမျိုးသမီးနှစ်ဦး၏ ဓာတ်ပုံများကို နှိုင်းယှဉ်ကြည့်ရာတွင် ရိုးရိုးမျက်စိနှင့် မကြည့်ဘဲ မှန်ဘီလူးနှင့်ကြည့်ပြီး နေရာတကာတွင် နှိုင်းယှဉ်ကြည့်လေသည်။

ထိုအခါ အမျိုးသမီးနှစ်ဦးစလုံး ခန္ဓာကိုယ် သဘာဝအနေအထားခြင်း ရာနှုန်းပြည့်နီးပါး တူညီနေသည့်အတွက် ရာဇင်သည် အထူးပင် ကျေနပ် အားတက်မိလေသည်။

သို့သော် အသေးစိတ်အချက် အချို့တွင် ကွာခြားချက်များ ရှိနေကြောင်း တွေ့ရလေသည်။

အမေရိကန် သမ္မတကတော်ဘီလီ၏ကိုယ်တွင် တချိန်က အူအတက်ပေါက်၍ ခွဲစိတ်ကုသထားသည့် အမာရွတ်တခု ရှိနေသည်။ ဗီရာတွင်ကား ယင်းအမာရွတ်မျိုး မရှိသဖြင့် ရာဇင်က ဗီရာ၏ ကိုယ်တွင် အလားတူ အမာရွတ်ဖြစ်အောင် ခွဲစိတ်ကုသမှု ဆရာဝန်များနှင့် ဖန်တီးယူရန် စီစဉ်လိုက်လေသည်။

ဗီရာသည် မိမိအား ဘာကြောင့် ထိုမျှ အသေးစိတ်ကိစ္စများတွင်ပါ သမ္မတကတော် ဘီလီနှင့် တထေရာတည်း တူအောင် ဖန်တီးနေရလေသနည်းဟု ကောင်းစွာ သဘောမပေါက်နိုင်ချေ။ သူမအား အဝတ်အစား မပါ ဓာတ်ပုံရိုက်ယူခြင်းကိုလည်း ဗီရာက ကန့်ကွက်ခဲ့သေးသည်။ သို့သော် ရာဇင်က မလုပ်မဖြစ် အရေးကြီးလုပါသည်ဟု သိမ်းသွင်းဖျောင်းဖျပြီး ဓာတ်ပုံရိုက်ယူခဲ့လေသည်။

ထိုအချိန်အထိ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ဗီရာအား မည်သို့ အသုံးချမည်ကို အသေးစိတ် ပြောမပြသေးချေ။ သူ၏ လျှို့ဝှက်အကြံအစည်ကို အမှန်အတိုင်း ဖွင့်မပြောသေးဘဲ လျှို့ဝှက် ထားဆဲပင် ဖြစ်လေသည်။

သို့သော် တချိန်မဟုတ် တချိန်တွင် အမှန်ကို ဖွင့်ပြောရတော့မည် ဟူ၍ကာ သူ၏စိတ်ထဲ သိနေလေသည်။

*

ထို့ကြောင့် တနေ့ မွန်းလွဲပိုင်း လေ့ကျင့်ခန်းအပြီးတွင် ဗီရာ၏အခန်း၌ပင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ရာဇင်ကိုပါ ခေါ်၍ သုံးယောက်သား ထိုင်စကား ပြောကြလေသည်။

"အခု ကျုပ်တို့ လုပ်နေတာရဲ့ တကယ်ရည်ရွယ်ချက် အမှန်ကို သိသလား"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ရာဇင်ကို ရှေးဦးစွာ မေးလိုက်သည်။

"ဟုတ်ကဲ့ ကျွန်တော် ခန့်မှန်းကြည့်လို့ရပါတယ်"

ရာဇင်က ပြန်ပြောပြီးနောက် ဗိုလ်ချုပ်ကြီးသည် ဗီရာဘက်သို့ လှည့်မေးပြန်သည်။

"မင်းကကော ရည်ရွယ်ချက် အမှန်ကို ခန့်မှန်း စဉ်းစားလို့ ရသလား"

"နောက်ထပ် ရုပ်ရှင်ရိုက်ဖို့ဆိုတာတော့ ရိုပ်မိတယ်ရှင့်၊ အဲဒါအပြင် ကျွန်မနားမလည်နိုင်တဲ့ ကေ-ဂျီ-ဘီ အဖွဲ့ ကိစ္စတခုခုရှိလို့ပဲလို့သာ တွေးမိပါတယ်"

"အေး မင်းထင်တာလည်း မမှားလှပါဘူး၊ ကောင်းပြီ မင်းတို့နှစ်ယောက်စလုံးကို ယုံကြည်စိတ်ချလို့ ငါက အမှန်ကို အခုပြောမယ်၊ သေသေချာချာ နားထောင်ကြပေတော့"

ဤသို့ အစချီကာ ဗိုလ်ချုပ်ကြီး ပီထရော့ပ်၏ လျှို့ဝှက်အကြံအစည် တခုလုံးကို အသေးစိတ် ဖွင့်ပြောလေသည်။ ထိုအကြံအစည်ကို လက်တွေ့ အကောင်အထည်ဖော်ရန် လိုချင်မှ လိုမည်။ သို့သော် အဆင်သင့် ဖြစ်အောင်တော့ အမြဲပြင်ဆင်ထားရမည်ဟုလည်း ပြောသည်။ အထူးသဖြင့် လာမည့်ကာလတွင် ဆိုဗီယက်ယူနီယံနှင့် အမေရိကန် နှစ်နိုင်ငံ ထိပ်တိုက်တွေ့ရမည့် နိုင်ငံရေး ပြဿနာများ ပေါ်လာဖွယ်ရှိကြောင်းကိုလည်း သတိပေး ပြောလေသည်။

"အဲဒီလိုဖြစ်လာတာနဲ့ ဗီရာက အမေရိကန် သမ္မတကတော် ဘီလီအဖြစ် လူစားဝင်ပြီး ဝါရှင်တန်မြို့ သမ္မတအိမ်တော်မှာ သွားနေရလိမ့်မယ်၊ အချိန်ကာလကတော့ ဘာမှ မကြာပါဘူး၊ ခဏလေး ဖြစ်မှာပါ၊ သို့သော် အဲဒီအချိန်ဟာ ဗီရာအဖို့ သရုပ်ဆောင်မင်းသမီးတဦးအနေနဲ့ အခက်ခဲဆုံး အခန်းက ပါဝင်သရုပ်ဆောင်ရမှာ ဖြစ်တဲ့အပြင် အင်မတန်မှလည်း အန္တရာယ်ရှိလိမ့်မယ်"

ပီထရော့ဗ်က ဤသို့ စကားကို အဆုံးသတ်လိုက်သည်။ သူသည် လက်ထောက်အရာရှိ ရာဇင်အတွက် အထူးမစိုးရိမ်ချေ။ ရာဇင်က ဉာဏ်ထက်မြက်သူဖြစ်၍ စီမံချက်၏ အသေးစိတ် အကြောင်းအရာ များကို ကြိုတင်

ရိပ်မိနေမည်ဖြစ်သည်။ ဗီရာအတွက်ကိုမူ အနည်းငယ် စိုးရိမ်မိသည်။ သူမသည် စိတ်ခံစွမ်းခိုင်မာသူတဦး ဖြစ်သော်လည်း ယခုလို နဖူးတွေ့ ဒူးတွေ့ အချိန်မျိုးတွင် စိတ်ခံစွမ်း ကြံ့ခိုင်စွာဖြင့် လက်တွေ့ လုပ်နိုင်ပါမည်လောဟု အနည်းငယ် သံသယဖြစ်မိလေသည်။

ထို့ကြောင့် ယခုအချိန်တွင် အမှန်ကို သိရမှ ဖြစ်ပေမည်။

သုံးယောက်သား ခေတ္တ ငြိမ်နေကြပြီးနောက် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က စတင်မေးလေသည်။

"ဘယ့်နှယ်လဲ ဗီရာ၊ အခု အမှန်ကို သိရပြီးတော့ ဘယ်လို့ သဘောရသလဲ၊ ငါတို့ပေးတဲ့ တာဝန်ကို မင်း ဆက်လုပ်နိုင်ပါ့မလား"

"ဟုတ်ကဲ့ရှင့် ကျွန်မ ဆက်လုပ်ပါမယ်၊ ဒီလို သရုပ်ဆောင်ဖို့ အခွင့်အရေးမျိုး ကျွန်မအနေနဲ့ နောက်ထပ် ရနိုင်မှာလည်း မဟုတ်ပါဘူး၊ ဒါကြောင့် ကျွန်မ လုပ်ဖို့ အသင့်ရှိပါတယ်"

ဗီရာက ရဲရင့်ပြတ်သားစွာပင် အဖြေပေးလိုက်သည်။

ယင်းသို့ တွေ့ဆုံပြောပြပြီးနောက်တစ်နေ့မှာပင် ဗီရာအား ကေ-ဂျီ-ဘီ ဆရာဝန်ကြီးများက ပလတ်စတစ် ဆာဂျရီနည်းဖြင့် သူမ၏ကိုယ်တွင် အမေရိကန်သမ္မတကတော်ကဲ့သို့ အလားတူ အမာရွတ်တခု ရှိလာအောင် ဖန်တီးလိုက်ကြလေသည်။

ထို့နောက် ရာဇင်သည် ဝန်ကြီးချုပ် ကီရင်ချင်ကို၏ သီးသန့် သွားဘက်ဆိုင်ရာဝန်ကြီးထံသို့ ဗီရာကို ခေါ်သွားပြီး စစ်ဆေးကြည့်ရှုစေလေသည်။ အမေရိကန်ရှိ ကေ-ဂျီ-ဘီ သူလျှိုများက ပို့ပေးလိုက်သော သမ္မတ ကတော်ဘီလီ၏ သွားပုံစံ မိတ္တူနှင့် နှိုင်းယှဉ် စစ်ဆေးစေရာ ဆရာဝန်ကြီးက

"အင်း အတော် အံ့သြစရာ ကောင်းတယ်။ အမျိုးသမီးနှစ်ဦးစလုံးရဲ့သွားပုံစံ အနေအထားက တော်တော်လေး တူနေတယ်။ နောက်ဆုံးက အံသွားတွေကသာ နည်းနည်း ကွာခြားတယ်"

ဟု မှတ်ချက်ချလေသည်။

"အဲဒီ ကွာခြားချက်ဟာ အလွယ်တကူနဲ့ ရိပ်မိနိုင်ပါသလား ဒေါက်တာ"

ရာဇင်က မေးလိုက်ရာ သွားဘက်ဆိုင်ရာ ဆရာဝန်ကြီးက ခေါင်းခါပြလိုက်လေသည်။

"သာမန်လူတွေအနေနဲ့ လုံးဝ မရိပ်မိနိုင်ဘူး။ သွားဘက်ဆိုင်ရာ ဆရာဝန်တဦးဦးက သေသေချာချာ လေ့လာကြည့်မှ သိနိုင်မယ်၊ တခြားကော ဘာများ ခြားနားချက် ရှိပါသေးသလဲ"

ဤတွင် သွားဘက်ဆိုင်ရာ ဆရာဝန်ကြီးသည် အမေရိကန်သမ္မတကတော် ဘီလီ၏ သွားပုံစံ စာအုပ်ကို သေချာစွာ ပြန်ကြည့်ပြီးမှ ဖြေလေသည်။

"ခြားနားချက်တခုက ဗီရာရဲ့သွားတွေအားလုံးဟာ နဂိုသဘာဝ သွားတွေအတိုင်းပဲ ရှိပါတယ်။ ဒါပေမဲ့ အမေရိကန် သမ္မတကတော်ရဲ့အံသွားနှစ်ချောင်းက သွားစိုက်ဆရာရဲ့လက်ရာနဲ့ ဖာထားတာ တွေ့ရတယ်"

"ဟုတ်လား ဒါဖြင့် ဗီရာရဲ့အံသွားကိုလည်း အဲဒီလို တထေရာတည်း တူအောင် လုပ်ယူလို့ မရဘူးလား"

"သွားအကောင်းကို တိုက်စားပစ်ပြီး ဖာလိုက်ရင် ဖြစ်နိုင်ပါတယ်"

ဤသို့ တိုင်ပင် ဆွေးနွေးပြီး နောက်ပိုင်းတွင် ရာဇင်သည် ဗီရာ၏ သွားများကိုပါ ပြုပြင်စေခဲ့ပါသည်။

ဤသည်မှာလည်း ကြိုတင် ကာကွယ်သည့် အစီအစဉ်တရပ် ဖြစ်လေသည်။

အကယ်၍ ဗီရာက အမေရိကန်သမ္မတကတော်အဖြစ် သွားရောက် နေရာယူထားခိုက် ဝါရှင်တန်မြို့ သမ္မတအိမ်တော်၏ သီးသန့် သွားစိုက်ဆရာထံ သွားရန် အခြေအနေ ဖြစ်ပေါ်လာခဲ့သော် ဆရာဝန်ကိုယ်တိုင်က ဗီရာ၏သွားများကို စစ်ဆေးကြည့်သောအခါ မယုံသင်္ကာမဖြစ်စေရန် ရာဇင်က ကြိုတင်စီစဉ်လိုက်ခြင်းပင် ဖြစ်လေသည်။

ထိုအတောအတွင်း ရာဇင်သည် ဗီရာအား တကယ့် အမေရိကန် အမျိုးသမီးတယောက်ကဲ့သို့ တိကျစွာ နေထိုင်စေလေသည်။ စကားပြောလျှင် ရုရှလို မပြောရဘဲ အင်္ဂလိပ်ဘာသာဖြင့်သာ ပြောရသည်။ အစားအစာကိုလည်း အမေရိကန် အစားအသောက်များသာ စားစေသည်။ နံနက်စာ စားသည့်အခါ အမေရိကန်မှ မှာယူရရှိသော ခရမ်းချဉ်သီးဖျော်ရည် စသည်တို့ကို စားသောက်ရသည်။ ပြောဆိုတွေးခေါ်ရာ၌ အမေရိကန်သူတဦးနှင့်တူအောင် ဗီရာသည် နေ့စဉ် နယူးယောက်တိုင်း သတင်းစာနှင့် ဝါရှင်တန်ပို့စ် သတင်းစာများကို မှန်မှန် ဖတ်ရသည်။

ထို့ပြင် အမေရိကန် သမ္မတကတော် ဘီလီ၏ အိမ်ထောင်စု မိသားစုနှင့်တကွ ဆွေမျိုးသားချင်း မိတ်ဆွေ အပေါင်းအသင်း အားလုံးနှင့်

ပတ်သက်၍လည်း ဗီရာသည် အသေးစိတ် လေ့လာ ကျက်မှတ်ထားရသည်။ မိဘများအိမ်တွင် ခွေးတကောင် အလှမွေးထားသည်ကအစ သိနေအောင် ဓာတ်ပုံများနှင့်အတူ ယှဉ်ကာ လေ့လာမှတ်သားရသည်။

တဖန် သမ္မတကတော် ဘီလီ ကျောင်းနေစဉ်က ဖြေကြားခဲ့သော စာမေးပွဲမေးခွန်းများ၊ သုတေသန စာတမ်းများအကြောင်းကိုလည်း ရာဇင်က လေ့လာပြီးလက်တွေ့လည်း ဖြေကြားရသေးသည်။ ကျောင်းနေဘက်မိတ်ဆွေအပေါင်းအသင်းများ၊ သူမနှင့် ထိတွေ့သိကျွမ်းခဲ့သူ ဆရာ ဆရာမများ၊ ပါမောက္ခများအကြောင်းကိုလည်း ဂရုစိုက်၍ လေ့လာမှတ်သားရလေသည်။

နယူးယောက်၊ ချီကာဂို၊ ဒင်ဗာမြို့များ၌ ရှိသော ဆွေမျိုးသားချင်း ဦးလေး၊ အဒေါ်များအကြောင်း ကိုလည်း ကောင်းစွာ သိရှိနေစေရန် ဓာတ်ပုံများနှင့်တကွ လေ့လာရလေသည်။

ထို့နောက် ဗီရာသည် သမ္မတကြီး အင်ဒရူးဘရက်ဖို့ဒ်၏ အပေါင်းသင်းများအကြောင်းကိုလည်း ဆက်လေ့လာရပြန်လေသည်။ သမ္မတအိမ်တော်ရုံးအဖွဲ့၌ ဝန်ထမ်းများ၊ အရာရှိများကအစ ကက်ဘိနက် (အစိုးရ) အဖွဲ့ဝင် ဝန်ကြီးများ ကွန်ဂရက် လွှတ်တော်အမတ်များ၊ ဆီနိတ် (အထက်လွှတ်တော်) အမတ်များ၊ နိုင်ငံရေးခေါင်းဆောင်များပါ မကျန် အားလုံးကို ကောင်းစွာ သိကျွမ်းနေအောင် အသေးစိတ် ကြိုတင်လေ့လာထားရလေသည်။

တချိန်တည်းမှာပင် သူမသည် သမ္မတကြီး အင်ဒရူးဘရက်ဖို့ဒ်အကြောင်းကိုပါ အသေးစိတ် လေ့လာ မှတ်သားရလေသည်။ သမ္မတကြီး၏ ဝါသနာ စရိုက်အကြောင်း၊ သူသည် ဘာကို ကြိုက်တတ်၍ ဘာကိုမကြိုက်တတ်ကြောင်း၊ သူ၏ အလေ့အကျင့်များအကြောင်း တကယ့် သမ္မတကတော် ဘီလီ သိနေမည့် အချက်အလက် မှန်သမျှကို ဗီရာကလည်း အလုံးစုံ သိနေရန် ရာဇင်သည် အထူးကြိုးစား၍ သင်ကြားပို့ချပေးခဲ့လေသည်။

ရာဇင်အနေဖြင့် စိတ်ထဲ ဘဝင်မကျနိုင်သော အချက်တချက် ရှိနေပြန်လေသည်။ အကယ်၍ မိမိတို့က ဗီရာအား အမေရိကန်သမ္မတကတော် ဘီလီနေရာတွင် လူစားထိုး၍ လဲထားလိုက်နိုင်ပြီထားဦး ဗီရာသည် အမေရိကန်သမ္မတ အင်ဒရူးဘရက်ဖို့ဒ်နှင့် ညဘက်ကျလျှင် တခါတည်း အတူ အိပ်ရတော့မည် ဖြစ်လေသည်။ ထိုအခါ သမ္မတကြီးက ဗီရာအား သူ့ဇနီး ဘီလီ မဟုတ်ကြောင်း ရိပ်မိသိရှိသွားလေမည်လား။

မရိပ်မိစေရန် ဗီရာက ညအိပ်ရာတွင်လည်း သမ္မတကတော် ဘီလီကဲ့သို့ ခင်ပွန်းသည်နှင့် ဆက်ဆံတတ်ရမည်ဖြစ်သည်။

ဤနေရာတွင် မိမိက ဗီရာအား မည်သို့ သင်ကြား ပို့ချပါမည်နည်း။

အမေရိကန်သမ္မတ အင်ဒရူးဘရက်ဖို့ဒ်သည် ညဘက် ဇနီးသည်နှင့် အိပ်ရာဝင်သည့်အခါ မည်သို့ မည်ပုံ ဆက်ဆံလေ့ရှိသနည်း။

ထိုမေးခွန်းများ အဖြေကို ရာဇင်သည် စဉ်းစား၍ မရနိုင်သဖြင့် အလွန် စိတ်ညစ်နေမိလေသည်။

ဤကိစ္စမျိုးသည် မိမိတို့ ကေ-ဂျီ-ဘီ (ထောက်လှမ်းရေး) သူလျှိုများကလည်း အလွယ်တကူ စုံစမ်းထောက်လှမ်း၍ မရနိုင်ချေ။

မည်သို့ကြံရပါမည်နည်းဟု စဉ်းစားအကြံထုတ်နေစဉ်မှာပင် ဝါရှင်တန်မြို့ရှိ အမေရိကန် အမျိုးသား ကေ-ဂျီ-ဘီ အေးဂျင်း (သူလျှို) တဦးထံမှ အသုံးဝင်သည့် သတင်းတခု ရရှိခဲ့လေသည်။

ထိုသတင်းကတော့ အမေရိကန် သမ္မတက အိမ်ဖြူတော်မှ ဆရာဝန်ကြီး ဒေါက်တာကန်းမင်း၏ သူနာပြုဆရာမကလေး အီဆိုဘယ်ဆိုသူသည် ရံဖန်ရံခါ (သမ္မတကတော် ခရီးထွက်နေချိန်တွင်) သမ္မတကြီးနှင့်အတူ တိတ်တိတ်ပုန်း အိပ်လေ့ရှိသည်ဟူသော သတင်းပင် ဖြစ်လေသည်။

ထိုသတင်းကို ရာဇင်သည် ချက်ချင်း စိတ်ဝင်စားမိလေသည်။ ဤအတိုင်းဆိုလျှင် အမေရိကန် သမ္မတ၏ ညဘက်အိပ်ခန်းတွင်း အပြုအမူ အလေ့အကျင့်တို့ကို သိရှိနိုင်ရန် လမ်းစပေါ်လာပြီဟု တွက်မိလေသည်။

အမေရိကန်အမျိုးသား (ကေ-ဂျီ-ဘီ) သူလျှို၏ သတင်းက မှန်မမှန် သေချာစေရန် ရာဇင်သည် ဝါရှင်တန်မြို့၌ မိမိတို့ အဖွဲ့သား (အခြား ကေ-ဂျီ-ဘီ စုံထောက်များ) အား သူနာပြုဆရာမကလေး အီဆိုဘယ်၏အတွင်းရေးကို စုံစမ်းကြည့်စေရာ မူလသတင်းသည် အမှန်ပင် ဖြစ်ကြောင်း အတည်ပြုလိုက်လေသည်။

မကြာမီ ရာဇင့်ညွှန်ကြားချက်ဖြင့် ဝါရှင်တန်မြို့ ဆိုဗီယက်သံရုံးမှ ကေ-ဂျီ-ဘီ ထောက်လှမ်းရေး အဖွဲ့ဝင် နှစ်ဦးသည် သူနာပြုဆရာမလေး အီဆိုဘယ်နှင့် သွားတွေ့ဆုံလေသည်။

ပထမတွင် သူမက သမ္မတနှင့်ဆက်ဆံရေးအကြောင်း ငြင်းသေးသည်။ သို့သော် ကေ-ဂျီ-ဘီ နှစ်ဦးက သူတို့သိထားသော အကြောင်းများကို ဖော်ထုတ်မည်ဟု ခြိမ်းခြောက်သောအခါ ဆရာမကလေးက ဝန်ခံရလေတော့သည်။ ဆရာမကလေးထံမှ အရေးကြီးသော အချက်အလက်အချို့ သိခဲ့ရသည်ကား သမ္မတကတော် ဘီလီ၏ ကျန်းမာရေး အခြေအနေကြောင့် ဆရာဝန်များ၏

ညွှန်ကြားချက်အရ တလခန့် သမ္မတကြီးနှင့် အတူမအိပ်ရဟူသော အချက်ပင်ဖြစ်သည်။

ယင်းအချက်ကို မော်စကိုမြို့သို့ အစီရင်ခံလိုက်သောအခါ ရာဇင်သည် အလွန်ဝမ်းမြောက် အားတက်သွားမိလေသည်။ မိမိတို့က လူစားထိုးလဲတော့မည် ဗီရာက သမ္မတကတော် ဟန်ဆောင်၍ အမေရိကန်သမ္မတ အိမ်ဖြူတော်၌ ရှိနေစဉ်ကာလအတွင်း လင်မယား အတူမအိပ်ရဟု ဆရာဝန် ညွှန်ကြားချက်က ရှိနေမည်ဖြစ်ရာ ယင်းပြဿနာအတွက် အခက်တွေ့နေသူ ရာဇင်အဖို့ စိတ်အေးသွားလေတော့သည်။

ကာယကံရှင် ဗီရာကိုယ်တိုင်ကလည်း ထိုအကြောင်းကို သိရသောအခါ တာဝန်တခု ပေါ့သွားပြီဟု ဝမ်းမြောက်ကျေနပ်သွားလေသည်။

ထိုအတောအတွင်း ဗီရာသည် သမ္မတကတော်အဖြစ် သရုပ်ဆောင်ရန်အတွက် နေ့စဉ်မှန်မှန် အထူးကြိုးစား လေ့ကျင့်နေရလေသည်။ စာအုပ်စာတမ်းများ၊ ဗဟုသုတဆိုင်ရာ အချက်အလက်များ ကိုလည်း မပြတ် လေ့လာ ဖတ်ရှုနေရသည်။ နိုင်ငံရေး အခြေအနေ၊ နိုင်ငံတကာ အခြေအနေများ ကိုလည်း လေ့လာနေရလေသည်။

အာဖရိကတိုက်ရှိ ဘိုအင်ဒီအမည်ရှိ နိုင်ငံငယ်တခုတွင် အမေရိကန်နှင့် ဆိုဗီယက် ယူနီယံ နိုင်ငံတို့သည် ဩဇာလွှမ်းမိုးမှု ပြိုင်လျက်ရှိရာ ထိုနိုင်ငံရှိ အတိုက်အခံ (ကွန်မြူနစ်) အုပ်စုအား ဆိုဗီယက်တို့က အားပေးနေလေသည်။

ကမ္ဘာ့ထိပ်သီးနိုင်ငံကြီးနှစ်ခုက ထိုနိုင်ငံတွင် ဩဇာ လွှမ်းမိုးရန် ကြိုးစားနေသည့် အကြောင်းကလည်း ယင်းနိုင်ငံတွင် အလွန်အဖိုးတန်သော ယူရေနီယမ်သတ္တုတွေ အမြောက်အမြား ထွက်သောကြောင့် ပင် ဖြစ်သည်။ အခြေအနေက တဖြည်းဖြည်း တင်းမာလာချိန်တွင် ရုရှဝန်ကြီးချုပ် ကီရင်ချင်ကိုသည် ကေ-ဂျီ-ဘီ (ထောက်လှမ်းရေး) အကြီးအကဲ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်အား ခေါ်ယူ၍ တိုင်ပင် ဆွေးနွေးလေသည်။

ပီထရော့ဗ်ကလည်း ဝန်ကြီးချုပ်အား အလျှော့မပေးရန် အားပေးလျက် လိုအပ်သော အကြံဉာဏ်များ အားပေးလိုက်သည်။ ဤတွင် ဝန်ကြီးချုပ် ကီရင်ချင်ကိုသည် ပိုမိုအားတက်လာကာ အမေရိကန် သမ္မတနှင့် ထိပ်သီးဆွေးနွေးပွဲတခုလုပ်ရန် အဆိုပြုလိုက်လေသည်။

ကမ္ဘာ့ငြိမ်းချမ်းရေးအတွက် ရှေးရှုလျက် အမေရိကန်သမ္မတနှင့် ဆိုဗီယက် ဝန်ကြီးချုပ်တို့သည် ထိပ်သီးဆွေးနွေးပွဲတရပ် ပြုလုပ်၍ ဘိုအင်ဒီနိုင်ငံပြဿနာကို တွေ့ဆုံဆွေးနွေး ဖြေရှင်းရန် အဆိုပြုလိုက်ခြင်း ဖြစ်လေရာ အမေရိကန်သမ္မတ

ဘရက်ဖို့ဒ်သည် ငြင်းဆန်ရန် ခက်နေသည်။

သူတို့နှစ်ဦး တွေ့ဆုံဆွေးနွေးမည့် နေရာကို ရွေးချယ်ရာ၌ အခက်တွေ့နေပြန်လေသည်။ ဂျီနီဗာနှင့် ဟယ်လ်ဆင်ကီမြို့များကို နှစ်ဘက် သဘောတူရန် ခက်နေရာမှ ဆိုဗီယက် ဝန်ကြီးချုပ်က ထိပ်သီး ဆွေးနွေးပွဲကို အင်္ဂလန်ပြည် လန်ဒန်မြို့တွင် ပြုလုပ်ရန် အဆိုပြုလိုက်သောအခါ၌မူ အမေရိကန် သမ္မတသည် မည်သို့မျှ မငြင်းနိုင်တော့ဘဲ လက်ခံ သဘောတူလိုက်ရလေတော့သည်။

သို့နှင့်ပင် ဆိုဗီယက် ဝန်ကြီးချုပ်နှင့် အမေရိကန် သမ္မတတို့သည် လန်ဒန်မြို့၌ ထိပ်သီး ဆွေးနွေးပွဲ လုပ်ရန် ပြင်ဆင်ကြရလေသည်။

နောက်ရက်သတ္တ နှစ်ပတ်ခန့်အကြာတွင် ဆိုဗီယက်ဝန်ကြီးချုပ်၏ဇနီးက အပြည်ပြည်ဆိုင်ရာ အမျိုးသမီးများ၏ ညီလာခံတခုကို မော်စကိုမြို့တွင် ကျင်းပပြုလုပ်မည်ဖြစ်ကြောင်း ကြေငြာလိုက် လေသည်။ ထိုညီလာခံသို့ တက်ရောက်ရန် ဖိတ်ကြားသည့် ကမ္ဘာ့နိုင်ငံအသီးသီးမှ အမျိုးသမီးများ အတွက် အမေရိကန်သမ္မတကတော် ဘီလီသည်လည်း တဦးအပါအဝင် ဖြစ်လေသည်။

အမှန်အားဖြင့် အမေရိကန်သမ္မတကတော် ဘီလီသည် ခရီးရှည်သွားရခြင်းကို သဘောမကျချေ။ သို့သော် ကမ္ဘာ့အမျိုးသမီးများအကြောင်း ဆွေးနွေးမည့် မော်စကို ညီလာခံသို့ မတက်ရောက်ပါက သူမအနေဖြင့် နိုင်ငံတကာအမြင်တွင် သိက္ခာကျလိမ့်မည်ဟု ယူဆမိလေသည်။ ထို့ကြောင့် သူမသည် ဆိုဗီယက်ဝန်ကြီးချုပ်ကတော်၏ ဖိတ်ကြားချက်ကို လက်ခံလိုက်လေသည်။

ထိုအတောအတွင်း ပြဇာတ်မင်းသမီး ဗီရာသည် သမ္မတကတော်အဖြစ် သရုပ်ဆောင်ရေးအတွက် ယခင်ကထက် ပိုပြီးကြိုးစား လေ့လာနေရလေသည်။ လန်ဒန်မြို့ ထိပ်သီးဆွေးနွေးပွဲ နီးကပ်လာပြီ ဖြစ်၍ အမေရိကန် သမ္မတကတော်အဖြစ် သိသင့်သိထိုက်သော နိုင်ငံရေးဆိုင်ရာ ဗဟုသုတ အချက်အလက်များကို အပြင်းအထန် လေ့လာကျက်မှတ်ရလေသည်။ တနည်းအားဖြင့် သူမသည် ဘီလီသိရှိနေသည့် အချက်အလက် အားလုံး ကောင်းစွာ သိရှိနေအောင် ကြိုးစားလေ့လာရလေသည်။

ထို့ပြင် သူမသည် ထိပ်သီး ဆွေးနွေးပွဲလုပ်မည့် လန်ဒန်မြို့တော်အကြောင်းကိုလည်း အသေးစိတ် လေ့လာရလေသည်။ ဗြိတိသျှ ဘုရင်မနှင့်တကွ အစိုးရအဖွဲ့ခေါင်းဆောင်၊ ဝန်ကြီးချုပ်၊ နိုင်ငံခြားရေး ဝန်ကြီး စသော ပုဂ္ဂိုလ်များနှင့် သူတို့၏ ဇနီးများအကြောင်းကိုပါ ကောင်းစွာ လေ့လာရလေသည်။

ယင်းဆွေးနွေးပွဲသို့ တက်လာမည့် ဘိုအင်ဒီနိုင်ငံ သမ္မတနှင့် သူ၏ လန်ဒန်မြို့ရှိ သံအမတ်ကြီး အကြောင်းကိုလည်း လေ့လာရလေသည်။

ယင်းသို့ ဗီရာသည် နောက်ဆုံးအဆင့် လေ့လာမှုပြုရာတွင် ရာဇင်က အထူးကြိုးစား၍ ကူညီ ပို့ချပေးရလေသည်။

ပြင်ဆင်မှုများ ပြီးစီးလုချိန်တွင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ယူကြည့်ပြီး ကျေနပ်ဟန်ဖြင့် ခေါင်းညိတ်လိုက်သည်။

"အင် ကျုပ်တို့ သုံးနှစ်လုံးလုံး အပြင်းအထန် ကြိုးစားလိုက်ရတာ အခုတော့ မျှော်လင့်ချက် ရောင်ခြည် မြင်နေရပါပြီ။ အခုမှတ်တမ်းတွေ လေ့လာကြည့်ရသလောက်တော့ ချွတ်ယွင်းချက်၊ ဟာကွက်ဆိုလို့ ဘာမှမမြင်ဘူး၊ ဒီမယ် ရာဇင်၊ မောင်ရင်ရဲ့ကြိုးပမ်းမှုဟာ ဘာမှ ပြောစရာမရှိဘူး၊ ချီးကျူးပါတယ်၊ ကျုပ်တို့ အကြံအစည်က လွဲချော်စရာ မရှိဘူးလို့ ထင်တယ်"

"ဟုတ်ကဲ့၊ ကျွန်တော်လည်း ဒီလိုပဲ သဘောရပါတယ်၊ အမေရိကန် သမ္မတကတော် (ဖတ်စ်လေဒီ) က နက်ဖြန်ဆိုရင် ရောက်လာတော့မယ်၊ ဒီတော့ စက္ကင်းလေဒီကလည်း အဆင်သင့် ပြင်ထားဖို့လိုပြီ၊ နောက်ပိုင်းကျရင် သူ့ဟာသူ ပြေလည်သွားမှာပဲ၊ ကိုင်း ဒါပါပဲ ဂွတ်နိုက်"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် နှုတ်ဆက်ပြီး ပြန်ထွက်သွားလေသည်။

ရာဇင်သည် တယောက်တည်း ကျန်ရစ်သောအခါ ဖိုင်တွဲများကို ပြန်သိမ်းလိုက်သည်။

ထို့နောက် သူသည် ခေတ္တထိုင်၍ စဉ်းစားနေမိလေသည်။

သူ၏စိတ်ထဲတွင် ချစ်သူဗီရာအတွက် စိုးရိမ်မိနေသည်။ သူသည် ဆိုဗီယက် နိုင်ငံသားအဖြစ် ဘာသာတရားကို အလေးအနက် ယုံကြည်သူ မဟုတ်သော်လည်း ယခုတော့မူ ချစ်သူဗီရာအတွက် ကျိတ်၍ ဆုတောင်းမိလေသည်။ 'ဗီရာတယောက် ဘေးအန္တရာယ်ခပ်သိမ်း ကင်းဝေးပါစေ' ဟု ဆုတောင်းလိုက်ခြင်းပင်ဖြစ်သည်။

*

မော်စကိုမြို့၏ ဆင်ခြေဖုံးရှိ ကေ-ဂျီ-ဘီ (ထောက်လှမ်းရေး) ၏ အထူး သီးသန့်ဝင်းခြံကြီး ဂိတ်ဝသို့ ရာဇင် ရောက်သွားသောအခါ အချိန်မှာ နံနက် နှစ်နာရီခွဲလုပြီဖြစ်သည်။

ထိုဝင်းခြံအတွင်း၌ ပြဇာတ်မင်းသမီး ဗီရာ နေထိုင်သည့်အိမ် ရှိလေသည်။ ဂိတ်ဝ၌ရှိသော လက်နက်ကိုင် အစောင့်နှစ်ဦးသည် ရာဇင်ကို ဝင်ခွင့်ပေးလိုက်သဖြင့်

ဝင်းကြီး၏ အလယ်ရှိ နှစ်ထပ်အဆောက်အအုံဆီသို့ သူ၏ကားကို ဆက်မောင်းသွားလေသည်။ ထိုအိမ်သို့ ဝင်ရန်သော့ကို ဗီရာအပြင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်နှင့် ရာဇင်တို့က သော့တချောင်းစီ ကိုင်ထားလေသည်။

ရာဇင်သည် သူ၏ သော့ဖြင့် ဖွင့်၍ အိမ်တွင်းသို့ ဝင်လိုက်သည်။ ချစ်သူဗီရာနှင့် နောက်ဆုံးအကြိမ် သွားရောက်တွေ့ဆုံခြင်းပင် ဖြစ်သည်။

အိပ်ခန်းတွင်းသို့ ဝင်လိုက်သောအခါ ဗီရာသည် ခုတင်ပေါ်တွင် တဘက်သို့စောင်းလျက် အိပ်ပျော်နေသည်ကို တွေ့ရလေသည်။ ရာဇင်သည် ဖိနပ်ချွတ်၍ အိပ်ခန်းနှင့် ဆက်လျက်ရှိသော ရေချိုးခန်းတွင်းသို့ ဝင်လိုက်ရာ မျက်နှာသစ်ကြွေခွက်ပေါ်တွင် သူ့အတွက် စာတစောင် ရေးထားသည်ကို တွေ့ရလေသည်။

စာက ခပ်တိုတိုဖြစ်ပြီး ဗီရာ၏လက်ရေးဖြင့် အောက်ပါအတိုင်း ရေးသားထားလေသည်။

အချစ်

ရောက်လာတာနဲ့ ကျွန်မကို နှိုးဖို့ မမေ့ပါနဲ့။

ရှင့်ကို သိပ်ချစ်တဲ့

ဗီရာ

ရာဇင်သည် ထိုစာကိုဖတ်ပြီး စိတ်ထဲ ကြည်နူးပီတိ ဖြစ်သွားမိသည်နှင့်အမျှ သူနှင့် ဗီရာတို့ ဆက်ဆံခဲ့ကြပုံ အတိတ်ကဖြစ်ရပ်များကိုပါ ပြန်လည် သတိရမိလေသည်။

ဗီရာအား အမေရိကန် သမ္မတကတော် ဘီလီအဖြစ် သရုပ်ဆောင်ရန်အတွက် ကြိုတင်ပြင်ဆင် လေ့ကျင့်ရသည်။ အချိန်ကာလမှာ နှစ်နှစ်ကျော် သုံးနှစ်နီးပါး ကြာခဲ့ရာ ထိုအချိန်အတွင်း ရာဇင်နှင့် သူမတို့သည် ရင်းနှီးရာမှ ချစ်သူများ ဖြစ်ခဲ့ကြသည်။ စောစောပိုင်းက ရာဇင်သည်လည်း ဗီရာအား သူမ၏အိမ်ထောင်ရေး၊ အချစ်ရေးကိစ္စ၊ လျှို့ဝှက်ချက်များအကြောင်း ပွင့်လင်းစွာ မေးကြည့်ခဲ့ဖူး သည်။ ဗီရာကလည်း အမှန်အတိုင်း ပွင့်လင်းစွာပင် ပြောပြခဲ့သည်။ သူမ၏ဘဝတွင် ယောကျ်ား နှစ်ယောက်နှင့် ဆက်ဆံခဲ့ဖူးသည်။ တဦးက မော်စကို အနုပညာကျောင်းသားတဦးဖြစ်ပြီး နောက်တဦးက ပြဇာတ်မင်းသားတယောက်ဖြစ်သည်။ သို့သော် နှစ်ဦးစလုံးကို ဗီရာက ဘဝင်မကျသဖြင့် ချက်ချင်းလိုပင် အဆက်ဖြတ်လိုက်သည်။ နောက်ပိုင်း မည်သည့်ယောကျ်ားနှင့်မှ ရောရောဝင်ဝင် မနေခဲ့ဟု ဗီရာက ပြောပြလေသည်။

ရာဇင်အနေဖြင့် လူချင်းရင်းနှီးစွာ ဆက်ဆံနေရချိန်တွင် နီးစပ်မှုကြောင့်ဟု ဆိုချင်ဆို တဖြည်းဖြည်းနှင့် ဗီရာအပေါ် နှစ်သက်စွဲလမ်းလာလေသည်။ ဗီရာကလည်း တခြားယောကျ်ားတွေ အပေါ် လုံးဝ စိတ်မဝင်စားသော်လည်း ရာဇင်ကိုတော့ သဘောကျလာမိသည်။ ယင်းအခြေအနေမှ တနေ့တွင် သူတို့နှစ်ဦးသည် နှလုံးသား၏လှုံ့ဆော်ချက်ကြောင့် တဦးပေါ်တဦး ချစ်ခင်မြတ်နိုးနေကြောင်း ထုတ်ဖော် ပြောကြားလိုက်ကြလေသည်။ ထိုနေ့မှာပင် သူတို့နှစ်ဦးသည် ကိုယ်ထိလက်ရောက် ချစ်တင်းနှီးနှောသည့်အဆင့်သို့ ရောက်သွားခဲ့သည်။ နောက်ပိုင်းတွင်လည်း သူတို့နှစ်ဦး တွေ့ဆုံခွင့်ရတိုင်း လွတ်လပ်စွာ ချစ်ခဲ့ကြသည်။

သူတို့နှစ်ဦး ရည်ငံနေသည်ကို မည်သူမှမသိအောင် အထူးလျှို့ဝှက်ထားရာ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်ကိုပင် အသိမပေးချေ။

သို့ရာတွင် ရာဇင်၏စိတ်ထဲ၌ သူနှင့် ဗီရာတို့အကြောင်းကို ပီထရော့ဗ်က ရိပ်မိကောင်း ရိပ်မိမည်ဟု တခါတရံ ထင်မိလေသည်။ တကယ်ပင် ရိပ်မိသည်ဆိုလျှင်လည်း လက်တွေ့အားဖြင့် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ဘာမှ မပြောခဲ့ချေ။

ရာဇင်သည် ဤသို့လျှင် အတိတ်ကအကြောင်းကို ပြန်လည် စဉ်းစားနေမိပြီးမှ အိပ်ခန်းတွင်းသို့ ပြန်လာ၍ ဗီရာအား ညင်သာယုယစွာ နမ်းရှုပ်၍ နှိုးလိုက်သည်။

ဗီရာသည် ရုတ်တရက် နိုးလာပြီး ရာဇင့်ကိုမြင်လျှင် ခြုံထားသောစောင်ကို တွန်းဖယ်ပစ်လိုက်ပြီး ရာဇင်အား အတင်းသိမ်းကျုံး ပွေ့ဖက်ထားလိုက်သည်။

နောက်နှစ်နာရီခန့် ကြာသောအခါ ချစ်သူနှစ်ဦးသည် ကျေနပ်အားရစွာဖြင့် ထိုင်စကားပြောနေကြ လေသည်။ ဗီရာသည် ခုတင်ဘေးရှိ စားပွဲပေါ်မှာ ဆေးပြားတပြားကို ယူ၍ ရေနှင့် သောက်ချလိုက်ရာ ရာဇင်မှာ အံ့သြနေမိလေသည်။ ဆေးက အိပ်မပျော်သောသူများ သောက်သော အိပ်ဆေးဖြစ်သည်။

"ဟော့ ဗီရာဘာဖြစ်လို့ အိပ်ဆေးသောက်ရတာလဲကွယ့်၊ မင်းက အိပ်ဆေးမလိုပါဘူး"

"ကျွန်မအနေနဲ့ မလိုတာ မှန်တယ်၊ ဒါပေမဲ့ အမေရိကန်သမ္မတ ကတော် ညစဉ်မှန်မှန် အိပ်ဆေး တပြား သောက်နေကျလို့ သိရတယ်။ ဒါကြောင့် ကျွန်မက လေ့ကျင့်ပြီး သောက်ရတာပါ"

ဗီရာက ရှင်းပြလိုက်ရာ ရာဇင်သည် သဘောကျသွားလေတော့သည်။

"မင်းဟာလေ၊ တကယ်တော်တာပဲကိုး၊ အသေးစိတ် အချက်တွေကအစ မှန်ကန်အောင် ကြိုးစားတယ်၊ ဒါကြောင့် မင်းကို ချစ်လို့ မဝနိုင်တာပဲ၊ အရေးကြီးဆုံးကတော့ အခု မင်းလုပ်ရမယ့် တာဝန် ပြီးသွားရင် ဘေးရန်မရှိဘဲ ငါ့ဆီပြန်ရောက်လာဖို့ သိပ်ပြီးတော့ တောင့်တမိတယ်"

"ဘာမှ မစိုးရိမ်ပါနဲ့ရှင်၊ ကျွန်မက ဘေးရန်မရှိဘဲ ပြန်ရောက်လာမှာ"

"အဲဒီအခါကျရင် တို့နှစ်ယောက် တရားဝင် လက်ထပ်ကြရအောင်"

"ဟုတ်ကဲ့ပါ ကျွန်မ ပြန်အိပ်လိုက်ဦးမယ် ဂွတ်နိုက်"

"ဂွတ်နိုက် ဒါလင်"

ရာဇင်က ပြန်လည် နှုတ်ဆက်ရင်း သူမအား ယုယစွာ နမ်းလိုက်သည်။

ခဏချင်းမှာပင် ဗီရာသည် နှစ်ခြိုက်စွာ အိပ်ပျော်သွားလေတော့သည်။

ရာဇင်ကမူ မအိပ်သေးဘဲ စီးကရက် မီးညှိရန် ကုလားထိုင်တလုံးတွင်ထိုင်ကာ သူမ၏ ဘဝဖြစ်စဉ် အကြောင်းကို စဉ်းစားနေလေသည်။

သူသည် ဘာကြောင့် ဤလျှို့ဝှက် စီမံချက်တွင် ပါဝင်ပတ်သက်ခဲ့ရလေသနည်း။

ရာဇင်က ရုရှနှင့် အမေရိကန် ကပြား ဖြစ်ခြင်းသည် ယခုလို တာဝန် ထမ်းဆောင်ရခြင်း အကြောင်းတခုဖြစ်နိုင်ပေသည်။ သူ၏ စိတ်သဘောထားအမှန်ကို ပြန်လည် ဝေဖန်သုံးသပ်ကြည့်ရာ ယခု တာဝန်ထမ်းဆောင်ရသည့် စောစောပိုင်းက ရာဇင်၏စိတ်ထဲ၌ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်၏ လျှို့ဝှက်စီမံချက် မအောင်မြင်ပါစေနဲ့ဟု တောင့်တခဲ့မိသည်။ သို့သော် နောက်ပိုင်း သူသည် ဗီရာနှင့် ချစ်ခင်မြတ်နိုးလာပြီးသောအခါ၌မူ လျှို့ဝှက်စီမံချက် ရာနှုန်းပြည့် အောင်မြင်ပါစေဟု တောင့်တမိပြန် သည်။ အောင်မြင်မှသာ ဗီရာသည် ချောမောစွာ ပြန်လာပြီး သူတို့ ထိမ်းမြား လက်ထပ်နိုင်မည် ဖြစ်သည်။ ရာဇင်၏စိတ်ထားနှင့်ပတ်သက်၍ နောက် လျှို့ဝှက်ချက်တခုကား သူ မွေးဖွားရာနိုင်ငံ ဖြစ်သည့် အမေရိကန်နိုင်ငံအပေါ် မုန်းတီးစက်ဆုပ်ခြင်း မရှိရုံမက စိတ်ထဲမှာ ကျိတ်၍ မြတ်နိုး လိုလားနေခြင်းပင်ဖြစ်သည်။ သို့သော် သူ၏ နိုင်ငံရေး ခံယူချက်က ရုရှနိုင်ငံအပေါ် အကြွင်းမဲ့ သစ္စာစောင့်သိ ရှိသေခြင်း ဖြစ်နေပေသည်။

တဖန် ဗီရာအမည်ရှိ မိန်းကလေးအပေါ် ချစ်ခင်မြတ်နိုးခြင်းက ရာဇင်၏စိတ်ထဲတွင် အင်အား အကြီးမားဆုံး ဖြစ်လေသည်။

ရာဇင်၏ ဖခင်မှာ ရုရှလူမျိုးအစစ်ဖြစ်ပြီး အားကစားသမား သတင်းစာဆရာတဦး ဖြစ်သည်။ ဆိုဗီယက် သတင်း အေးဂျင်စီ (တာ့စ်) ဌာန၏ သတင်းထောက်တဦးဖြစ်ပြီး အမေရိကန်ပြည် ဝါရှင်တန်မြို့တွင် သွားရောက် တာဝန်ထမ်းဆောင်ရင်း သူ့မိခင်ဖြစ်လာမည့် အမေရိကန် အမျိုးသမီးနှင့် တွေ့ဆုံချစ်ကြိုက်ရာမှ ထိမ်းမြားလက်ထပ်လိုက်ကြသည်။

အမျိုးသမီးက ဖီလ်ဒယ်လ်ဖီယာမြို့သူဖြစ်ပြီး ရာဇင်၏ဖခင်နှင့် လက်ထပ်ပြီးနောက် ဗာဂျီးနီးယား ပြည်နယ်တွင် အိမ်တအိမ် ငှားနေခဲ့ကြသည်။ ထိုအိမ်မှာပင် ရာဇင်ကို မွေးဖွားခဲ့သည်။

ရာဇင်သည် မိခင်၏ချစ်ခင်ယုယမှုဖြင့် ကြီးပြင်းလာခဲ့ရ၍ ကလေးဘဝမှာ ပျော်ရွှင်စရာ ကောင်းသော်လည်း သူ့အသက် ဆယ့်နှစ်နှစ်သားအရွယ်တွင် မိခင်ဖြစ်သူ ရုတ်တရက် နာမကျန်း ဖြစ်ရာမှ ကွယ်လွန်သွားရှာသည်။

နောက်သုံးနှစ်ခန့်အကြာ (ရာဇင် ဆယ့်ငါးနှစ်သားအရွယ်တွင်) ဖခင်ကြီးက အယ်ဒီတာရာထူး တိုးမြှင့်ခံရပြီး မော်စကိုမြို့ တာ့စ်သတင်း အေဂျင်စီဌာနချုပ်သို့ ပြောင်းရွှေ့ အမှုထမ်းရလေသည်။ ဖခင်ကြီးမှာ သူ အလွန်ချစ်မြတ်နိုးသော ဇနီး ကွယ်လွန်သွားပြီးနောက် စိတ်ဓာတ်ကျနေသဖြင့် မိခင် ရုရှနိုင်ငံသို့ ပြန်ရန် ဆုံးဖြတ်လျက် သားငယ် ရာဇင်ကိုပါ ခေါ်သွားခဲ့လေသည်။

ရာဇင်ခမျာ ရုရှနိုင်ငံသို့ ရောက်ခါစက နိုင်ငံခြားတနေရာသို့ ရောက်နေသလိုဖြစ်လျက် စိတ်အားငယ်မိနေရှာသည်။ သို့သော် သူ၏မိခင်ကြောင့် အင်္ဂလိပ်ဘာသာစကား ကျွမ်းသလို ဖခင်ကြီးထံမှ ရုရှဘာသာလည်း သင်ယူတတ်နေသဖြင့် နှစ်ဘာသာ ကျွမ်းကျင်သူဖြစ်၍ နေသာ ထိုင်သာ ရှိခဲ့သည်။ ထို့နောက် မော်စကိုမြို့တွင် ပညာဆက်လက် သင်ကြားရာတွင် တက္ကသိုလ်၌ ဒဿနိကဗေဒနှင့် ဘာသာစာပေဘာက်တွင် ထူးချွန်စွာ အောင်မြင်ခဲ့လေသည်။

ထိုအချိန်၌ သူ၏အမေရိကန် နိုင်ငံအကြောင်း နားလည်ကျွမ်းကျင်မှု အင်္ဂလိပ်ဘာသာ ထူးချွန်မှု တို့ကြောင့် ရုရှထောက်လှမ်းရေး (ကေ-ဂျီ- ဘီ) အကြီးအကဲများက ရာဇင်ကို သတိပြုမိကာ စိတ်ဝင်စားလာကြသည်။ မျက်စိကျလာသည်။

ကေ-ဂျီ-ဘီ အဖွဲ့အနေဖြင့် အင်္ဂလိပ်စကားကို ရေလည်ကျွမ်းကျင်စွာ တတ်မြောက်သူ ထောက်လှမ်းရေး အေးဂျင်း သူလျှိုများ အထူးလိုအပ်နေသော အချိန်လည်းဖြစ်၍ တနေ့တွင် ရာဇင်အား ထောက်လှမ်းရေး အကြီးအကဲများက ခေါ်ယူပြီး စစ်ဆေးမေးမြန်းကြည့်ခဲ့ကြသည်။ ယင်းသို့ ခေါ်ယူစစ်ဆေးချက်အရ အလွန်သဘောကျသဖြင့် ရာဇင်အား ထောက်လှမ်းရေးသင်တန်း တက်စေရန် ရွေးချယ်လိုက်ကြလေသည်။ သူ၏ဖခင်ကလည်း ရာဇင့်အား တိုက်တွန်းအားပေးခဲ့

သည်။ တခြားသော သာမန် ရုရှနိုင်ငံသားများနှင့်စာလျှင် ကေ-ဂျီ-ဘီ အဖွဲ့ဝင်များသည် အခွင့်အရေးကောင်းများ ပိုရကြောင်း၊ လစာအနေဖြင့်လည်း သတင်းစာ အယ်ဒီတာတဦးထက် သုံးလေးဆခန့် ပိုရကြောင်း၊ နေရာတကာတွင် အလွန်မျက်နှာပွင့်လန်းကြောင်း၊ ထို့ကြောင့် ထောက်လှမ်းရေးသင်တန်း တက်ရန် သက်ဆိုင်ရာမှ ကမ်းလှမ်းချက်ကို လက်ခံသင့်ကြောင်း တိုက်တွန်း ပြောကြားခဲ့သည်။

ရာဇင်လည်း ဖခင်ကြီး၏စကားကို နားထောင်ပြီး သင်တန်းတက်ခဲ့ရာ ထိုအပတ်က သင်တန်းသား သုံးရာရှိသည့်အနက် သင်တန်းပြီးဆုံးချိန်တွင် ထိပ်ဆုံးမှ အထူးချွန်ဆုံး သင်တန်းဆုကိုပါ ရရှိ အောင်မြင်ခဲ့လေသည်။

သင်တန်းဆင်းပြီးပြီးချင်း ရာဇင်သည် မော်စကိုမြို့ ကေ-ဂျီ-ဘီ (ထောက်လှမ်းရေး) အဖွဲ့ ဌာနချုပ်ရုံးတွင် တာဝန်ထမ်းဆောင်ခဲ့ရလေသည်။

လွန်ခဲ့သော လေးနှစ်ခန့်က ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ရာဇင်အား အမေရိကန်နိုင်ငံ ဝါရှင်တန် မြို့တော်သို့ ဆိုဗီယက် (ပရာဗဒါ) သတင်းထောက်အဖြစ် ဟန်ဆောင်စေလျက် သွားရောက် ထမ်းဆောင်စေခဲ့သည်။ သူ့အနေနှင့် ထောက်လှမ်းရေးတာဝန် အတိအကျတော့ မရှိ။ မျက်စိနှင့် နားကိုဖွင့်၍ သတိရှိစွာ နေရန်သာ ညွှန်ကြားလိုက်သည်။ သာမန်သတင်းထောက်တဦး၏ အလုပ်ကိုသာ လုပ်နေရန် မှာကြားလိုက်လေသည်။

ရာဇင်သည် သူ့အသက် ဆယ့်ငါးနှစ်သားမှစ၍ ထွက်ခွာခဲ့သော အမေရိကန်နိုင်ငံသို့ ပြန်သွားရန် အခွင့်အရေး ရရှိသဖြင့် အထူးပင် ဝမ်းမြောက်ပျော်ရွှင်နေမိလေသည်။ သူချစ်မြတ်နိုးသည့် အမေရိကန်နိုင်ငံသို့ သွားရမည်ကို အလွန် ကြည်နူးနေမိခဲ့သည်။

ထို့ကြောင့် သူသည် ဝါရှင်တန်မြို့သို့ သတင်းစာဆရာတဦးအဖြစ် သွားရောက် တာဝန် ထမ်းဆောင်နေရသည့်ကာလတွင် စိတ်ပျော်ရွှင် ကျေနပ်မိခဲ့သည်။ အမေရိကန်နိုင်ငံတွင် အမြဲ ကောင်းလေစွဟုပင် ကျိတ်၍ တောင့်တမိခဲ့သည်။

သို့ရာတွင် သူ၏ပျော်ရွှင်ကြည်နူးမှု ကြာရှည်မခံအောင် ကံကြမ္မာက တမျိုးလှည့်စား ဖန်တီးလိုက်လေသည်။ သူရောက်သွားပြီး ဆယ်လမျှအကြာ တနေ့သ၌ ရာဇင့်အား အမေရိကန် ဗဟိုထောက်လှမ်းရေး (အက်ဖ်ဘီအိုင်) အဖွဲ့က သူလျှိုလုပ်ငန်း လုပ်ပါသည်ဟု စွပ်စွဲကာ ဖမ်းဆီးလိုက်လေသည်။

ရာဇင်က အမေရိကန်ရေတပ် အရာရှိတဦးနှင့်မိတ်ဆွေဖြစ်ရာမှ သူရေးသားသည့် ဆောင်းပါးတခုတွင် ဆွေးနွေးမေးမြန်းသည်ကို

အက်ဖ်ဘီအိုင်အဖွဲ့က အမေရိကန်စစ်ဘက် လျှို့ဝှက်ချက်များ ရယူရန် ကြိုးစားသူဟု စွပ်စွဲလေသည်။ ရာဇင်သည် နားမလည်နိုင်အောင် ဖြစ်နေတော့သည်။ နောက်များ မကြာမီ တကယ့်ဖြစ်ရပ်အမှန်ကို သိရလေသည်။

မော်စကိုမြို့ အမေရိကန်သံရုံးမှ အတွင်းဝန်တဦးအား ဆိုဗီယက် အာဏာပိုင်တို့က ထိုလူသည် အစိုးရ ဆန့်ကျင်သူများကို အားပေးပါသည်ဟု စွပ်စွဲကာ ဖမ်းဆီး၍ အကျဉ်းထောင်ထဲ ချထားလိုက်သည်။ ယင်းအပြုအမူကို အမေရိကန်အစိုးရအနေဖြင့် တုံ့ပြန်ကလဲ့စားချေရန် လိုလားရာ အက်ဖ်ဘီအိုင် ထောက်လှမ်းရေးက ရုရှလူမျိုးတဦးအား သူလျှိုမှုဖြင့် ဖမ်းဆီးရန် စီစဉ်ရာတွင် ကံဆိုးချင်တော့ ရာဇင်ကိုပင် တရားခံလုပ် ဖမ်းလိုက်ခြင်းပင် ဖြစ်သည်။

ဤနည်းအားဖြင့် အမေရိကန်အစိုးရက မော်စကိုမြို့မှ အမေရိကန် အတွင်းဝန်ကို ပြန်လွှတ်ပေးလျှင် ရာဇင်ကို ပြန်လွှတ်ပေးမည်ဟု ကမ်းလှမ်းချက်ဖြင့် နောက်ဆုံးတွင် ရာဇင်သည် မော်စကိုမြို့သို့ ပြန်ရောက်လာခဲ့ရလေသည်။

သူ့အား မတရား စွပ်စွဲ၍ နှင်ထုတ်လိုက်သော အမေရိကန်နိုင်ငံအပေါ်တွင် ရာဇင်သည် စိတ်နာ မုန်းတီးခြင်း မဖြစ်မိချေ။ နိုင်ငံရေးအရ တဘက်နှင့်တဘက် တုံ့ပြန်ကလဲ့စားချေကြခြင်းသာ ဖြစ်သည်ဟု မှတ်ယူခဲ့လေသည်။

သူ၏စိတ်ထဲတွင် လျှို့ဝှက်စွာ ရှိနေခဲ့သော တောင့်တချက်တခုကား တနေ့ကျလျှင် အမေရိကန် နိုင်ငံသားအဖြစ် ခံယူလျက် အမေရိကန်နိုင်ငံတွင်ပင် နေထိုင်ရန်ဖြစ်သည်။ သို့ရာတွင် လက်တွေ့အားဖြင့် မဖြစ်နိုင်ကြောင်းကို သုံးသပ်မိသောကြောင့် ယင်းတောင့်တချက်ကို စိတ်ကူးယဉ် အိပ်မက်တခုဟု ပေါ့ပေါ့ဆဆ သဘောထားလိုက်လေသည်။ ရာဇင်သည် မော်စကိုမြို့သို့ ပြန်ရောက်လာပြီးနောက် ကေ-ဂျီ-ဘီ လုပ်ငန်းများကို အထူးကြိုးစား၍ လုပ်ကိုင်ဆောင်ရွက်နေခဲ့ရာ တဖြည်းဖြည်းနှင့် သူ၏အရည်အချင်းကို ဌာနအကြီးအကဲ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်ကိုယ်တိုင် သတိပြုမိလာသည်။ မျက်စိကျလာသည်။ တနည်းအားဖြင့် ရာဇင်သည် ကေ-ဂျီ-ဘီ ထောက်လှမ်းရေး အဖွဲ့တွင် လူတော်တယောက်အဖြစ် နာမည်ရလာခဲ့သည်။

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်၏ စက္ကင်းလေဒီ စီမံချက် စတင် အကောင်အထည် ဖော်ပြီး ပြဇာတ်မင်းသမီး ဗီရာနှင့် ချစ်ကြိုက် ရည်ငံခဲ့ပြီး နောက်ပိုင်းမှာပင် တခါတရံ ရာဇင်သည် တနေ့ အမေရိကန်နိုင်ငံသို့ သွားရောက်နေထိုင်ရန် စိတ်ကူးမိသေးသည်။ ချစ်သူ ဗီရာကိုပါ အမေရိကန်သို့ ခေါ်ပြီး အခြေစိုက် နေထိုင်ချင်စိတ် ဖြစ်ပေါ်နေမိသည်။ သူ၏အကြံကား သူတယောက်တည်း အမေရိကန်သို့ ရောက်အောင်သွား၍ နိုင်ငံရေးခိုလှုံခွင့် တောင်းမည်။ ထို့နောက် ဆိုဗီယက်အစိုးရအား လျှို့ဝှက်ချက်တွေ ဖော်ကောင်လုပ်မည်ဟု ခြိမ်းခြောက်

အကျပ်ကိုင်၍ ဗီရာကို အမေရိကန်သို့ လာခွင့်ပေးရမည်ဟု တောင်းဆိုရန်ပင် ဖြစ်လေသည်။

ယခု ဗီရာ၏အိပ်ခန်းထဲ၌ ကုလားထိုင်တလုံးတွင် ထိုင်ရင်း ရာဇင်သည် အထက်ပါ အကြောင်းအရာ များကို စဉ်းစားနေမိလေသည်။

အရေးကြီးဆုံးကား ဗီရာအနေဖြင့် အမေရိကန်သမ္မတကတော် ဟန်ဆောင်လျက် တာဝန် ထမ်းဆောင်ပြီး ချောမောစွာ ပြန်ရောက်လာရန် ပင်ဖြစ်သည်။ မိမိတို့ဘက်မှ ခြေလှမ်းတချက် မှားသွားလျှင်တော့ ဗီရာအား နောက်ထပ်တွေ့ရတော့မည် မဟုတ်ချေ။

ဤတွင် ရာဇင်သည် ချစ်သူဗီရာအတွက် အထူးစိုးရိမ်လာမိလေသည်။

အမေရိကန် သမ္မတကတော်အဖြစ် ဝါရှင်တန်မြို့ သမ္မတအိမ်တော်တွင် သွားရောက် ဟန်ဆောင် နေထိုင်စဉ် ကာလအတွင်း မည်သူကမှ မရိပ်မိလောက်အောင် ရာနှုန်းပြည့် အောင်မြင်နိုင်ပါမည်လော ဟုလည်း သံသယ ဖြစ်လာမိသည်။

ထို့ကြောင့် မကြာမီ နာရီပိုင်းအတွင်း မိမိတို့ စတင် အကောင်အထည် ဖော်ရတော့မည့် စီမံချက်ကို လုံးဝ မလုပ်တော့ဘဲ စွန့်လွှတ်လိုက်မှသာ ဖြစ်ချေမည်ဟုလည်း စဉ်းစားမိပြန်သည်။ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်အား စီမံချက်သည် အောင်မြင်နိုင်မည် မဟုတ်ဟု ပြောကာ စွန့်လွှတ် ရပ်စဲခိုင်းရလျှင် ကောင်းမည်လော။

သို့သော် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က သူကိုယ်တိုင် သုံးနှစ်သုံးမိုး ကြိုးစားလာခဲ့ပြီးမှ ယခု မိမိက ပြောရုံနှင့် စွန့်လွှတ်မည်မဟုတ်ချေ။

ထို့ပြင် ယခုမှတော့ နောက်ကျနေပြီ ဖြစ်သည်။ နောက်နာရီပိုင်းအတွင်း အမေရိကန်သမ္မတ ကတော်သည် ထွက်ခွာလာတော့မည် ဖြစ်သည်။

*

အမေရိကန်သမ္မတကတော် ဘီလီသည် ဝါရှင်တန်မြို့ သမ္မတအိမ်တော်၏ အိပ်ခန်းတွင်း၌ ညအိပ်ဝတ်စုံကို ဝတ်ထားပြီး ထိုင်စဉ်းစားနေသည်။

သာမန်အားဖြင့် သူမသည် ခရီးသွားလာခြင်းကို စိတ်ဝင်စားတတ်သူ ဖြစ်သည်။ ခရီးသွားရလျှင် စိတ်ပျော်ရွှင်တတ်သည်။ သို့သော် ယခု မော်စကိုမြို့သို့ လေယာဉ်ခရီးရှည်ကြီးဖြင့် သွားရမည့် အရေးကိုမူ တွေးပြီး စိတ်ပျက်နေမိသည်။

သုံးရက်အတွင်း မော်စကိုမြို့သို့ သွားရမည့်ပြင် အင်္ဂလန်ပြည်

လန်ဒန်မြို့သို့လည်း သွားရဦးမည် ဖြစ်သည်။ အလွန်ပင် ပင်ပန်းနွမ်းနယ်စရာကောင်းသည့် ခရီးရှည်ကြီးပါတကား။

မော်စကိုမြို့တွင် ကျင်းပသည့် အမျိုးသမီး ညီလာခံသည် အလွန်အရေးကြီးသဖြင့် မသွား၍ မဖြစ်ပေ။ ခင်ပွန်းဖြစ်သူ သမ္မတကြီးကိုယ်တိုင်က သူမအား သွားရောက်ရန် တိုက်တွန်းခဲ့သည်။ ဤသို့ မိမိက နိုင်ငံတကာရေးရာတွင် ပါဝင်လှုပ်ရှားခြင်းသည် နောင်နှစ် မိမိတို့ ဇနီးမောင်နှံ ရင်ဆိုင်ကြရမည့် ရွေးကောက်ပွဲအသစ်အတွက် အထောက်အကူ ဖြစ်စေလိမ့်မည်ဟုလည်း ဆိုသည်။ ဘီလီသည် အိပ်ခန်းထဲတွင်တယောက်တည်း ထိုင်နေခြင်းမှာ ခင်ပွန်းဖြစ်သူ သမ္မတကြီးက အရေးကြီးသော အစည်းအဝေးများ ဆက်တိုက်တက်ရန်ရှိ၍ ထိုညအဖို့ နောက်ကျမှ ပြန်လာနိုင်မည် ဟု ပြောသွားသောကြောင့်ပင် ဖြစ်သည်။

သမ္မတကြီး ပြန်လာနိုင်သည့်တိုင်အောင် မအိပ်ဘဲ ထိုင်စောင့်ချင်သော်လည်း ဘီလီမှာ ပင်ပန်း နွမ်းနယ်လွန်းသဖြင့် မစောင့်တော့ဘဲ အိပ်ရန် ဆုံးဖြတ်လိုက်သည်။

ထို့ကြောင့် သူမသည် ထုံးစံအတိုင်း အိပ်ဆေးပြားတပြားကို ယူ၍ သောက်လိုက်လေသည်။

ထိုဆေး၏အာနိသင်ကား နောက် မိနစ်နှစ်ဆယ်ကြာမှသာ အိပ်ချင်လာမည်ဖြစ်သည်။ ထိုအချိန်တွင်း ဘီလီသည် ခရီးသွားရန်အတွက် ပြင်ဆင်ထားသည့် အဝတ်အစား ပစ္စည်းများကို ထပ်မံ၍ စစ်ဆေး ကြည့်ရှုနေလေသည်။ ယူသွားမည့် အဝတ်အစားများအားလုံး ပြည့်ပြည့်စုံစုံ ပါ မပါ စစ်ဆေး ကြည့်လေသည်။

မော်စကိုမြို့သို့အသွား လေယာဉ်ပေါ်တွင် သူမ ကိုယ်ရေးအတ္ထုပ္ပတ္တိ အကြောင်းကို သတင်းစာဆရာ ပါကာနှင့် ဆွေးနွေးပြောဆိုသွားရမည့် အကြောင်းကိုလည်း ဘီလီက သတိရမိလေသည်။

သူမ အပျင်းပြေဖတ်ရန် ထည့်ထားသော စာအုပ်များတွင် အတွင်းရေးမှူး နီရာက ရှရှပြည်အကြောင်း စာအုပ်နှစ်အုပ်ပါ ထည့်ပေးထားကြောင်း တွေ့ရလေသည်။

ဘီလီသည် ပစ္စည်းများကို စစ်ဆေးကြည့်နေရင်း အိပ်ဆေး၏သတ္တိပြစပြုလာကာ အိပ်ငိုက်လာလေ သည်။ ထို့ကြောင့် သူမသည် အိပ်ရာပေါ်တက်၍ လှဲအိပ်လိုက်သည်။ ထိုအချိန်မှာပင် သမ္မတကြီး ဘရက်ဖို့ဒ်သည် အခန်းတွင်းသို့ ဝင်လာလေသည်။

"ဟဲလို ဘီလီ၊ လန့်နိုးသွားသလားကွယ့်"

"ဟင့်အင်း ခုမှ အိပ်မလို့ပါ"

"အေးကွာ၊ မင်းကို မော်စကိုမြို့ သွားဖို့ မတိုက်တွန်းခဲ့မိရင် ကောင်းသား"

"ဒါတော့ နိုင်ငံတကာ ချစ်ကြည်ရေးအတွက်ကိုးရှင့်"

ဘီလီက အိပ်ချင်မူးတူးဖြင့် ပြန်ဖြေနေလေသည်။

"မင်းနဲ့ ခွဲရမှာ လွမ်းသားကွယ့်"

သမ္မတကြီးက ယုယစွာပြောရင်း ဘီလီအား ဖက်ယမ်း နမ်းရှုပ်လိုက်သည်။

"အရေးထဲ ဆရာဝန်က အတူတူမအိပ်ရဘူးလို့ အမိန့်ထုတ်ထားတာ ဆိုးလှတယ်"

သမ္မတကြီးက ညည်းညူသလို ပြောလိုက်သည်။

"မကြာပါဘူးရှင့် အလွန်ဆုံး နောက်သုံးပတ်ပါပဲ"

"သုံးပတ်ဆိုတာ ကြာတာပေါ့ ဘီလီရယ်၊ ကိုင်း မင်းလည်း ပင်ပန်းနေတယ် အိပ်တော့နော် ဂွတ်နိုက်"

ပြောပြောဆိုဆို သမ္မတကြီးသည် ဇနီးသည်ကို ကြည့်ပြီး မချင့်မရဲဟန်ဖြင့် ဘီလီ၏အနီးမှ ပြန်ထွက်သွားလေသည်။

*

# အခန်း (၃)

အချိန်မှာ မော်စကိုမြို့တွင် နံနက် ရှစ်နာရီထိုးရန် ငါးမိနစ်အလိုဖြစ်သည်။

သူတို့လေးဦးသည် ဗီရာ၏ ညှော်ခန်းတွင်းရှိ ရုပ်မြင်သံကြားစက်ရှေ့တွင် ထိုင်နေကြသည်။ ဗီရာ၏ လက်ယာဘက်တွင် ကေ-ဂျီ-ဘီ အကြီးအကဲ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် အရပ်ဝတ် အရပ်စား ဝတ်စုံဝတ်လျက် ထိုင်နေသည်။ သူနှင့်ကပ်လျက်နေရာတွင် ဗိုလ်ချုပ်ကြီး၏ လက်ထောက် ဗိုလ်မှူးကြီး ဇုစ်ဆိုသူ ထိုင်ပြီး ဘေးချင်းကပ် ထိုင်ခုံတွင်ကား ပေါ်လစ်ဗျူရို အဖွဲ့ဝင် ဂါရာနင်က ထိုင်နေသည်။

ဂါရာနင်သည် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်နှင့် ရင်းနှီးသောမိတ်ဆွေတဦးဖြစ်သည်။

ပီထရော့ဗ်သည် သူ၏ လက်ပတ်နာရီကို ကြည့်လိုက်ပြီးနောက်

"ကဲ စက်ကို ဖွင့်လိုက်တော့"

ဟု ပြောလိုက်ရာ ဗိုလ်မှူးကြီးဇုစ်က လျင်မြန်သွက်လက်စွာ ထ၍ ရုပ်မြင်သံကြားစက်မှ ခလုတ်ကို ဖွင့်လိုက်သည်။

ထိုအချိန်၌ သတင်းကြေငြာသူက ရုရှဘာသာဖြင့် သတင်းကြေငြာနေပြီဖြစ်သည်။

အမေရိကန်သမ္မတကတော်နှင့် အဖွဲ့လိုက်ပါလာသော အထူးလေယာဉ်သည် လေဆိပ်သို့ ချောမောစွာ ဆင်းသက်မိပြီဖြစ်၍ လေယာဉ်ပြေးလမ်းကြောင်းပေါ်မှတဆင့် လေဆိပ် အဆောက်အအုံဘက်သို့ ဦးတည် လှည့်လာနေပြီဖြစ်ကြောင်း လေဆိပ်၌ ခရီးဦးကြိုပြုသည့် အခမ်းအနားတခု ခေတ္တပြုလုပ်ပြီး နောက်နှစ်ဆယ့်ရှစ်ကီလိုမီတာ ကွာဝေးသော မော်စကို မြို့တွင်းသို့ အထူးမော်တော်ယာဉ်များဖြင့် ဆက်လက် သွားရန် အစီအစဉ်ရှိကြောင်း စသည်ဖြင့် ကြေငြာလေသည်။

ထို့နောက် ရုပ်မြင်သံကြား ပိတ်ကားတွင် အိမ်ရှင်အဖြစ် ခရီးဦးကြိုပြုသူ ရုရှဝန်ကြီးချုပ် ကီရင်ချင်ကို၏ဇနီးရုပ်ပုံပေါ်လာသည်။

ဝန်ကြီးချုပ်ကတော်၏ဘေးနားတွင် အခြားအဖွဲ့ဝင်များလည်း ရှိနေရာ ဗီရာသည် ဂရုစိုက် ကြည့်သော်လည်း လူများကို ကောင်းစွာ မမှတ်မိပေ။ သို့သော်

ကြိုဆိုသူများအနက် တဦးအပါအဝင် ဖြစ်သူ ရာဇင်ကိုမူ ကောင်းစွာ မှတ်မိသဖြင့် စိတ်ထဲမှ ကြည်နူးသွားမိသည်။

ရာဇင်သည် ဥရောပတိုက်သားဝတ်စုံဖြင့် သပ်ရပ်စွာ ဝတ်စားထားလေရာ အလွန်ခန့်ညား ကျက်သရေ ရှိသည်ဟု ဗီရာက ထင်မိသည်။ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ဆေးပြင်းလိပ်တလိပ် ထုတ်ယူရင်း ရုပ်မြင်သံကြားစက်ကိုသာ အာရုံစိုက်ကြည့်နေလေသည်။ ထိုအခိုက်မှာပင် အမေရိကန် သမ္မတ ကတော်၏ အထူး ဂျက်လေယာဉ်ကြီးကို မြင်ကြရလေသည်။

လေယာဉ် လုံးဝရပ်သွားသည်နှင့် လေဆိပ် အလုပ်သမားများက ဆင်းရန် လှေကားကြီးကို လေယာဉ်တံခါးရှိရာသို့ တွန်းသွားကြလေသည်။ လေယာဉ်တံခါးသည် ဖြည်းညင်းစွာ ပွင့်လာချိန်တွင် အရုပ်မမြင်ရသော တီးဝိုင်းက အမေရိကန် နိုင်ငံတော်သီချင်းကို တီးမှုတ်လိုက်လေသည်။

ဗီရာနှင့် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်တို့က အထူး အာရုံစိုက်၍ ကြည့်နေစဉ်မှာပင် ဖျတ်လတ် သွက်လက်ပုံ ရသော လူငယ်နှစ်ဦးသည် လေယာဉ်ပေါ်မှ ဆင်းလာလေသည်။

"အဲဒါ သမ္မတကတော်ရဲ့လုံခြုံရေး အစောင့်တွေပါရှင့်၊ ရှေ့ကလူက…၊ နောက်ကလူ နာမည်က…"

ဗီရာ ကြိုတင် လေ့လာထား၍ သိနေသဖြင့် အင်္ဂလိပ်ဘာသာဖြင့် ပြောဆိုလိုက်သည်။

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ရုပ်မြင်သံကြားကို ကြည့်နေယင်းက

"သူတို့နှစ်ယောက်ရှေ့က အမျိုးသမီးကော ဘယ်သူလဲ" ဟု မေးလိုက်သည်။

"အဲဒါက သမ္မတကတော်ရဲ့ပြန်ကြားရေးအရာရှိပဲနာမည်က နီရာလို့ခေါ်တယ်"

ဗီရာက ပြန်ဖြေလိုက်သည်။

"ဟုတ်လား၊ သူ့နောက်က အရပ်မြင့်မြင့်လူကကော"

"ပါကာ ဆိုတဲ့လူပေါ့"

"ဒါဖြင့် ကေန္တ စီအိုင်အေ စုံထောက်ပဲ"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ် ပြုံး၍ ပြန်ပြောလိုက်ရာ သူ၏ လက်ထောက်

ဗိုလ်မှူးကြီး ဇုစ်က

"ဒီလိုတော့ အတိအကျ မသိရပါဘူး။ သိရသလောက်က ဒီပါကာ ဆိုတဲ့လူဟာ သမ္မတကတော် ဘီလီရဲ့ကိုယ်ရေးအတ္ထုပ္ပတ္တိ ပြုစုရာမှာ ကူညီရေးပေးနေတယ်လို့ ဆိုပါတယ်"

ဟု ပြောလိုက်သည်။

"ဘာပဲပြောပြော စီအိုင်အေပဲ ဖြစ်ရမယ်"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ထပ်ပြောလိုက်သည်။

ထိုအချိန်၌ ဗီရာသည် ရုပ်မြင်သံကြားပိတ်ကားကို အထူးဂရုစိုက်၍ ကြည့်နေလေသည်။

နိုရာနှင့် ပါကာတို့ နှစ်ယောက် လေယာဉ်ပေါ်မှ ဆင်းပြီး ခင်းထားသော ကော်ဇောနီကြီးပေါ် ဖြတ်လျှောက်သွားသည်ကို မြင်ရသည်။ ယခင်က အကြိမ်ကြိမ် ကြည့်ထားရသဖြင့် ဗီရာအနေဖြင့် ယခု ရုပ်မြင်သံကြားတွင် မြင်ရသောအခါ မှတ်မိနေလင့်ကစား ဗီရာ၏စိတ်ထဲ၌ နိုရာနှင့် ပါကာတို့ နှစ်ဦးအား လှည့်စားရန် မလွယ်ကူလှဟု ထင်မိလေသည်။

"ဟောဟိုမယ် လာနေပြီ၊ အမေရိကန်နိုင်ငံရဲ့ဖတ်စ်လေဒီ သမ္မတကတော် ဘီလီဆိုတာ အဲဒါပဲ"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က စိတ်ဝင်စားစွာဖြင့် အော်ပြောလိုက်ချိန်တွင် ဗီရာသည်လည်း ပိတ်ကားကို ဂရုစိုက်ကြည့်နေလေသည်။

ဖတ်စ်လေဒီ ခေါ် အမေရိကန်သမ္မတကတော်ဘီလီက တကယ်ပင်ကြော့ရှင်းလှပသူ အမျိုးသမီးတဦး ပါကားဟုလည်း ဗီရာက စိတ်ထဲမှ မှတ်ချက် ချလိုက်သည်။

ဝတ်စားထားပုံက သူမ၏ခန္ဓာကိုယ်လှပ အချိုးကျပုံကို ပေါ်လွင်နေသည့်ပြင် လမ်းလျှောက်ဟန်၊ လှုပ်ရှားဟန်တို့ကလည်း ပြောစရာမရှိအောင် လှပကြည့်ကောင်းနေပေသည်။

တကယ်ထူးခြားသော အမျိုးသမီးပါတကားဟု အကဲဖြတ်ယင်း ဗီရာသည် စိတ်ထဲမှ တမျိုး ဖြစ်လာလေသည်။ သုံးနှစ်တာကာလအတွင်း ပထမဆုံးအကြိမ် စိုးရိမ်ကြောင့်ကြသလို၊ သူ့ကိုယ်သူ သံသယ ရှိသလို ဖြစ်လာမိသည်။

ဒီမိန်းမနေရာ ငါက လူစားဝင်နေလို့ ဖြစ်ပါ့မလားဟူသော စိုးရိမ်သံသယပင်

ဖြစ်သည်။

"မိန်းမက သိပ်လှတာပဲကိုး"

ဤသို့လည်း ပါးစပ်မှ ရေရွတ်လိုက်မိလေသည်။

ဤတွင် ဗိုလ်ချုပ်ကြီးပီထရော့ဗ်သည် ရုပ်မြင်သံကြားစက်ကို ကြည့်နေရာမှ သူ၏ဘေးရှိ ဗီရာကို လှည့်ကြည့်လိုက်သည်။

"သူက သိပ်လှတယ်ဆိုရင် မင်းကလည်း သူ့လို လှတာပါပဲ"

"ဟုတ်လား၊ ကျွန်မက တကယ်ပဲ သူနဲ့တူရဲ့လားရှင့်"

ဗီရာက မိန်းကလေးကိုကြည့်ရင်း ပြန်မေးလိုက်သည်။

"မယုံရင် မင်းကိုယ်မင်း မှန်ထဲ ပြန်ကြည့်ပါလား"

ပီထရော့ဗ်က အခန်းတွင်းရှိ ကိုယ်လုံးပေါ်မှန်ကြီးကို ညွှန်ပြရင်း ပြောလိုက်သည်။

ဗီရာလည်း သူ့ကိုယ်သူ မှန်ထဲသို့ ကြည့်လိုက်မိသည်။ အင်္ဂါရုပ်အားဖြင့် တူနေသည်မှာ မှန်သည်။ သို့သော် အပေါ်ယံ သဘောတူနေခြင်းသာ ဖြစ်ပေသည်။ မိမိသည် ကိဗ်မြို့မှ ပြဇာတ်မင်းသမီး ဗီရာသာဖြစ်သည်။ ပိတ်ကားပေါ်မှ အမျိုးသမီးကမှ အမေရိကန် သမ္မတကတော် ဘီလီအစစ် ဖြစ်သည်။ ဤခြားနားချက် မည်သို့မှ ဖျောက်ဖျက်ပစ်၍ ရမည် မဟုတ်ချေ။

ဤသို့ ဗီရာက ဆင်ခြင် စဉ်းစားနေစဉ်မှာပင် ပိတ်ကားပေါ်မှ အရုပ်များက လှုပ်ရှားနေသည်။ ဆိုဗီယက်ယူနီယံဆိုင်ရာ အမေရိကန်သံအမတ်ကြီး မစ္စတာယန်ဒါလ်က သမ္မတကတော်ဘီလီအား ရင်းနှီးစွာ ခရီးဦးကြိုပြု နှုတ်ဆက်နေပြီဖြစ်သည်။

သံအမတ်ကြီးကပင် ဘီလီ၏ လက်မောင်းကို ညင်သာစွာ ကိုင်ရင်း ဆိုဗီယက် ဧည့်ခံရေးအုပ်စုရှိရာသို့ ခေါ်သွားနေလေသည်။

သံအမတ်ကြီးက သမ္မတကတော်ဘီလီအား ရုရှဝန်ကြီးချုပ်ကတော်အမှူးပြုသော ဧည့်ခံကြိုဆိုရေး အဖွဲ့ဝင်များနှင့် မိတ်ဆက်ပေးနေသည်။

ဝန်ကြီးချုပ်ကတော် ရုရှဘာသာဖြင့် ပြောနေရာ ဘေးမှ ရာဇင်က အင်္ဂလိပ်ဘာသာဖြင့် တဆင့် ပြန်ပြောနေလေသည်။

ထို့နောက် ရာဇင်ကပင် သမ္မတကတော်ဘီလီအား တဘက်သို့ ခေါ်သွားပြီး စကားပြန်လုပ်ရင်း ရုရှလူမျိုး ထိပ်သီးပုဂ္ဂိုလ်ကြီးများနှင့် မိတ်ဆက်ပေးပြန်သည်။

ရာဇင်သည် အနောက်နိုင်ငံ ယဉ်ကျေးမှု ထုံးစံအတိုင်း အမေရိကန်သမ္မတကတော်အား ရင်းနှီးစွာ လက်မောင်းတဘက်ကို အသာကိုင်၍ ခေါ်သွားပြီး မိတ်ဆက်ပေးနေသည်ကို မြင်သည်တွင် ဗီရာသည် ကြည့်နေရင်းက စိတ်ထဲမှ မနာလို ဝန်တိုသလို ဖြစ်လာမိလေသည်။ သူမ၏ချစ်သူ ရာဇင်က အလွန်လှပ ကြော့ရှင်းသော သမ္မတကတော် ဘီလီနားသို့ ရင်းနှီးစွာ ကပ်နေခြင်းကို ကြည့်ပြီး မနာလိုဖြစ်နေမိလေသည်။

ရာဇင်သည် မိမိနှင့် သမ္မတကတော် အစစ် ဘီလီကို နှိုင်းယှဉ်ကြည့်မိမည်မှာ သေချာသည်။ ရာဇင်သည် မိမိထက် သမ္မတကတော် ဘီလီကို ပိုမို သဘောကျသွားလျှင် မည်သို့နေမည်နည်း။

ဤသို့လည်း ဗီရာသည် စိတ်ထဲမှ စိုးရိမ်မိသေးသည်။ သို့သော် သူ့ကိုယ်သူ မှန်ထဲ ပြန်ကြည့်လိုက်သောအခါ ငါလည်း ဘီလီနဲ့ ဘာထူးလို့လဲဟု ပြန်တွေးမိကာ စိတ်ကို ပြန်တင်းလိုက်သည်။

ရုပ်မြင်သံကြားပိတ်ကားပေါ်တွင်ကား သမ္မတကတော်ဘီလီသည် မိုက်ကရိုဖုန်း စကားပြောခွက်များ ရှေ့တွင် ရုပ်လျက် အင်္ဂလိပ်ဘာသာဖြင့် မိန့်ခွန်းပြောနေလေသည်။

သူမက မော်စကိုမြို့သို့ လာရောက်လည်ပတ်ချင်သည့်ဆန္ဒ ပြင်းပြနေသည်မှာ ကြာပြီဖြစ်ကြောင်း၊ ယခုရောက်ရှိလာချိန်တွင် အလွန် ဝမ်းမြောက်မိသည်နှင့်အမျှ မိတ်ဆွေတွေ အများအပြား တွေ့ရလိမ့်မည်ဟု မျှော်လင့်ကြောင်း၊ အမျိုးသမီး ညီလာခံကြီးတွင် အခြားနိုင်ငံအသီးသီးမှ အမျိုးသမီး ခေါင်းဆောင်များနှင့် ရင်းနှီးစွာ တွေ့ဆုံရမည်ကိုလည်း ဝမ်းမြောက်မိကြောင်း စသည်ဖြင့် သွက်လက်စွာ ပြောနေပေသည်။

ဗီရာသည် အမေရိကန်သမ္မတကတော် စကားပြောဟန်၊ မျက်နှာ အမူအရာ၊ အနေအထား စသည်တို့ကိုလည်း မျက်ခြည်မပြတ် ကြည့်နေမိလေသည်။

ထို့နောက် အမေရိကန် သံအမတ်ကတော်နှင့် ရုရှဝန်ကြီးချုပ်ကတော်တို့ နှစ်ဦးဘေးမှ ရပ်လျက် သမ္မတကတော်ဘီလီအား အသင့်စောင့်နေသော အနက်ရောင် ဆီဒင်ကားကြီးရှိရာသို့ ခေါ်သွားကြ လေသည်။

ထိုကားရှေ့မှ ယူနီဖောင်းဝတ် ရဲမော်တော်ဆိုင်ကယ်လေးစီးက သွားပြီး ဝဲယာဘေးနှစ်ဘက်မှ လည်း အဝါရောင် မော်တော်ယာဉ်နှစ်စီးက ခြံရံလျက် ရှိသည်။

အမေရိကန်သမ္မတကတော်သည် မော်တော်ကားပေါ်သို့ တက်ထိုင်ပြီးချိန်တွင် ဗီရာသည် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်အား စကားပြောရန် လှမ်းကြည့်လိုက်သည်။

ထိုအချိန်၌ ဗိုလ်ချုပ်ကြီးက မိမိအား ငေးစိုက်ကြည့်နေသည်ကို မြင်ရလေသည်။

ဗိုလ်ချုပ်ကြီးသည် ရုပ်မြင်သံကြားစက်ဘက်သို့ ညွှန်ပြရင်း

"ဘယ့်နှယ်လဲ မင်းက ဟိုဟာကြည့်ပြီး ကြောက်နေသလား"

ဟု ပြောလိုက်သည်။ ဤတွင် ဗီရာက ခပ်တည်တည်နှင့်

"ဟိုဟာက ကျွန်မဟန်ဆောင်နေတဲ့ မိန်းမပဲ၊ ကျွန်မကမှ ဖတ်စ်လေဒီ သမ္မကတော် အစစ်ပါရှင့်"

ဟု ရယ်မောကာ ပြောလိုက်ရာ ဗိုလ်ချုပ်ကြီးသည် အထူးကျေနပ် သဘောကျ သွားလေတော့သည်။

*

မော်စကိုမြို့ ကရင်မလင်နန်းတော်ကြီးအနီး အထူးတလည် တည်ဆောက်ထားသော အစည်းအဝေး ခန်းမဆောင်ကြီးအတွင်း ကျင်းပနေသည့် နိုင်ငံတကာ အမျိုးသမီး ညီလာခံကြီးတွင် ရုရှဝန်ကြီးချုပ် ၏ ဇနီးက နိဂုံးချုပ် မိန့်ခွန်း ပြောကြားနေလေသည်။

နိုင်ငံပေါင်း ကိုးဆယ်မှ အမျိုးသမီး ကိုယ်စားလှယ်ပေါင်း နှစ်ထောင်ကျော် တက်ရောက်သည့် ထိုညီလာခံကြီးကို ကျင်းပခဲ့သည်မှာ သုံးရက်တိုင်တိုင် ရှိသွားခဲ့ပြီဖြစ်၍ ယခု နောက်ဆုံးနေ့ ဖြစ်လေသည်။ အမေရိကန် သမ္မတကတော်ဘီလီသည် ခန်းမဆောင်ကြီး၏ရှေ့နားတွင် ထိုင်နေရင်း အင်း တော်ပါသေးရဲ့ ညီလာခံကြီး ပြီးတော့မှာပါလားဟု တွေးကာ ဝမ်းသာနေမိလေသည်။ သူမအနေဖြင့် အလွန်ကိုယ်ရောစိတ်ပါ နွမ်းနယ်နေသောကြောင့်ပင် ဖြစ်သည်။

သူမ၏ဘေးနားတွင် အမေရိကန်သံအမတ်ကြီး ယန်ဒါလ်နှင့် သံရုံးအရာရှိတဦးတို့ ထိုင်နေကြသည်။ တဘက်တွင်မူ ရာဇင်၊ နိုရာနှင့် ပါကာတို့က ထိုင်နေကြသည်။ လုံခြုံရေး အစောင့်နှစ်ဦးဖြစ်သူ ဗင်ဟက်တာနှင့် မက်ဂင်တီတို့က သမ္မတကတော်၏ ရှေ့နှင့်နောက် တည့်တည့်တွင် နေရာယူထား ကြသည်။

ဝန်ကြီးချုပ်ကတော်က ရုရှဘာသာဖြင့် ပြောနေစဉ် ဘေးမှ ရာဇင်က

အင်္ဂလိပ်လိုတဆင့် ဘာသာပြန် ပြောပေးနေသည်ကို ဘီလီသည် သဘောကျမိလေသည်။ ဤစကားပြန်လုပ်ရသူ ရုရှအရာရှိသည် အလွန် ရည်ရည်မွန်မွန် ရှိသည်ဟုလည်း သမ္မတကတော်က ရာဇင်ကို အကဲဖြတ်မိလေသည်။

ဘီလီသည် သုံးရက်လုံးလုံး အစည်းအဝေး တက်ခဲ့ရ၍ စိတ်အတော် ပင်ပန်းနေလေရာ ခင်ပွန်းဖြစ်သူ သမ္မတ ဘရက်ဖို့ဒ်ကိုလည်း သတိရနေမိလေသည်။ အစည်းအဝေးပြီး၍ ဟိုတယ်သို့ ပြန်ရောက်ရောက်ချင်း ခင်ပွန်းသည်ထံ တယ်လီဖုန်းဆက်မည်ဟုလည်း စိတ်ကူးမိလေသည်။

မော်စကိုမြို့သို့ ဆိုက်ရောက်သည့်အချိန်မှစ၍ ဘီလီသည် နားရသည်ဟူ၍ မရှိ။ အိမ်ရှင် ရုရှအာဏာပိုင်တို့၏စီစဉ်ချက်ဖြင့် မြို့တော်အတွင်း လှည့်လည်ကြည့်ရှုရခြင်း၊ လေ့လာရေး ထွက်ရခြင်းတို့ဖြင့် အချိန်ကုန်ခဲ့ရသည်။ ဒုတိယနေ့တွင်လည်း အမျိုးသမီး ညီလာခံနှင့် ပတ်သက်သည့် စာရွက်စာတမ်းများ၊ အစီရင်ခံစာများကို လေ့လာခဲ့ရသည်မှာလည်း အထူးပင် ငြီးငွေ့ဖွယ် ကောင်းလှသည်။

သို့သော် ယခုတော့ ရုရှဝန်ကြီးချုပ်ကတော်က နိဂုံးချုပ်စကား ပြောနေပြီဖြစ်၍ ညီလာခံကြီး ပြီးဆုံးတော့မည်ဟု ဝမ်းသာနေမိသည်။ ယနေ့ည ဂုဏ်ပြု ညစာစားပွဲကြီး ပြီးလျှင် သူမသည် ကောင်းစွာ အနားယူတော့မည် ဖြစ်လေသည်။

နက်ဖြန်ဆိုလျှင် သူမသည် ဝါရှင်တန်မြို့တော်သို့ ပြန်ရတော့မည် ဖြစ်သည်။ ထိုမှတဆင့် လော့စ်အိန်ဂျလိစ်မြို့ သို့သွားပြီး အမျိုးသမီးညီလာခံအကြောင်း ရှင်းလင်း ပြောပြရဦးမည်။ တဖန် ခင်ပွန်းသည်နှင့်အတူ အင်္ဂလန်ပြည် လန်ဒန်မြို့ ထိပ်သီး ဆွေးနွေးပွဲသို့လည်း လိုက်ပါ သွားရဦးမည် ဖြစ်ရာ ဘီလီသည် များပြားလှသော ခရီးစဉ်များအကြောင်း စဉ်းစားရင်း စိတ်မောနေမိပြန်သည်။

ညီလာခံကြီး ပြီးဆုံးသွားပြီဖြစ်ရာ အားလုံး လက်ခုပ်တီး ဩဘာပေးကြပြီးနောက် ဘီလီသည် လုံခြုံရေး အစောင့်များ ခြံရံလျက် စည်းဝေးခန်းမ ပြင်ဘက်သို့ ထွက်လာရာ အခြားအမျိုးသမီး ကိုယ်စားလှယ် အတော်များများက အတင်း ဝင်တိုးပြီး နှုတ်ဆက်ကြလေသည်။ အချို့ကလည်း ဘီလီအား အော်တိုလက်မှတ်ထိုးရန် စာအုပ်များ ထိုးပေးသဖြင့် ဘီလီကလည်း လိုက်လျောကာ လက်မှတ်ထိုးပေးလိုက်လေသည်။

အပြင်ဘက်တွင်ကား သူတို့အဖွဲ့ အတွက် ရုရှအစိုးရက စီစဉ်ပေးသော သီးသန့် ဆီဒင်ကားကြီးနှစ်စီး အသင့် ရပ်စောင့်နေလေသည်။ သမ္မတကတော်ဘီလီသည် မော်တော်ကားပေါ် တက်ခါနီးကျမှ တစုံတခုကို

သတိရဟန်ဖြင့် ပြန်ကြားရေးမှူး အမျိုးသမီး နီရာအား ခေါ်၍ မေးလေသည်။

"ဟေ့ နီရာ၊ တို့အချိန်များ နည်းနည်းရနိုင်မလား၊ ဒီမြို့က မပြန်ခင် အမှတ်တရ လက်ဆောင်ပစ္စည်း ကလေးဘာလေး ဝယ်ချင်သေးတယ်"

နီရာက လက်ပတ်နာရီကို ကြည့်လိုက်ပြီး

"တစ်နာရီလောက်တော့ အချိန်ရနိုင်ပါတယ်"

ဟု ပြန်ပြောလိုက်သည်။

ဤတွင် ဘီလီသည် အနီးရှိ ရာဇင်ဘက်သို့ လှည့်၍

"မစ္စတာရာဇင်နှင့် ကျွန်မက လက်ဆောင်ပစ္စည်း နည်းနည်းပါးပါး ဝယ်ချင်လို့ ဘယ်ဆိုင်ကို သွားရင် ကောင်းမလဲ"

ဟု မေးလိုက်သည်။

"ကျွန်တော်ကတော့ ဘာယိုဘာဆိုင်ကို သွားဖို့ အကြံပေးချင်ပါတယ်။ ဒီဆိုင်က အစိုးရက ဖွင့်ထားပြီး နိုင်ငံခြားဧည့်သည်တွေအတွက် သီးသန့်ထားပါတယ်။ နိုင်ငံခြားငွေနဲ့မှ ဝယ်လို့ရပါတယ်။ ပစ္စည်းတွေကတော့ အလွန်စုံလင်ပါတယ်"

ရာဇင်က ပြန်ပြောလိုက်ရာ ဘီလီက သဘောကျပုံ မရချေ။

"ရှင်ပြောတာက နိုင်ငံခြားသားတွေအတွက် သီးသန့်ဆိုင်ပဲ၊ ကျွန်မသွားချင်တာက ရုရှလူမျိုးတွေ သွားပြီး ဝယ်ခြမ်းကြတဲ့ ဆိုင်မျိုးမှရှင့်"

"ဒါဖြင့် နိုင်ငံပိုင် ကုန်ပဒေသာဆိုင်ကြီးကို သွားနိုင်ပါတယ်၊ ဆိုင်ခန်းပေါင်း တထောင်လောက် ရှိပါတယ်။ ဒါပေမဲ့ အဖိုးတန်ပစ္စည်းတွေတော့ မရှိပါဘူး။ နောက်တချက်က အဲဒီဆိုင်ကို သွားမယ် ဆိုရင် ရုရှနိုင်ငံသုံး ရူဘယ်လ်ငွေ လိုအပ်ပါလိမ့်မယ်"

ရာဇင်က ဤသို့ ပြောလိုက်ရာ အနီးရှိ အမေရိကန်သံအမတ်ကြီး ယန်ဒယ်လ်က

"ဒါအတွက် ပြဿနာမရှိပါဘူး"

ဟု ဝင်ပြောလိုက်သည်။ ဘီလီက ရာဇင်ဘက်သို့ ပြန်လှည့်၍

"အဲဒီဆိုင်က ရုရှလူမျိုးတွေ ဈေးဝယ်တဲ့ဆိုင်ပဲလားရှင့်"

ဟု မေးလိုက်သည်။

"ဟုတ်ပါတယ်"

"ဒါဖြင့် ကျွန်မ အဲဒီဆိုင်ကို သွားချင်ပါတယ်"

"ဟုတ်ကဲ့ ကောင်းပါပြီ၊ ကျွန်တော်က ကုန်ပဒေသာဆိုင်ရဲ့ညွှန်ကြားရေးမှူးဆီကို ကြိုတင် ဖုန်းဆက်ထားလိုက်မယ်၊ ဒါမှ သူက အသင့်ကြိုဆိုနေပါလိမ့်မယ်၊ ညွှန်ကြားရေးမှူးကိုယ်တိုင်က အင်္ဂလိပ်စကား ကောင်းကောင်းတတ်တဲ့အတွက် အခက်အခဲ မရှိနိုင်ပါဘူး။ သမ္မတကတော်တို့က သွားနှင့်ပါ။ ကျွန်တော်က တယ်လီဖုန်းဆက်ပြီးတာနဲ့ လိုက်လာခဲ့ပါမယ်"

နောက်ဆယ်မိနစ်ခန့်ကြာလျှင် ရာဇင်သည် တယ်လီဖုန်းဆက်ပြော၍ ဒုတိယကားဆီသို့ ပြန်လာလေသည်။ ထိုကားပေါ်တွင် အမေရိကန် သံအမတ်ကြီးနှင့် သတင်းစာဆရာ ပါကာတို့လည်း လိုက်ပါကြသည်။

ထိုကားဖြင့် သွားကြရာ ကုန်ပဒေသာဆိုင်သို့ ရောက်သောအခါ သမ္မတကတော် ဘီလီ၏ကားက ရောက်နှင့်နေပြီး ဆိုင်၏ ဆင်ဝင်အောက်တွင် ရပ်ထားလေသည်။

ရာဇင်သည် လျင်မြန်သွက်လက်စွာ ပြေးဆင်းသွားပြီး ကုန်ပဒေသာဆိုင်၏ ညွှန်ကြားရေးမှူး လူဝဝကြီးတယောက်ကို ခေါ်ထုတ်လာလေသည်။ သူကပင် သမ္မတကတော် ဘီလီနှင့်တကွ အမေရိကန်သံအမတ်ကြီး၊ ပြန်ကြားရေးမှူး နိုရာနှင့် သတင်းစာဆရာ ပါကာတို့နှင့် မိတ်ဆက်ပေး လိုက်သည်။

ညွှန်ကြားရေးမှူးက ပြုံးရွှင်စွာဖြင့် ဦးညွတ်အလေးပြုလိုက်သည်။

"အခုလို ဒီဆိုင်ကို ကြွလာတာကို အထူးဝမ်းမြောက် ဂုဏ်ယူပါတယ်။ ကိုင်း အတွင်းကို ကြွပါခင်ဗျာ၊ ကျွန်တော် လိုက်ပြပေးပါမယ်"

ဤတွင် သမ္မတကတော်ဘီလီက ကျန်လူများအား

"ကျွန်မက သိပ်ကြာမှာ မဟုတ်ပါဘူး၊ ကျန်တဲ့လူတွေပါ လိုက်နေရင် အလကား ပင်ပန်းနေပါ့မယ်၊ ဒီမှာပဲ ခဏစောင့်နေကြပါလား"

ဟု ပြောလိုက်သည်။ သို့သော် အမေရိကန် သံအမတ်ယန်ဒါလ်က

"ကျုပ်တော့ လိုက်ခဲ့ရင်ကောင်းမယ်"

ဟု ပြောပြီး ဘီလီနောက်သို့ လိုက်သွားလေသည်။

ရာဇင်သည် ပါကာနှင့်အတူ မော်တော်ကားနားတွင် ရပ်နေရာမှ စီးကရက် ထုတ်တည်ပြီး

"ခင်ဗျားနဲ့ ကျုပ်နဲ့က ဒီနားမှာ အညောင်းပြေ လမ်းလျှောက်နေကြရအောင်"

ဟု ပြောလိုက်သည်။ ပါကာကလည်း "ကောင်းသားပဲ" ဟုဆိုကာ နှစ်ယောက်သား ဆိုင်ရှေ့တွင် စင်္ကြံလျှောက်နေကြလေသည်။

ခဏမျှကြာလျှင် ပါကာသည် ရာဇင်ကို ကြည့်ရင်း

"ခင်ဗျား အင်္ဂလိပ်စကား ပြောတာက အမေရိကန်လူမျိုးတွေပြောတဲ့ လေသံ ဖြစ်နေပါကလား၊ ခင်ဗျားက အင်္ဂလိပ်စကား ဘယ်မှာသင်တာ"

ဟု မေးလိုက်သည်။

"အမေရိကန်မှာပါပဲ၊ ကျုပ်ဟာ အမေရိကန်က ဗာဂျီးနီးယား ပြည်နယ်မှာ မွေးဖွားခဲ့တယ် ခင်ဗျ"

"ဟင် ဟုတ်လား၊ အံ့သြစရာပါပဲ၊ ခင်ဗျားကို ကြည့်ရတာ တကယ့် ရုရှလူမျိုးအစစ်နဲ့ တူနေတယ်"

"ကျုပ် ရုရှလူမျိုးပါပဲ၊ အဖေက ရုရှလူမျိုး အစစ်၊ အမေကသာ အမေရိကန်အမျိုးသမီး ဖြစ်ပါတယ်။ ကျုပ်အမေက အမေရိကန်နိုင်ငံ ပင်ဆဲလ်ဗေးနီးယားပြည်နယ် ဇာတိ ဖြစ်ပါတယ်။ ကဲပါ ကျုပ်ရဲ့ မျိုးရိုး ဇာတိရာဇဝင် ပြောနေလို့ ခင်ဗျား ငြီးငွေ့နေပါဦးမယ်"

ရာဇင်က ပြောလိုက်ရာ ပါကာက

"မငြီးငွေ့ပါဘူး၊ ကျုပ်က စိတ်ဝင်စားပါတယ်"

ဟု ပြန်ပြောလေသည်။

ဤတွင် ရာဇင်သည် ပြုံး၍ သူ ငယ်စဉ်က အမေရိကန်ပြည်တွင် နေထိုင်ခဲ့ရပုံများနှင့် နောက်မှ ဖခင်ကြီးနှင့်အတူ ရုရှနိုင်ငံသို့ရောက်လာခဲ့ရပုံကို ပြောပြလိုက်သည်။ သို့သော် သူ၏လက်ရှိ အလုပ်နှင့် ကေ-ဂျီ-ဘီ ထောက်လှမ်းရေးတွင် သင်တန်းတက်လေ့ကျင့်ရပုံတို့ကို မပြောဘဲ သူသည် အစိုးရခန့် စကားပြန်တယောက်ဖြစ်ကြောင်းသာ ပြောလိုက်သည်။

ရာဇင်၏ စကားအဆုံးတွင် ပါကာသည် မျက်မှောင်ကြုတ် စဉ်းစားကာ "တခုတော့ ထူးဆန်းတယ်ဗျ။ ကျုပ်က ခင်ဗျားကို အမေရိကန်မှာ မြင်ဖူးတယ်လို့

ထင်နေပါတယ်။ ဒါပေမဲ့ ခင်ဗျားက ဆယ့်ငါးနှစ်သားကတည်းက ထွက်သွားတယ်ဆိုတော့ ဒါလည်း မဖြစ်နိုင်ဘူး" ဟု ပြောလိုက်သည်။

"ခင်ဗျားကို ကျုပ်ပြောပြဖို့ တခု မေ့နေတယ်။ ကျုပ်က လွန်ခဲ့တဲ့ ငါးနှစ်လောက်က အမေရိကန်ကို ခဏ ပြန်ရောက်ခဲ့သေးတယ်ဗျ"

ရာဇင်က ဖွင့်ပြောလိုက်သည်။

"တိုးရစ္စခရီးသည်အဖြစ် သွားတာလား"

"မဟုတ်ပါဘူး၊ ကျုပ်က တပ်စ်သတင်း အေဂျင်စီဌာနရဲ့ ဝါရှင်တန် သတင်းထောက်အဖြစ် တာဝန် ထမ်းဆောင်ခဲ့ရပါတယ်"

"ဩော် ဒါကြောင့်ကိုး၊ ကျုပ်ကလည်း သမ္မတကြီးရဲ့မိန့်ခွန်းရေးသူ အလုပ်မလုပ်ခင်က ဝါရှင်တန်မှာ အမေရိကန် အေ-ပီ ကြေးနန်းသတင်းဌာနရဲ့ သတင်းထောက် လုပ်ခဲ့ပါတယ်။ အဲဒီတုန်းက ခင်ဗျားကို သတင်း စာကွန်ဖရင့်မှာ တွေ့ဖူးတာ ဖြစ်လိမ့်မယ်"

"ဖြစ်နိုင်တယ်"

"ဒါထက် ခင်ဗျားအနေနဲ့ ဝါရှင်တန်မြို့မှာ အလုပ် လုပ်ခဲ့ရတာ ပျော်ရဲ့လား"

"သိပ်ပျော်တယ်၊ သိပ်လဲ သဘောကျပါတယ်"

"ဒါဖြင့် ခင်ဗျားက ဘာကြောင့် ဒီကို ပြန်လာခဲ့ရတာလဲ"

"ကျုပ်သဘောနဲ့ ပြန်လာခဲ့တာ မဟုတ်ဘူးခင်ဗျာ၊ ကျုပ်ကို နှင်ထုတ်လိုက်တာ"

ရာဇင်က ပြောလိုက်လျှင် ပါကာသည် အံ့အားသင့်သွားပုံ ရလေသည်။

"ဟင် ခင်ဗျားကို နှင်ထုတ်လိုက်တယ် ဟုတ်လား"

"ဟုတ်ပါတယ်ဖြစ်ပုံက ဒီလိုပါ၊ မော်စကိုမြို့က ခင်ဗျားတို့ အမေရိကန်သံရုံး အရာရှိတဦးကို ကျုပ်တို့ရဲ့အာဏာပိုင်တွေက နိုင်ငံရေး စွက်ဖက်မှုနဲ့ ဖမ်းလိုက်တော့ အမေရိကန် အစိုးရကလည်း တုံ့ပြန် ကလဲ့စားချေတဲ့အနေနဲ့ ဒီက ရုရှတယောက်ကို ပြည်နှင်ဒဏ်ပေးဖို့ လုပ်ရာမှ ကံဆိုးချင်တော့ ကျုပ်ကိုပဲ ရွေးပြီး နှင်ထုတ်တယ်၊ တကယ်တော့ ကျုပ်က အမေရိကန်နိုင်ငံကို အလွန်သဘောကျ ပါတယ်၊ အခုတော့ နောက်ထပ်သွားဖို့ မျှော်လင့်ချက် မရှိတော့ဘူး"

"ကျုပ် ဝမ်းနည်းပါတယ် ကျုပ်စိတ်ထဲမှာ တောင့်တချက်တခု ရှိတယ်၊

ဘာလဲဆိုတော့ အမေရိကန်ပြည်မှာ ကျုပ်ရဲ့သဘောထားအမှန်ကိုသိတဲ့ ပုဂ္ဂိုလ်တယောက်ယောက်များ ရှိလို့ ကျုပ်ကို ပြည်နှင်ဒဏ်ပေးတဲ့အမိန့် ပြန်ရုပ်သိမ်းလိုက်ရင် ဘယ်လောက်ကောင်းမလဲလို့ ဒီလိုဆိုရင် ကျုပ်ဟာ အမေရိကန်ကို သွားခွင့် ရလာမှာပဲ"

ဤသို့ ရာဇင်က ပြောလိုက်ပြီးမှ သူ ဘာကြောင့် ဤစကားမျိုး ပြောလိုက်မိသည်ကို သူ့ဟာသူ နားမလည်နိုင်ချေ။ အတွင်းနှလုံးသားမှ တောင့်တချက်ကို ထုတ်ဖော်ပြောလိုက်မိခြင်းပင် ဖြစ်လေသလော။

ဤတွင် ပါကာကလည်း နှစ်သိမ့်အားပေးသည့်အနေဖြင့်

"ဒါတော့ဗျာ၊ ဘယ်ပြောနိုင်ပါ့မလဲ၊ နိုင်ငံရေးဆိုတာ အခြေအနေ ပြောင်းသွားတတ်တဲ့ သဘော ရှိတာပဲ၊ ထုတ်ပြန်ပြီးသား အမိန့်တွေ ပြန်ရုပ်သိမ်းလိုက်တဲ့ သာဓကတွေလည်း ရှိပါတယ်"

ဟု ပြောလိုက်သည်။

"တကယ်လို့ အဲဒီလိုများ ဖြစ်လာလို့ ကျုပ်က အမေရိကန်ကို လာခွင့်ရရင် ခင်ဗျားက ကျုပ်ကို မှတ်ထားစေချင်ပါတယ်။ ကျုပ်က ဒီမှာ နေရတာ မပျော်လို့ မဟုတ်ပါဘူး၊ ပျော်ပါတယ်။ ဒါပေမဲ့ အမေရိကန်ကို လာလည်ချင်တာပါပဲ"

"ကောင်းပါပြီ၊ ကျုပ် မှတ်ထားပါ့မယ် ခင်ဗျား"

"ကျုပ်ကို မမေ့ဘူးပေါ့"

"မမေ့ပါဘူး၊ စိတ်ချပါ"

"ကျေးဇူးတင်ပါတယ်၊ နောက်တခုက ခင်ဗျားအနေနဲ့ ကျုပ်ကို အကူအညီ တောင်းစရာရှိရင် တောင်းသာတောင်းပါ တတ်နိုင်သလောက် ကူညီပါ့မယ်"

"ဟုတ်လား၊ ဒါဖြင့် ကျုပ် ဗော့ဒ်ကာအရက် တစ်သေတ္တာလောက် တောင်းဦးမှပဲ၊ ဟဲ ဟဲ"

ပါကာက ရယ်မောၐ ပြောလိုက်ရာ ရာဇင်ကလည်း

"ရပါတယ်ဗျာ"

ဟု ပြန်ပြောလိုက်သည်။ ထိုအခိုက် ပါကာသည် ကုန်ပဒေသာ ဆိုင်ဘက်သို့ ညွှန်ပြလိုက်သည်။

"ဟော ဟိုမှာ သမ္မတကတော် မဟုတ်လားဗျ"

ရာဇင်လည်း လှမ်းကြည့်လိုက်ပြီး

"ဟုတ်တယ်ဗျို့၊ တခုခု ဝယ်စရာ တွေ့လာပြီ ထင်တယ်"

ဟု ပြောလိုက်သည်။

ထိုအချိန်တွင် သမ္မတကတော် ဘီလီသည် ကုန်ပဒေသာဆိုင် ညွှန်ကြားရေးမှူးနှင့်အတူ ဆိုင်ဝမှ ထွက်လာနေပြီဖြစ်သည်။ သူတို့၏လက်တွင်လည်း ကုန်ပစ္စည်းများ ဝယ်လာသည့် စက္ကူအိတ်ကြီး များ ဆွဲကိုင်ထားသည်။ သူတို့နှစ်ယောက်နားမှ အမေရိကန်သံအမတ်ကြီးနှင့် ပြန်ကြားရေးမှူး နီရာတို့လည်း လိုက်ပါလာကြသည်။

"ကိုင်း လာ၊ ကျုပ်တို့ သွားကြရအောင်"

ပါကာက ပြောရင်း လျှောက်ထွက်သွားရာ ရာဇင်လည်း လိုက်သွားလေသည်။

ရာဇင်၏ စိတ်ထဲ၌ သူသည် အမေရိကန်ပြည်သို့ သွားလိုကြောင်း ပါကာအား ပြောလိုက်ခြင်းသည် မှားသွားလေပြီလောဟု တွေးမိလေသည်။ ထိုစကားကို ဗိုလ်ချုပ်ကြီး ပီထရော့ဗ် ကြားသွားလျှင် မည်သို့နေမည်နည်း။ သို့သော် ပါကာလိုလူက ကေ-ဂျီ-ဘီ အကြီးအကဲအား သွားပြောမည်မဟုတ်ဟု စိတ်ကို ပြန်ဖြေလိုက်ရသည်။

အမေရိကန်သမ္မတကတော် ဘီလီသည် မော်တော်ကားပေါ်သို့ ပြန် တက်နေပြီဖြစ်သည်။

ထိုအချိန်၌ ရာဇင်သည် ယခု ကားပေါ်တက်သွားသူ အမျိုးသမီးမှာ သမ္မတကတော် ဘီလီ အစစ်မဟုတ်ဘဲ မိမိတို့၏ ပြဇာတ်မင်းသမီး ဗီရာဖြစ်သည်ဟု ထင်မိလေသည်။

*

မော်စကိုမြို့ကြီးတွင် ညမိုးချုပ်နေပြီ ဖြစ်သော်လည်း လျှပ်စစ်မီးများ ထိန်လင်းအောင် ထွန်းထားသည့် ကရင်မလင်နန်းတော်ကြီးအတွင်း၌ကား လူတွေ အလုပ်ရှုပ်နေကြလေသည်။

အထူးသဖြင့် ကွန်မြူနစ်ပါတီ အထွေထွေ အတွင်းရေးမှူး ဝန်ကြီးချုပ် ကီရင်ချင်ကို၏ ရုံးခန်းတွင်း၌ အလွန် အလုပ်များနေကြလေသည်။

ဝန်ကြီးချုပ် ကီရင်ချင်ကိုသည် ဆိုဗီယက်ယူနီယံ၏ ထိပ်သီး အာဏာပိုင်

ပုပ္ဂိုလ်များနှင့်အတူ တိုင်ပင် ဆွေးနွေးနေကြသည်။ ဆွေးနွေးနေကြသည့် အကြောင်းအရာကား မကြာမီ လန်ဒန်မြို့၌ ကျင်းပ ပြုလုပ်မည့် အမေရိကန်သမ္မတနှင့် ထိပ်သီးဆွေးနွေးပွဲအတွက် ကြိုတင်ညှိနှိုင်း တိုင်ပင်နေကြခြင်း ဖြစ်သည်။

အဓိကအကြောင်းအရာမှာ အာဖရိကတိုက်ရှိ ဘိုအင်ဒီအမည်ရှိ လူဦးရေ သန်းသုံးဆယ် ရှိသော နိုင်ငံတခုနှင့် ပတ်သက်နေသည်။ ထိုနိုင်ငံတွင် အမေရိကန်နှင့် ရုရှတို့က ဩဇာလွှမ်းမိုးနိုင်ရေး အတွက် အင်အား ပြိုင်လျက်ရှိကြသည်။ အကြောင်းမူကား နှစ်နိုင်ငံလုံးက အလွန် လိုအပ်နေသော ယူရေနီယံ ဓာတ်သတ္တု အမြောက်အမြား ဘိုအင်ဒီနိုင်ငံတွင် ထွက်သောကြောင့်ပင်ဖြစ်သည်။

ယင်းနိုင်ငံတွင်လက်ရှိ သမ္မတ ကီဘန်ဂူအား အမေရိကန်က ထောက်ခံအားပေးနေသလို ဆန့်ကျင်ဘက် သူပုန်အုပ်စုခေါင်းဆောင် ဗိုလ်မှူးကြီး နဝါပါဆိုသူအား ဆိုဗီယက်တို့က ထောက်ခံ အားပေးလျက် ရှိသည်။ သူပုန်အုပ်စုတွင် လူအင်အား တောင့်တင်းသော်လည်း သမ္မတ ကီဘန်ဂူက အမေရိကန် အကူအညီဖြင့် ခေတ်မီလက်နက်အင်အား ပို၍ပြည့်စုံနေသည်။ သို့သော် အမေရိကန် ထောက်လှမ်းရေး စီအိုင်အေအနေဖြင့် သူပုန်ဘက်မှ အင်အား အတိအကျကို စုံစမ်းထောက်လှမ်း၍ မရဟု သိရသည်။

လန်ဒန်မြို့တွင် ကျင်းပသည့် ထိပ်သီးဆွေးနွေးပွဲမှာ ဘိုအင်ဒီနိုင်ငံ၏ အနာဂတ်ရေးနှင့် ငြိမ်းချမ်းမှု ရရှိရန် ဆိုဗီယက်ဝန်ကြီးချုပ်နှင့် အမေရိကန်သမ္မတတို့ တွေ့ဆုံညှိနှိုင်းမည့် ထိပ်သီး ဆွေးနွေးပွဲပင် ဖြစ်သည်။

ဝန်ကြီးချုပ်ကီရင်ချင်ကိုသည် အထက်ပါ အခြေအနေကို ရှင်းလင်းပြောပြပြီးနောက်

"လန်ဒန် ထိပ်သီးဆွေးနွေးပွဲမှာ ကျုပ်တို့ဘက်က အလေးသာပြီး အပေါ်စီးရဖို့ အရေးကြီးပါတယ်၊ အဲဒီလို အနိုင်ရဖို့အတွက် ကျုပ်တို့ဘက်က အသုံးချဖို့ အထူးလျှို့ဝှက်လက်နက် တခုရှိပါတယ်။ ဒီလက်နက်ကို အသုံးချဖို့ အသင့်ဖြစ်နေတာကို လူကြီးမင်းများအားလုံး မြင်စေချင်ပါတယ်"

ဟု စကားကို အဆုံးသတ်ရင်း သူ၏စားပွဲပေါ်မှ ခလုတ်ကို နှိပ်လိုက်ပြီး တံခါးပေါက်ဘက်သို့ လှမ်းကြည့်လိုက်သည်။

အခန်းတွင်းရှိ ပုဂ္ဂိုလ်အားလုံးသည်လည်း တံခါးဘက်သို့ လှည့်ကြည့်နေစဉ် တံခါးပွင့်လာပြီး ကေ-ဂျီ-ဘီ ထောက်လှမ်းရေး အကြီးအကဲ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် မျက်နှာထားတည်တည်ဖြင့် ဝင်လာလေသည်။

သူနှင့်အတူ အမျိုးသမီးတဦးလည်း ပါလာသည်။ အမျိုးသမီးသည် ဝန်ကြီးချုပ် ကီရင်ချင်ကိုဆီသို့ တောက်လျှောက်သွားပြီး လက်ဆွဲနှုတ်ဆက်ရင်း အင်္ဂလိပ်ဘာသာဖြင့် ပြောလေသည်။

"ဝန်ကြီးချုပ်နဲ့ အခုလို တွေ့ဆုံရတာ အထူးပဲ ဝမ်းမြောက်ဂုဏ်ယူပါတယ်၊ ကျွန်မက အမေရိကန် သမ္မတရဲ့ဇနီး ဘီလီဖြစ်ပါတယ်။ ကျွန်မရဲ့ခင်ပွန်း သမ္မတ ဘရက်ဖို့ဒ်ကလည်း ဝန်ကြီးချုပ်ကို နှုတ်ခွန်းဆက်လိုက်ပါတယ်ရှင့်"

ဤတွင် ဝန်ကြီးချုပ်သည် မတ်တတ်ထ၍ အမျိုးသမီး၏ လက်မောင်းတဘက်ကို ကိုင်ကာ ကျန်လူများဘက်သို့ လှည့်၍ ပြောလေသည်။

"လူကြီးမင်းများခင်ဗျား၊ ကျုပ်က မိတ်ဆက်ပေးပါရစေ၊ ဒီအမျိုးသမီးက အမေရိကန် သမ္မတကတော် အစစ်မဟုတ်ပါဘူး။ ဆိုဗီယက်ယူနီယံက အထူးချွန်ဆုံး ပြဇာတ်မင်းသမီး ဗီရာ ဖြစ်ပါတယ်။ သူနဲ့ပတ်သက်လို့ ကျုပ်တို့ လျှို့ဝှက်ပြင်ဆင်နေခဲ့တာ ကြာပါပြီ။ ဒါကို ခင်ဗျားတို့ ရိပ်မိကြပေမယ့် တကယ် ဖြစ်လာပါ့မလားလို့ သံသယရှိခဲ့ကြမယ်ထင်ပါတယ်။ ခုတော့ တကယ်ပဲ ဖြစ်မြောက် အောင်မြင်နေတယ်ဆိုတာ လူကြီးမင်းများ မျက်မြင်ကိုယ်တွေ့ သိရအောင် ကျုပ်က ခေါ်ပြရခြင်းပဲ ဖြစ်ပါတယ်"

အခန်းတွင်းရှိ လူအားလုံးသည် အမေရိကန်သမ္မကတော်အသွင် ဝတ်စား ဆင်ယင် အလှပြင်ထားသူ ဗီရာကို ကြည့်ပြီး အထူးပင် အံ့အားသင့်နေကြလေသည်။

အသက်အကြီးဆုံး ဗိုလ်ချုပ်ကြီး ချူကော့ဗ်စကီးသည် အံ့သြငေးမော ကြည့်နေရာက

"စောစောက ခင်ဗျားတို့ လျှို့ဝှက်အကြံကို သိခဲ့ပေမယ့် ကျုပ်က ဖြစ်မှာ မဟုတ်ဘူးလို့ သံသယ ရှိခဲ့တယ်။ အခုတော့ ကျုပ်အနေနဲ့ လုံးလုံး မရှိတော့ပါဘူး"

"ဟုတ်ကဲ့ ကျုပ်တို့ရဲ့ အထူးလျှို့ဝှက် လက်နက်ဆိုတာ အဲဒါပါပဲ"

ဝန်ကြီးချုပ်က ပြောရင်း ဗိုလ်ချုပ်ကြီးပီထရော့ဗ်ဘက်သို့လှည့်၍

"ခင်ဗျားရဲ့ ကြိုးစားမှုက တကယ်ချီးကျူးထိုက်ပါတယ်။ ဒီအမျိုးသမီးရဲ့ စုံထောက်လှမ်းမှုတွေ က ကျုပ်တို့ အနိုင်ရဖို့အတွက် အထောက်အကူပြုမှာ သေချာပါတယ်"

ဟု ပြောလိုက်သည်။ တဖန် ဝန်ကြီးချုပ်က ဗီရာကို လှည့်၍ မေးပြန်သည်။

"ဘယ့်နှယ့်လဲ၊ ဖတ်စ်လေဒီ အမျိုးသမီး၊ အဆင်သင့်ရှိပြီလား"

"ဟုတ်ကဲ့ ကျွန်မက အဆင်သင့် ဖြစ်နေပါပြီ"

"ကိုယ့်ကိုယ်ကိုယ်ရော ယုံကြည် စိတ်ချမှု ရှိရဲ့လား"

"အပြည့်အဝ ရှိပါတယ်ရှင့်"

"ဒီလိုဆိုရင် ကျွန်တော် စိတ်ချပါပြီ၊ ဆိုဗီယက် ယူနီယံရဲ့ အနာဂတ် ကံကြမ္မာနဲ့တကွ ကမ္ဘာ့အင်အားကြီး နိုင်ငံအချင်းချင်း အင်အားညီမျှမှု ရှိဖို့ရာ မင်းရဲ့ပခုံးပေါ်မှာ ရှိနေပြီဆိုတာလဲ နားလည်စေချင်တယ်"

"ဟုတ်ကဲ့ ဝန်ကြီးချုပ်ရှင့်၊ ကျွန်မ သဘောပေါက်ပါတယ်"

ဗီရာက ပြန်ပြောလိုက်ပြီးနောက် ဝန်ကြီးချုပ် ကီရင်ချင်ကိုသည် ခေတ္တ စဉ်းစားနေပြန်သည်။

"သေသေချာချာ စဉ်းစားကြည့်လိုက်တော့ ဒီစီမံချက် အကောင်အထည် ဖော်ဖို့ ကျုပ်က ခွင့်ပြုချက် ပေးလိုက်တာဟာ မှန်ကန်ရဲ့လားလို့ တွေးစရာ ဖြစ်လာပြန်တယ်။ အန္တရာယ်က အလွန်များတယ်။ ခြေလှမ်းတချက် မှားသွားတာနဲ့ ကျုပ်တို့ဟာ နလန်မထူနိုင်အောင် ဆုံးရှုံးသွား မှာပဲ"

"ဝန်ကြီးချုပ်ရှင့် ကျွန်မကို စိတ်ချပါ၊ အမှားအယွင်း မရှိစေရပါဘူး၊ ခြေလှမ်းတချက်မှ မမှားစေရ ပါဘူးလို့ အာမခံပါတယ်။ ကျွန်မရဲ့တာဝန်ကို အောင်မြင်ပြီးစီးတဲ့အထိ ဆောင်ရွက်သွားပါမယ်"

"ကောင်းပြီလေ၊ ကြည့်ကြသေးတာပေါ့၊ ဒီအတောအတွင်းမှာတော့ ကံကောင်းပါစေလို့ပဲ ဆုတောင်း လိုက်ပါတယ်"

ဝန်ကြီးချုပ်က စကားကို အဆုံးသတ်ရင်း ထိုင်ရာမှ ထလိုက်သည်။

*

အမေရိကန်သမ္မတကတော် ဘီလီသည် အလွန်ပင်ပန်းနွမ်းနယ်နေ သော်လည်း ဆိုဗီယက်အစိုးရက တည်ခင်းဧည့်ခံသော ဂုဏ်ပြု ညစာစားပွဲကြီးက အထူးပင် ခမ်းနားကြီးကျယ်လှသည်ကို ငေးမောနေမိလေသည်။

ဂုဏ်ပြုညစာစားပွဲ ကျင်းပသည့်နေရာကား မော်စကိုမြို့ ကရင်မလင် နန်းတော်ကြီး၏ စိန်ဂျော့ ခန်းမဆောင်တွင် ဖြစ်လေသည်။ အလျား ပေ နှစ်ရာ၊ အနံ ပေ ခြောက်ဆယ်ရှိပြီး အလွန်ကျယ်ဝန်းသည့် ခန်းမဆောင်ကြီးပင်တည်း။

သက်ဆိုင်ရာက ဘီလီအား နေရာချထားပေးသော နေရာထိုင်ခုံမှာ

အလယ်ဗဟိုစားပွဲကြီးတွင် ရှိပြီး အမေရိကန်သံအမတ် ယန်ဒါလ်နှင့် စကားပြန်လုပ်သူ ရာဇင်တို့က သူမ၏ ဝဲယာနှစ်ဘက်တွင် ညှပ်ထိုင်ကြရသည်။ သူတို့သုံးဦး၏ ဝဲယာဘေးနှစ်ဘက်တွင်ကား ဘီလီ၏ ပြန်ကြားရေးမှူး နိုရာနှင့် သတင်းစာဆရာပါကာနှင့် အမေရိကန်သံတမန်ဌာန အရာရှိ ဖရက်ဝီလီတို့ ထိုင်ကြရလေသည်။

ခန်းမဆောင်ကြီးတွင် ဘယ်လ်ကိုနီ ခေါ် အပေါ်ထပ် အဆောင်တခုလည်းရှိရာ ထိုနေရာ၌ တူရိယာ တီးဝိုင်းတခုက တီးမှုတ်ဖျော်ဖြေလျက် ရှိလေသည်။

အဖြူရောင်ဝတ်စုံဖြင့် သပ်ရပ်စွာ ဝတ်စားထားသူ စားပွဲထိုးများက အထူးကျွမ်းကျင်စွာဖြင့် စားဖွယ် သောက်ဖွယ်များကို အဆက်မပြတ် တည်ခင်းပေးလျက် ရှိလေသည်။ အချိန်အတော်ကြာသွားပြီ ဖြစ်၍ ညဥ့်သန်းခေါင်ရှိလုပြီဟု ဘီလီက တွေးမိလေသည်။

ထိုအချိန်၌ နောက်ဆုံးစားစရာအဖြစ် အမဲသားဟင်းလျာတခွက် တည်ခင်းကျွေးပြီးပြီဖြစ်၍ နောက်ပိုင်း အချိုတပွဲလာပြီးလျှင် ညစာစားပွဲ ပြီးဆုံးတော့မည်ဟုလည်း သူမက သိနေလေသည်။

ဘီလီသည် အလားတူ ညစာစားပွဲကြီးများကို ပြင်သစ်၊ အီတလီ၊ မက္ကဆီကိုနိုင်ငံများနှင့် ဝါရှင်တန်မြို့ သမ္မတအိမ်တော်တွင် အကြိမ်ပေါင်း များစွာ တက်ရောက်ခဲ့ဖူးလေသည်။ သို့သော် ယခု မော်စကိုမြို့ ညစာစားပွဲလောက် မည်သည့်ပွဲကမှ အစားအသောက် များပြားခြင်း မရှိဟု သတိပြုမိလေသည်။ သားငါးဟင်းလျာ မျိုးစုံကို ချက်ပြုတ်နည်းမျိုးစုံဖြင့် ဖန်တီး တည်ခင်းလျက် ဗော့ဒ်ကာအရက်၊ ဝိုင်အရက် အမျိုးစုံကလည်း မသောက်နိုင်လောက်အောင် များပြားလှပေသည်။ အမေရိကန်ပြည်သို့ ပြန်ရောက်လျှင် ခင်ပွန်းဖြစ်သူ သမ္မတကြီးအား ဤမော်စကိုမြို့ ညစာစားပွဲကြီးအကြောင်း ပြောပြရဦးမည်ဟုလည်း ဆုံးဖြတ်လိုက်သည်။

ညစာစားပွဲသို့ မလာမီက ဘီလီသည် ဝါရှင်တန်မြို့ သမ္မတအိမ်တော်သို့ တယ်လီဖုန်း ဆက်ခဲ့သေးသည်။ သို့သော် သမ္မတကြီး၏အတွင်းရေးမှူး အမျိုးသမီး မစ္စစ်မာတင်ကသာ တယ်လီဖုန်းပြန်ဖြေပြီး သမ္မတကြီးသည် ဝန်ကြီးအဖွဲ့ (ကက်ဘိနက်) အစည်းအဝေး လုပ်နေကြောင်းနှင့် မည်သို့မှ လာမနှောင့်ယှက်ရဟု အမိန့်ပေးထားကြောင်း ပြန်ပြောရာ ဘီလီမှာ စိတ်ထဲ မကျေမနပ် ဖြစ်ခဲ့ရသည်။ သူမအနေဖြင့် ခင်ပွန်းဖြစ်သူ သမ္မတကြီးနှင့် အလွန်စကားပြောချင်လျက်နှင့် မပြောခဲ့ရချေ။

စောစောပိုင်းက ညစာစားပွဲတွင် မရှိသေးသူ ဝန်ကြီးချုပ်ကီရင်ချင်ကိုသည်

ယခုမှ ရောက်ရှိလာပြီး အရက်ဖန်ခွက်ကို ကိုင်မြှောက်ကာ ရုရှဘာသာဖြင့် ဆုမွန်တောင်းသည့် မိန့်ခွန်း ပြောနေလေသည်။

ထိုအချိန်တွင် စကားပြန်လုပ်သူ ရာဇင်က ဝန်ကြီးချုပ်၏ စကားကို အင်္ဂလိပ်လို ဘာသာပြန်၍ ဘီလီအား ခပ်တိုးတိုး ပြောပြနေလေသည်။ ဝန်ကြီးချုပ်က အမျိုးသမီးညီလာခံကြီး အောင်မြင်ခဲ့ခြင်းကို ချီးကျူးသည့်ပြင် မကြာမီ ကျင်းပခဲ့သော လန်ဒန်မြို့ ထိပ်သီးဆွေးနွေးပွဲကြီး လည်း အောင်မြင်ထမြောက်လျက် ကမ္ဘာ့ငြိမ်းချမ်းသာယာရေးကို ဖန်တီးနိုင်ပါစေဟုလည်း ဆုတောင်းနေခြင်း ဖြစ်ကြောင်း သိရလေသည်။

ဝန်ကြီးချုပ်က ယင်းသို့ အရက်ဖန်ခွက် ကိုင်မြှောက်၍ ဆုတောင်းနေသည်ကို ကျန်ဧည့်သည်အားလုံးကပါ မတ်တတ်ထ၍ အရက်ခွက်များ ကိုင်မြှောက်နေကြရာ ဘီလီသည်လည်း သူများနည်းတူ မတ်တတ်ထပြီး ဆုတောင်းရင်း အရက်ဖန်ခွက်ကို သောက်လိုက်လေသည်။

ထည့်ထားသော အရက်က ရှန်ပိန်အရက်ဖြစ်ပြီး ဖန်ခွက်တွင် အပြည့် ဖြစ်နေရာ ဘီလီသည် တဝက်မျှပင် သောက်နိုင်ပြီး အနီးရှိ စကားပြန် ရာဇင်အား...

"ကျွန်မတော့ ဒီအရက်ကုန်အောင် မသောက်နိုင်ဘူးရှင့်၊ ကျွန်မက ရှန်ပိန်အရက်ကို မကြိုက်ဘူး"

ဟု ခပ်တိုးတိုး ပြောလိုက်သည်။

သို့သော် ရာဇင်က ယဉ်ကျေးမှုထုံးစံကို ပြန်ရှင်းပြလေသည်။

"သမ္မတကတော်အနေနဲ့ ဖန်ခွက်ထဲက အရက်ကို ကုန်အောင် သောက်မှ ဖြစ်မယ်ခင်ဗျ၊ ဒါဟာ ယဉ်ကျေးမှုထုံးစံဖြစ်ပါတယ်။ ဒါမှ နည်းလမ်းကျပါတယ်။ အထူးသဖြင့် ခင်ဗျားက အထူး ဧည့်သည်တော်အဖြစ် အရက်ကို ကုန်အောင်သောက်ဖို့ လိုပါတယ်

ဘီလီသည် စိတ်ပျက်ပျက်နှင့် အမေရိကန် သံအမတ် ယန်ဒါလ်အား လှမ်းကြည့်ရာ သံအမတ်ကြီး ကလည်း ရာဇင်၏ စကားကို ထောက်ခံသည့်အနေဖြင့် ခေါင်းညိတ်ပြလိုက်သည်။

ထို့ကြောင့် ဘီလီသည် မတတ်သာဘဲ ကျန်အရက်ကို မော့သောက်လိုက်ရတော့သည်။

ညစာစားပွဲကြီးတော့ ပြီးသွားပေပြီဟု စိတ်ထဲမှ ပေါ့ပါးသလိုဖြစ်ကာ ပြန်ထိုင်လိုက်ချိန်မှာပင် အသံချဲ့စက်မှ ကြေငြာချက်တခု ကြားရပြန်လေသည်။

ဂုဏ်ပြု ညစာစားပွဲ၏ ဖျော်ဖြေရေး အစီအစဉ်အဖြစ် ရုရှအမျိုးသမီးများက ဘဲလေးခေါ် အကဖြင့် ကပြ ဖျော်ဖြေပြပါဦးမည်ဟု ကြေငြာချက်ပင် ဖြစ်လေသည်။

ဘီလီသည် စိတ်ပျက်ပျက်နှင့်ပင် ဆက်ထိုင်နေရပြန်ရာ ရုရှ အမျိုးသမီး ကချေသည်အဖွဲ့တစ်ဖွဲ့ ဘဲလေးကခေါ် အဆိုအပြောမပါဘဲ အကသက်သက်ဖြင့် ကပြ ဖျော်ဖြေသည့်နည်းဖြင့် ကပြနေကြ လေသည်။

ဘဲလေးအက ဖျော်ဖြေခန်း ပြီးဆုံးသွားသောအခါ ဖျော်ဖြေရေး အစီအစဉ် နောက်တခု လာပြန်သေး သည်။ ရုရှဘားကျွမ်းမယ်အဖွဲ့က ဘားကျွမ်းပညာ အစွမ်းပြ၍ ဖျော်ဖြေခန်း ဖြစ်လေသည်။

ထိုအချိန်၌ သမ္မတကတော် ဘီလီသည် အတော်ပင် မူးနေပြီဖြစ်သည်။ ခါတိုင်း သောက်နေကျ အရက်ပမာဏထက် ပို၍ သောက်ထားမိခြင်းကြောင့် မူးလာခြင်းပင်ဖြစ်သည်။

ဘားကျွမ်းမယ်များ အစွမ်းပြ လှုပ်ရှားခန်းများကို ကြည့်နေရင်း သူမ၏မျက်လုံးများ မကြည်လင် တော့ဘဲ ဝေလာပေသည်။ ဘားကျွမ်းမယ် ခြောက်ယောက်ကို ကြည့်ရင်း မျက်စိထဲတွင် ဆယ့်နှစ်ယောက် မြင်လာသည်။ ခေါင်းထဲမှလည်း အလွန် မူးနောက်လျက် ရှိနေပြီဖြစ်သည်။

ကြိုးစားပြီး ကြည့်နေရင်းနှင့် ဘီလီသည် ရုတ်တရက် သတိလစ်သလို ဖြစ်သွားသည်။ အမှန်တော့ မူးပြီး အိပ်ပျော်သလို ဖြစ်သွားခြင်းပင်တည်း။ ထို့နောက် အမေရိကန်သံအမတ်ကြီး ယန်ဒါလ်က သူမ၏ လက်မောင်းကို လှုပ်နှိုးနေသည်ကို သတိရလေသည်။

"ကိုင်း သမ္မတကတော်ခင်ဗျား၊ လာပါ ဟိုတယ်ပြန်ပြီး အိပ်ဖို့အချိန် ရောက်ပါပြီ"

ပြောရင်း သံအမတ်ကြီးက သူမ၏ လက်မောင်းကို ကိုင်၍ မတ်တတ်ထနိုင်အောင် ဆွဲထူလိုက်သည်။

"ကျွန်မ... ကျွန်မ အိပ်ချင်တယ်၊ အိပ်ရမှ ဖြစ်မယ်"

ဘီလီက အရက်မူးမူး အိပ်ချင်မူးတူးအသံဖြင့် ပြန်ပြောလိုက်ပါသည်။

ထိုအချိန်၌ အမေရိကန် လုံခြုံရေး စုံထောက်များနှင့် ရုရှ ကေ-ဂျီ-ဘီ ထောက်လှမ်းရေး အစောင့်များက သူမအား ဝိုင်းရံလျက် တံခါးပေါက် ရှိရာသို့ ကူညီခေါ်သွားကြလေသည်။

*

တည်းခိုရာ ဟိုတယ်သို့ မော်တော်ကားဖြင့် သွားရာတွင်လည်း ဘီလီသည် ကားပေါ်၌ တောက်လျှောက် အိပ်ပျော်နေရာ ဟိုတယ်သို့ရောက်မှ နှိုးယူရလေသည်။

ခတ်လှေကားဖြင့် ဟိုတယ်၏ တတိယထပ်သို့ တက်ရချိန်တွင်လည်း ဘီလီသည် မူးလျက်ပင် ရှိနေသေးသဖြင့် သတိ ရတချက် မရတချက် ဖြစ်နေလေသည်။

အမေရိကန် လုံခြုံရေး အစောင့်များအနက် ညတာဝန်ကျသော အော်လီဖင်နှင့် အပ်ချုပ်ချုံဆိုသူ စုံထောက်နှစ်ဦးသည် ဘီလီအား ဝဲယာ နှစ်ဘက်ညှပ်လျက် ခေါ်သွားကြလေသည်။

သူတို့နောက် မလှမ်းမကမ်းတွင်ကား ဘီလီ၏ ပြန်ကြားရေးမှူး နိုရာသည်လည်း ခပ်မူးမူး ဖြစ်နေရာ သတင်းစာဆရာ ပါကာက ကူညီတွဲခေါ်နေရလေသည်။

ဘီလီအဖို့ မိမိဟိုတယ်အခန်းသို့ သွားနေရသည်မှာ ကြာလွန်းပြီး ရောက်နိုင်ခဲလှသည်ဟု ထင်မိလေသည်။

သူမ၏ ဟိုတယ်အခန်း ပြင်ဘက်တွင်ကား ဘီလီ၏ ကိုယ်ရေးကိုယ်တာ ပြုလုပ်ပေးရသူ အဖော် ဆာရာအမည်ရှိ မိန်းကလေးသည် ထိုင်စောင့်နေလေသည်။

ဆာရာသည် ပျာပျာသလဲထ၍ အခန်းတံခါးကို ဖွင့်ပေးရင်း

"ကျွန်မ ကူညီပြီး အိပ်ရာထဲ အရောက် ပို့ပေးပါရစေ" ဟု ပြောရှာလေသည်။

သို့သော် ဘီလီက လက်မခံဘဲ

"ကိစ္စမရှိပါဘူးကွယ်၊ ငါ့ဟာငါပဲ အဝတ်အစားလဲပြီး အိပ်လိုက်ပါတော့မယ်"

ဟု ပြန်ပြောလိုက်သည်။

ထိုအခိုက် သတင်းစာဆရာပါကာသည် သမ္မတကတော်အတွက် စိုးရိမ်ဟန်ဖြင့် နိုရာအား လုံခြုံရေး စုံထောက်တဦးအား ခေတ္တ ကြည့်ခိုင်းပြီး ဘီလီ၏အနီးသို့ ချဉ်းကပ်လာလေသည်။

"ဘယ့်နှယ်လဲ ဘီလီ၊ နေသာထိုင်သာရှိရဲ့လား"

ပါကာ မေးလိုက်ရာ ဘီလီက

"အိုကေပါပဲရှင့်၊ ကျွန်မ နေသာထိုင်သာ ရှိပါတယ်" ဟု ပြန်ပြောလိုက်သည်။

"မနက်ဖြန်မနက် ခုနစ်နာရီမှာ လေယာဉ်နဲ့ ပြန်ထွက်ရမှာကိုလည်း မေ့နေပါဦးမယ်"

"မပူပါနဲ့ရှင့်၊ မမေ့ပါဘူး၊ ကျွန်မက အချိန်မီ နိုးအောင် နှိုးစက်နာရီနဲ့ထနိုးမှာပါ"

"ဒါဖြင့် အခုည ကောင်းကောင်းအနားယူလိုက်ပါ"

ဤသို့ပြောပြီး ပါကာသည် ပြန်ကြားရေးမှူး နိုရာရှိရာသို့ ပြန်သွားလေသည်။

အမေရိကန် လုံခြုံရေးစုံထောက် အော်လီဖင်သည် သမ္မတကတော်ဘီလီအား တွဲ၍ အခန်း၀ထိအောင် ပို့ပေးလိုက်လေသည်။

"အခန်းထဲရောက်အောင် လိုက်ပို့ပေးရမလားခင်ဗျ"

"မလိုပါဘူး၊ ကျွန်မဟာကျွန်မပဲ ၀င်နိုင်ပါတယ်"

ပြောပြောဆိုဆို ဘီလီသည် အခန်းတွင်းသို့ ၀င်သွားလေသည်။ လုံခြုံရေး စုံထောက် အော်လီဖင်က

"ဒါဖြင့် ကျုပ်က ဒီအခန်းပြင်ဘက်မှာ တညလုံး ရှိနေပါတယ်။ အလိုရှိရင် ခေါ်လိုက်ပါ"

ဟု ပြောလိုက်ပြီးနောက် ဘီလီသည် အခန်းတံခါးကို ပိတ်လိုက်သည်။

သူမသည် အရက်မူးလျက်ပင် ရှိနေသေးသဖြင့် ခုတင်ပေါ်သို့ ရောက်အောင် မနည်းကြိုးစား၍ သွားရလေသည်။

ထို့နောက် အ၀တ်အစားများကို ချွတ်၍ အိပ်ရာပေါ် ပစ်လှဲချလိုက်သည်။ သို့သော် အမူးက မပြေသေးသဖြင့် ပက်လက်လှန် လှဲအိပ်နေရင်းနှင့်ပင် အခန်းကြီးတခုလုံး ချာချာလည်နေသည်ဟု ထင်နေရလေသည်။

ခုတင်ဘေးရှိ စားပွဲငယ်ပေါ်မှ စားပွဲတင်နာရီကို ကြည့်လိုက်သောအခါတွင်လည်း ဒိုင်ခွက်ကို သဲကွဲစွာ မမြင်ရဘဲ ဆယ့်နှစ်နာရီ ထိုးပြီးနေကြောင်းကိုသာ ခန့်မှန်းသိရှိရလေသည်။

ဘီလီသည် ခုတင်ဘေးရှိ စားပွဲတင်မီးလုံးမှ ခလုတ်ကိုပိတ်ပြီး မျက်လုံးမှိတ်ကာ ကြိုးစား၍ အိပ်လိုက်လေသည်။

အရက် မူးခြင်းကြောင့် စိတ်မကြည်မလင် ဖြစ်နေသည့်ကြားမှပင် သူမသည်

ခင်ပွန်းသည် အမေရိကန် သမ္မတကြီး ဘရက်ဖို့ဒ်အား သတိရနေမိလေသည်။

အမေရိကန် သမ္မတအိမ်တော်သို့ တယ်လီဖုန်း ဆက်လိုက်ရလျှင် ကောင်းမည်လား၊ သို့သော် ထိုအချိန်၌ သူမသည် ခေါင်းမထောင်နိုင်လောက်အောင် မူးနေဆဲပင်ဖြစ်၍ တယ်လီဖုန်းဆက်ရန် အကြံကို လက်လျှော့လိုက်ရလေသည်။

ဘီလီသည် အိပ်ရာပေါ်တွင် မလှုပ်မယှက် ငြိမ်ငြိမ်ပင် နေကြည့်လေသည်။ ဦးခေါင်းထဲက မူးလျက်ပင် ရှိနေသေးသည်။

ဤတွင် သူမသည် မူးနေသည့်ကြားမှ တခု စဉ်းစားမိလေသည်။ တသက်တခါမှ ဤမျှ မမူးခဲ့ဖူးပါလျက် ယခု အလွန်မူးနေခြင်းမှာ ညစာ စားပွဲတွင် သောက်ခဲ့ရသော အရက်ခွက်ထဲတွင် ဆေးတခုခု ခပ်ထားလိုက်ခြင်းပေပဲလော။

သို့ဖြစ်လျှင် အမေရိကန်သံအမတ် သို့မဟုတ် အခန်းအပြင်ဘက်မှ လုံခြုံရေးစုံထောက်ကို လှမ်းခေါ်လိုက်ရလျှင် ကောင်းမည်လော။ ဤသို့ စဉ်းစားနေရင်းနှင့်ပင် ဘီလီ လုံးဝ မဟန်နိုင်တော့ဘဲ အိပ်ပျော်သွားလေသည်။

အချိန်ကား ၁၂ နာရီနှင့် ၁၄ မိနစ် ရှိနေပြီဖြစ်သည်။

*

ညသည် အလွန်မှောင်မိုက်လျက် ရှိလေသည်။ ခုတင်ဘေးရှိ စားပွဲပေါ်မှ နာရီ၏ လက်တံများက ၂ နာရီနှင့် ၁၀ မိနစ်ရှိကြောင်း ညွှန်ပြလျက်ရှိလေသည်။

သမ္မတကတော်ဘီလီသည် အိပ်ပျော်လျက်ပင် ရှိနေသည်။ သို့သော် ခဏမျှအကြာတွင် အခန်းတွင်း၌ တစုံတခုသည် လှုပ်ရှားလာသည်။

ခုတင်ခြေရင်းတွင် ခင်းထားသော လေးပေပတ်လည်ရှိ ကော်ဇောက လှုပ်ရှားလာခြင်း ဖြစ်သည်။ အကြောင်းမူကား ကော်ဇော် ခင်းထားသည့်နေရာမှ အခင်း၏ကြမ်းပြင် ကြွတက်လာသောကြောင့် ပင်တည်း။

ထိုနေရာတွင် ခင်းထားသော ကြမ်းပြင်မှ ပျဉ်ပြားလေးချပ်ကို အောက်မှ တစုံတယောက်က တွန်းတင်လိုက်သလို ကြွတက်လာရာ ကော်ဇောဘေးသို့ ရောက်သွားပြီး ကြမ်းပြင်တွင် ပျဉ်ပြား လေးချပ်စာ အပေါက်ကြီး ဖြစ်လာလေသည်။

လုပ်ကိုင်သူများက အလွန်ပိရိ သေသပ်လှသဖြင့် မည်သည့်အသံမှ မကြားရဘဲ တိတ်ဆိတ် ငြိမ်သက်လျက် ရှိနေစဉ် ကြမ်းပြင်၏ အပေါက်ထဲမှ တကိုယ်လုံး အနက်ရောင်ဝတ်စုံ ဝတ်ထားသူ လူတယောက်သည် အခန်းတွင်းသို့ ဝင်လာလေသည်။ မရှေးမနှောင်းမှာပင် အလားတူ ဝတ်စုံနက်နှင့် ဗလကောင်းကောင်း လူတယောက် တက်လာပြန်သည်။

ထိုလူနှစ်ဦးသည် ခုတင်ရှိရာသို့ ခြေဖျားထောက်၍ ချဉ်းကပ်လာပြီး အိပ်ပျော်နေသူ သမ္မတကတော် ဘီလီအား ငုံ့ကြည့်လိုက်ကြသည်။ ထို့နောက် သူတို့သည် တယောက်မျက်နှာ တယောက်ကြည့်ပြီး ခေါင်းညိတ်လိုက်ကြသည်။ တချိန်တည်းမှာပင် သူတို့သည် ကြိုတင်လေ့ကျင့် ထားဘိသကဲ့သို့ အင်္ကျီအိတ်ထဲသို့ အသီးသီး လက်နှိုက်ကာ တယောက်က လက်ကိုင်ပဝါတထည် ထုတ်ယူပြီးနောက် တဦးက ဆရာဝန်များသုံးသည့် ဆေးထိုးအပ်တခု ထုတ်ယူလိုက်သည်။ တယောက်က ကျန်တယောက်ကို ခေါင်းညိတ်၍ အချက်ပြလိုက်ချိန်တွင် တယောက်က ဘီလီ၏ပါးစပ်ကို လက်ကိုင်ပဝါဖြင့် ပိတ်ဆို့ထားလိုက်စဉ် ကျန်တဦးက ဘီလီ၏လက်မောင်းတွင် ဆေးထိုးအပ်ဖြင့် ထိုးလိုက်သည်။

အသားထဲသို့ ဆေးထိုးအပ်ဝင်သွားချိန်တွင် နာကျင်သဖြင့် ဘီလီသည် ရုတ်တရက် လန့်နိုးကာ မျက်လုံးဖွင့်ကြည့်လိုက်သည်။ သို့သော် ထိုးလိုက်သည့်ဆေးက အာနိသင် အစွမ်းထက်လှသဖြင့် ချက်ချင်းပြန်၍ သတိမေ့ကာ မျက်လုံးပိတ်သွားလေသည်။

သူမ၏ကိုယ်ပေါ်တွင် လွှမ်းခြုံထားသော စောင်ကို ဖယ်ရှားပစ်လိုက်ကြပြီးနောက် ဝတ်စုံနက်နှင့် လူနှစ်ယောက်သည် ဘီလီ၏ကိုယ်ကို နှစ်ယောက်သား ညင်သာစွာ ပွေ့ချီလိုက်ကြသည်။ ထို့နောက် ခြေသံမကြားအောင် ခြေဖျားထောက်လျက်ပင် ဘီလီအား ကော်ဇောရှိသည့်နေရာမှ ကြမ်းပြင် အပေါက်ဆီသို့ သယ်သွားကြလေသည်။

သူတို့သည် ဘီလီအား အပေါက်ထဲသို့ အထူးသတိထားလျက် ဖြည်းညင်းစွာ ချပေးလိုက်ရာ အောက်မှ အသင့်စောင့်နေသူများကလည်း သမ္မတကတော် ဘီလီအား ညင်သာစွာပင် လက်ခံ၍ ပွေ့ယူလိုက်ကြသည်။

အခန်းတွင်းရှိလူနှစ်ယောက်သည် ခေတ္တစောင့်နေပြီးနောက် တယောက်ပြီးတယောက် ကြမ်းပြင် အပေါက်ထဲသို့ ပြန်ဆင်းကာ ပျောက်ကွယ်သွားကြလေသည်။

ထိုအချိန်၌ အခန်းတခန်းလုံးတွင် မည်သူမှ မရှိတော့ချေ။ သို့သော် ယင်းသို့ လူမရှိခြင်းမှာ တစ်မိနစ်ခန့်သာ ဖြစ်လေသည်။ ကြမ်းပြင်အပေါက်ထဲမှ လူတယောက် ခေါင်းပြူလာပြီး ပေါ့ပါး ဖျတ်လတ်စွာ အခန်းထဲသို့ တက်လာလေသည်။

ထိုလူကား ယောကျ်ားမဟုတ်။ အမျိုးသမီးတဦးဖြစ်သည်။ အခန်းတွင်း၌ မှောင်နေခြင်းကို မျက်လုံး ကျင့်သားရအောင် ခေတ္တ ရပ်နေပြီးနောက် သူမသည် ကြမ်းပြင်အပေါက်နေရာတွင် ပျဉ်ပြား လေးချပ်ကို နေရာတကျ ပြန်၍ခင်းလိုက်သည်။ လုံးဝ အသံမကြားအောင်လည်း အထူးသတိထား၍

ပြုလုပ်ပြီးနောက် ကြမ်းပြင်က မူလအတိုင်း ပြန်ဖြစ်သွားသောအခါ သူမသည် ကော်ဇောကို ယူပြီး နဂိုပုံစံအတိုင်း ပြန်ခင်းထားလိုက်သည်။

သူမသည် အခန်း၏အခြေအနေကို လှည့်ပတ် ကြည့်လိုက်ပြီးနောက် မူလအခြေအနေအတိုင်း ခြေရာလက်ရာမပျက် ရှိကြောင်း တွေ့ရတော့မှ ကျေနပ်သွားပုံရလေသည်။

တဖန် သူမသည် အခန်းတံခါးနားဆီသို့သွား၍ အပြင်ဘက်မှ မသင်္ကာဖွယ်အသံများ ကြားရလေမည် လားဟု နားစွင့်ထောင်လိုက်သည်။

သို့သော် ဘာသံမှ မကြားရချေ။

အခန်းပြင်ဘက်တွင် ညလုံးပေါက် တာဝန်ကျနေသူ အမေရိကန် လုံခြုံရေးစုံထောက် အနေဖြင့် မသင်္ကာဖွယ်ရာ ဘာမှ မရှိသဖြင့် အေးအေးဆေးဆေး ထိုင်နေဟန်တူလေသည်။

သူမသည် သူ့ကိုယ်သူ ကျေနပ်ဟန်ဖြင့် ပြုံးလိုက်ပြီးနောက် ခုတင်ရှိရာသို့ ပြန်လျှောက်လာလေ သည်။

ထို့နောက် ပူနွေးလျက်ရှိနေသေးသော အိပ်ရာပေါ်သို့ တက်၍ လှဲအိပ်ချလိုက်သည်။ ခုတင်ဘေးရှိ စားပွဲတင်နာရီကို ကြည့်လိုက်ရာ အချိန်မှာ ၂ နာရီနှင့် ၂၆ မိနစ်ရှိကြောင်း တွေ့ရသည်။

သူမသည် ခုတင်ဘေးရှိစားပွဲကို လက်ဖြင့် အသာစမ်းလိုက်ရာ ရေဖန်ခွက်နှင့်အတူ အိပ်ဆေးပြား တပြား တွေ့ရလေသည်။ စောစောက သမ္မတကတော်ဘီလီသည် အမူးလွန်နေ၍ အိပ်ဆေးပြား မသောက်နိုင်ခြင်း ဖြစ်ဟန်တူသည်။ ယခု သူမကလည်း မသောက်သင့်ဟု ဆုံးဖြတ်လိုက်ပြီးနောက် အိပ်ရန် ကြိုးစားလေသည်။ သို့ရာတွင် သူမသည် စိတ်လှုပ်ရှားနေသဖြင့် အိပ်မပျော်ဘဲ မျက်လုံး ကြောင်နေသည်။ သူမသည်ကား အခြားမဟုတ်။ ဆိုဗီယက်ပြဇာတ်မင်းသမီး ဗီရာပင်တည်း။

သူမသည် ယခုကဲ့သို့ သမ္မတကတော်ဘီလီနေရာတွင် လူစားထိုး ဝင်ပြီး သရုပ်ဆောင်ရမည့် အကြောင်း အသေးစိတ်ကို ယမန်နေ့ကမှ သိခဲ့ရလေသည်။

ကေ-ဂျီ-ဘီ ထောက်လှမ်းရေးရုံးချုပ်သို့ သူမအား ခေါ်ပြီး အသေးစိတ် အစီအစဉ်များ ပြောပြလိုက်ချိန်တွင် ဗီရာသည် အလွန်ကျေနပ် ဝမ်းမြောက်မိခဲ့လေသည်။ ကမ္ဘာပေါ်တွင် မည်သည့် သရုပ်ဆောင်မင်းသမီးမှ မလုပ်ဖူးသေးသည့် အခန်းမှ သူမက သရုပ်ဆောင်ရတော့မည်ဟု ကျေနပ်မိခြင်း ဖြစ်ပေသည်။

တချိန်တည်းမှာပင် သူမသည် ချစ်သူရာဇင်နှင့် အားပါးတရ ချစ်တင်းနှီးနှောခဲ့ရပုံကိုလည်း သတိရနေလေသည်။

ယခု သူမသည် သရုပ်ဆောင်ရန် တာဝန်ထမ်းဆောင်ခြင်း အောင်မြင်ပြီးဆုံးသွားလျှင်ကား သူမသည် ဆိုဗီယက်ယူနီယံ၏ ထိပ်သီးအာဇာနည် အမျိုးသမီးတဦး ဖြစ်လာပေတော့မည်။ ဤအသိကလည်း သူမအား တမျိုး အားတက်စေလေသည်။

အရေးကြီးသည်ကား မနက်ဖြန်မှစ၍ သူမသည် အထူးသတိထားရန်ပင်ဖြစ်သည်။ ခြေလှမ်းတချက်မှ မမှားရလေအောင် သတိထားရပေမည်။

ဤသို့လျှင် ရောက်တတ်ရာရာ တွေးတောရင်း သူမသည် အိပ်ချင်သလို ဖြစ်ကာ သမ်းလိုက်သည်။

ဟုတ်ပါသည်။ သူမသည် အိပ်ပျော်အောင် အိပ်လိုက်မှ ဖြစ်ချေမည်။ သို့မှသာလျှင် နံနက်ငါးနာရီ ထနိုင်မည်ဖြစ်၏။ နံနက် ငါးနာရီထရန် အရေးကြီးသည်။

အိပ်ပျော်ခါနီးတွင် ဗီရာသည် ယခုတကြိမ်တွင် ယခင်ကလို ရိုးရိုး ပြဇာတ်ခုံပေါ်၌ ကပြရခြင်း မဟုတ်ပါ။ တကယ့် နိုင်ငံရေး ဇာတ်ခုံကြီးပေါ်တွင် လက်တွေ့ သရုပ်ဆောင်ပြီး ကပြရတော့မှာ ပါလားဟု စဉ်းစားမိလေသည်။

ဤတွင် သူ့ကိုယ်သူ ပြန်လည် ဆင်ခြင်သုံးသပ်လျက်။

"ငါဟာ အခုချိန်ကစပြီး ပြဇာတ်မင်းသမီး ဗီရာ မဟုတ်တော့ဘူး၊ ငါဟာ အမေရိကန်သမ္မတကတော် ဘီလီ ဖြစ်လာပြီ၊ ဗီရာဟူသော ငါ၏ဘဝဟောင်းကို မေ့ပစ်လိုက်ရမယ်။ အမေရိကန်နိုင်ငံရဲ့ သမ္မတကတော် ဖတ်စ်လေဒီဟာ ငါပါပဲ"

ဟု သူ့ကိုယ်သူ သတိပေးလိုက်မိလေသည်။

*

## အခန်း (၄)

သမ္မတကတော် ဘီလီသည် အိပ်ရာမှ နိုးလာသောအခါ ခေါင်းကိုက်လျက် ရှိနေလေသည်။ ဦးနှောက်က နိုးနေပြီဖြစ်သော်လည်း မျက်လုံးများကိုတော့ ဖွင့်၍မရသေးဘဲ ဖြစ်နေသည်။ အာခေါင်ထဲမှာလည်း ခြောက်သွေ့ကာ ရေငတ်သလို ဖြစ်နေသည်။ ယမန်နေ့ညက အဖြစ်ကို ပြန်လည် စဉ်းစားမိသောအခါ ထင်ရှားကြည်လင်စွာ စဉ်းစား၍မရ။ ခပ်ရေးရေး ယောင်ဝါးဝါးသာ သတိရမိသည်။

ဂုဏ်ပြု ညစာစားပွဲကြီးသို့ တက်ရောက်ရခြင်း၊ အလွန်ပင်ပန်းခြင်း၊ အရက်မူးခဲ့ခြင်း တို့လောက်သာ မှတ်မိလေသည်။ အရက်တွေ များများသောက်မိ၍ အမူးလွန်ခြင်းသည် ယခုအထိ ခေါင်းကိုက် နေခြင်းပင် ဖြစ်ရပေမည်။

အတန်ကြာကြာ မျက်စိမှိတ်နေလိုက်၍ ငြိမ်နေလိုက်ပြီးနောက် သူမ၏ ဦးနှောက် အနည်းငယ် ကြည်လင်သလို ဖြစ်လာလေသည်။ ထိုအခါ မိမိသည် နံနက် ငါးနာရီတွင် မော်စကိုမြို့မှ ပြန်ထွက်ခွာရန် အိပ်ရာမှ ထမှ ဖြစ်မည်ဟုလည်း သတိရမိလာသည်။

ဘီလီသည် မျက်လုံးဖွင့်၍ ကုတင်ဘေးရှိ စားပွဲတင်နာရီကို ကြည့်လိုက်ရာ လေးနာရီရှိကြောင်း သိရသဖြင့် တော်ပါသေးရဲ့ အချိန်မီ နိုးလာသည်ဟု တွေးမိလေသည်။ ငါးနာရီဆိုလျှင် နာရီနှိုးစက် အသံမြည်မည်ဖြစ်ရာ နောက်ထပ် တစ်နာရီလောက် အိပ်နိုင်သေးသည်ဟုလည်း စဉ်းစားမိပြန်သည်။

ပြန်အိပ်လိုက်ဦးမည်ဟု မျက်လုံးကို မှိတ်လိုက်ရာမှ ဘီလီသည် တစုံတခုကို တွေးမိလေသည်။ ခုတင်ဘေးရှိ စားပွဲတင်နာရီသည် ပုံစံတမျိုး ဖြစ်နေသည်။ မူလက အမြဲသုံးနေသည့် နာရီပုံစံ မဟုတ်ဘဲ ခပ်ကြီးကြီး ဖြစ်နေလေသည်။

သူမ၏ အိမ်ဖော် မိန်းကလေး ဘာရာက နာရီချင်းပဲ လဲထားလိုက်ခြင်းများ ဖြစ်လေသလား။

တဖန် မျက်လုံးကို ဖွင့်၍ အိပ်ခန်းပတ်ဝန်းကျင်ကို ကြည့်လိုက်သည်။

ဤတွင် ဘီလီသည် မျက်လုံးပြူးလောက်အောင် တုန်လှုပ်သွားမိလေသည်။

ဤအိပ်ခန်းသည် သူမ၏ ဟိုတယ်အခန်းမဟုတ်၊ မွမ်းမံပြင်ဆင်ထားခြင်းကအစ ဟိုတယ်ခန်းနှင့် မတူသော အခြားအခန်းတခန်း ဖြစ်နေသည်။

ဘီလီသည် လုံးဝ နားမလည်နိုင်သဖြင့် အိပ်ရာပေါ် ထထိုင်လိုက်မိသည်။

ခုတင်ဘေးရှိ ခုံတခုပေါ်တွင် ဖြန့်တင်ထားသည့် အဝတ်အစားများကတော့ သူမ၏ အဝတ်အစားများ အမှန် ဖြစ်နေသည်။ သို့သော် အခန်းက သူမ လုံးဝမသိသော အခန်းဖြစ်နေသည်။

ဘာတွေများ ဖြစ်ကုန်လေသနည်း။

ယမန်နေ့ညက မိမိသည် အရက်မူးလွန်နေသဖြင့် ပြန်ကြားရေးမှူး နိုရာ၏ အိပ်ခန်းထဲ၌ မိမိအား သိပ်ထားခဲ့ခြင်း ဖြစ်လေသလော။

ဤသို့လည်း ဖြစ်နိုင်မည်မဟုတ်ဟု ထင်မိပြန်သည်။ ထိုအခိုက် သူမသည် စကားပြောသံလိုလို ကြားလိုက်မိလေသည်။ တဘက်ခန်းမှ ယောကျ်ားနှစ်ယောက် စကားပြောသံနှင့် တူသည်။ အမေရိကန် လုံခြုံရေး စုံထောက်နှစ်ဦး စကားပြောနေခြင်း ဖြစ်နိုင်သည်ဟုလည်း တွေးမိလေသည်။ အော်လီဖင်နှင့် အပ်ချုတ် အမည်ရှိ လုံခြုံရေး စုံထောက်နှစ်ဦးကို သူမက ကောင်းစွာ မှတ်မိနေလေသည်။ အကျိုးအကြောင်းသိရအောင် မေးကြည့်ဦးမည်ဟု စိတ်ကူးလျက် ဘီလီသည် ခုတင်ပေါ်မှ ဆင်းလိုက်သည်။

ညဝတ်အင်္ကျီ၏အိတ်ထဲ၌ သူမသည် ဘီးအပိုတချောင်း ထည့်ထားလေ့ရှိရာ ယခုလက်ဖြင့် နှိုက်ကြည့်သောအခါ ဘီးကိုတွေ့ရသဖြင့် ယူပြီး ဆံပင်ကို ဖြီးလိုက်သည်။

ထို့နောက် အခန်းတွင်းရှိ မှန်တင်ခုံဆီသို့ လျှောက်သွားပြီး မှန်ကြည့်လိုက်သည်။ မှန်ထဲမှ သူမ၏ ရုပ်သွင်ကတော့ သိပ်ပြီး မဆိုးလှချေ။

ဘီလီသည် အိပ်ခန်းတမျိုးဖြစ်နေသည်ကို နားမလည်နိုင်တော့သဖြင့် အိပ်ခန်းနှင့် ဆက်လျက်ရှိသော ဧည့်ခန်းသို့ ထွက်သွားလိုက်လေသည်။

ထိုအချိန်၌ ကပ်လျက်အခန်းမှ စကားပြောသံများကို ဆက်လက်ပြီး ကြားနေရလေသည်။

သူမသည် ဧည့်ခန်းသို့ရောက်၍ ကြည့်လိုက်သောအခါ ပို၍ပင် အံ့သြသွားမိပြန်သည်။ ဤအခန်းသည် သူမ၏ ဟိုတယ်မှ ဧည့်ခန်းမဟုတ်ဘဲ တမျိုးဖြစ်နေသောကြောင့်ပင် ဖြစ်သည်။

ထိုခဏ၌ သူမ နောက်နားဆီမှ စကားပြောသံများ ကြားရပြန်သဖြင့် လှည့်ကြည့်လိုက်သောအခါ အကြီးအကျယ် အံ့သြတုန်လှုပ်သွားမိလေတော့သည်။

လူနှစ်ယောက်ကို တွေ့မြင်ရသော်လည်း နှစ်ယောက်စလုံးက မိမိတို့

အမေရိကန် လုံခြုံရေး စုံထောက်များ မဟုတ်ကြချေ။

ရုရှလူမျိုးများဖြစ်ပြီး တဦးကို မြင်ဖူးသလိုရှိသော်လည်း ကျန်တဦးက လူစိမ်းဖြစ်နေလေ သည်။ သူတို့တွေ ဤအခန်းသို့ ဘာကိစ္စ လာရောက်နေကြလေသနည်း။

ဘီလီသည် စဉ်းစားရခက်နေရာမှ မြင်ဖူးသလိုရှိသော ရုရှလူမျိုးကို မှတ်မိလေသည်။ သူမနှင့်အတူ သုံးရက်လုံးလုံး လိုက်၍ စကားပြန်အဖြစ် ဆောင်ရွက်ခဲ့သူ ရာဇင်အမည်ရှိ ရုရှလူမျိုး ဖြစ်နေလေသည်။

နောက် ခပ်ဝဝ လူတယောက်ကိုတော့ သူမက လုံးဝ မသိချေ။ ထိုလူဝဝကပင် စတင်၍ စကားပြောလေသည်။

"နိုးလာပြီလား ခင်ဗျ၊ ကျွန်တော်တို့က ခင်ဗျား အိပ်ရာနိုးလာတာကို စောင့်နေကြပါတယ်"

ဘီလီသည် ထိုလူကို ဂရုမစိုက်ဘဲ ရာဇင်ဘက်သို့လှည့်၍ စကားပြောလေသည်။

"ဘာတွေ ဖြစ်ကုန်တာလဲရှင့်၊ ကျွန်မဖြင့် နားမလည်နိုင်အောင် ဖြစ်နေတယ်"

ရာဇင်သည် အားနာသလိုဟန်မျိုးဖြင့် ရှေ့သို့တိုးလာပြီး

"ကျွန်တော် ကြိုးစားပြီး ရှင်းပြပါ့မယ်"

ဟု ပြောလေသည်။

ဤတွင် ခပ်ဝဝလူက ရာဇင်အား ဆိတ်ဆိတ်နေရန် လက်ဖြင့် ဟန့်တားလိုက်ပြီးနောက်

"ဒီမေးခွန်းကို ကျုပ်က ဖြေပါမယ်၊ ကဲ ရာဇင် သူ့အတွက် ကော်ဖီသွားယူပေးစမ်းပါ"

ဟု ခပ်တည်တည် ပြောလိုက်သည်။

ရာဇင်လည်း ဘာမှ ပြန်မပြောဘဲ ကျိုးနွံစွာဖြင့် ထွက်သွားလေသည်။

သည်တော့မှ ထိုလူက ဘီလီအား

"ခဏထိုင်ပါဦး"

ဟု ဆိုဖာထိုင်ခုံတခု ညွှန်ပြရင်း

ဘီလီသည် စိတ်ထဲမှ မခံချင် ဖြစ်မိသော်လည်း ထိုင်ချလိုက်သည်။

လူဝဝဂကတော့ မတ်တတ်ရပ်လျက်ပင် စကားပြောလေသည်။

"ခင်ဗျားကတော့ ရုတ်တရက် နားမလည်နိုင်အောင် ဖြစ်နေမှာပဲ၊ ကျုပ်ကိုယ်ကျုပ် မိတ်ဆက် ပေးပါရစေ၊ ကျုပ်ဟာ ဗိုလ်ချုပ်ကြီး ပီထရော့ဗ် ဖြစ်ပါတယ်၊ ကျုပ်အကြောင်း ကြားဖူးသလား"

"မကြားဖူးပါဘူး"

ဘီလီက ခပ်တည်တည် ပြန်ပြောလိုက်သည်။

ဤတွင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် အင်္ကျီအိတ်ထဲမှ သူ မည်သူ မည်ဝါ ဖြစ်ကြောင်း ဖော်ပြထားသည့် စိစစ်ရေးကတ်ပြားကို ထုတ်ယူ၍ ပြလေသည်။

"ကျုပ်က ကေ-ဂျီ-ဘီ အဖွဲ့ကပါ"

သို့သော် ဘီလီသည် ဘာမှ နားမလည်ဟန်ဖြင့် ငေး၍ကြည့်နေလေသည်။

"ကျုပ်က ကေ-ဂျီ-ဘီ ထောက်လှမ်းရေးအဖွဲ့ရဲ့ အကြီးအကဲ (ဥက္ကဋ္ဌ) ဖြစ်တယ်၊ အခု ခင်ဗျားရဲ့ မေးခွန်းကို ကျုပ်ဖြေပါမယ်၊ ခင်ဗျား ဘယ်ရောက်နေသလဲလို့ သိချင်တယ် မဟုတ်လား၊ အခုခင်ဗျားဟာ ကရင်မလင် နန်းတော်ရဲ့ ဧည့်သည်အခန်းတခန်းမှာ ရောက်နေတယ်၊ ဘယ်လို လုပ်ပြီး ရောက်လာသလဲဆိုတော့ မနေ့ညက ခင်ဗျားကို ဟိုတယ်အခန်းကနေပြီး ဒီကို ပြောင်းရွှေ့ ခေါ်ယူလိုက်တယ်"

"ဟင် ရှင် ဘာပြောတယ်"

ဘီလီက အလွန်အံ့သြစွာဖြင့် ပြန်မေးလိုက်သည်။

"ခင်ဗျားကို ဟိုတယ်ကနေပြီး ဒီကို ပြောင်းရွှေ့ ယူလိုက်တယ်၊ ဒါဟာလဲ လိုအပ်လို့ လုပ်ရတာပဲ"

"နေပါဦးရှင်၊ အခု ပြောနေတာက ကျွန်မကို ရှင်တို့က ပြန်ပေးဆွဲ ထားလိုက်ပြီလို့ ပြောနေတာလား"

ဘီလီက ဒေါသသံနှင့် မေးလိုက်ရာ ဗိုလ်ချုပ်ကြီးပီထရော့သည် စိတ်ရှည်ဟန်နှင့်

"အဲဒီလိုခေါ်ချင်လဲ ခေါ်နိုင်ပါတယ်"

ဟု ခပ်အေးအေး ပြန်ပြောလိုက်သည်။

သမ္မတကတော်ဘီလီသည် မယုံကြည်နိုင်လောက်အောင် အံ့အားသင့်တုန်လှုပ်သွားမိလေ သည်။

"ဟင် ရှင်တို့က ကျွန်မကို အိပ်ပျော်နေတုန်း ဖမ်းပြီး ပြန်ပေးဆွဲလိုက်တာပေါ့လေ ဟုတ်လား၊ ဒါ ဘယ်လိုလုပ် ဖြစ်နိုင်ပါ့မလဲ၊ တနည်းပဲရှိတယ်၊ ကျွန်မကို ဆေးခပ်ခဲ့တာပဲ ဖြစ်ရမယ်"

"ဒါတော့ ဟုတ်ပါတယ်၊ ဂုဏ်ပြု ညစာ စားပွဲတုန်းက ခင်ဗျားသောက်တဲ့ ရှန်ပိန်အရက်ထဲမှာ ဆေးခပ်ထည့်ထားတယ်"

ပီထရော့ဗ်က ခပ်တည်တည်ပင် ပြောလိုက်ပြန်သည်။

"ရှင်တို့ ရူးနေပြီထင်တယ်။ ဒီလိုလုပ်တာဟာ ရူးလို့ဖြစ်မယ်၊ ဒီအကြောင်းကို ကျွန်မယောကျ်ား ကြားသွားရင်"

"ခင်ဗျားယောကျ်ားက ဒီအကြောင်းကို မကြားပါဘူး၊ ဒါကို ကျုပ်အာမခံပါတယ်"

ပီထရော့ဗ်က ပြုံး၍ ပြောလိုက်ရာ ဘီလီမှာ ဘာပြန်ပြောရမှန်း မသိအောင် ဖြစ်သွားလေသည်။

ထိုအခိုက် ရာဇင်သည် ပြန်ရောက်လာပြီး ဘီလီအတွက် ကော်ဖီ၊ ပေါင်မုန့်နှင့် ယို စသော စားသောက်ဖွယ်များကို လင်ဗန်းတခုနှင့် ထည့်၍ လာချပေးလေသည်။ ရာဇင်သည် ဘီလီနှင့် မျက်နှာချင်းမဆိုင်ဘဲ တဘက်သို့ မျက်နှာလွှဲနေလေသည်။

သို့သော် ဘီလီက ရာဇင်အား လှမ်း၍ စကားပြောလေသည်။

"မစ္စတာရာဇင်ရှင့်၊ အခု ကျွန်မကို ပြောနေတာတွေဟာ မဟုတ်ဘူးလို့ ပြောစမ်းပါရှင်"

ရာဇင်သည် ဘာမှ ပြန်မပြောဘဲ ဘီလီကိုလည်း မကြည့်ဘဲ ဗိုလ်ချုပ်ကြီး ပီထရော့ဗ် အနီးတွင် သွားနေလိုက်သည်။

ဘီလီသည် ပီထရော့ဗ်အား လှမ်းကြည့်လိုက်သည်။

"ကျွန်မ အိပ်မက် မက်နေတာ ဖြစ်ရမယ်၊ ဟုတ်တယ်မဟုတ်လား"

"ဟင် ခင်ဗျား အိပ်မက် မက်နေတာ မဟုတ်ဘူး၊ အခုဟာက တကယ့် ဖြစ်ရပ်ပါပဲ"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ခပ်တည်တည် ပြောလိုက်ရာ ဘီလီမှာ အလွန်တုန်လှုပ် ချောက်ချား သွားပါလေသည်။

"ဒါဖြင့် ကျွန်မကပဲ ရူးနေပြီထင်ပါရဲ့၊ အခုဟာက အဓိပ္ပာယ်မရှိဘူး။"

"အမေရိကန်သမ္မတကတော် (ဖတ်စ်လေဒီ) ကို ပြန်ပေးဆွဲတယ်ဆိုတာ ရူးလို့ လုပ်တာ ဖြစ်ရမယ်။ အဲဒီလိုလုပ်တဲ့အတွက် ဘာတွေဖြစ်လာမယ်ဆိုတာ ရှင်တို့သိရဲ့လား။ အခု ရှင်တို့ဟာ ဘာသိချင်လို့လဲ၊ ငွေတောင်းချင် လို့လား။ ခြိမ်းခြောက် အကျပ်ကိုင်ချင်လို့လား၊ ရှင်တို့လိုချင်တာသာ ပြောစမ်းပါ။ ကျွန်မက လေယာဉ်ပျံနဲ့ ခရီးသွားစရာရှိတယ်။ မနက်ရှစ်နာရီ အချိန်မှာ ထွက်ခွာဖို့ရှိတယ်"

"ဒီမယ် အခု မနက်ရှစ်နာရီ ကျော်သွားပြီဗျ၊ အခုအချိန်က ညနေ လေးနာရီ ရှိနေပြီ။ ခင်ဗျားရဲ့ လေယာဉ် ထွက်ခွာသွားတာလဲ ကြာပြီ"

"ဒါတော့ မဖြစ်နိုင်ဘူး၊ ကျွန်မရဲ့လေယာဉ်ဟာ ကျွန်မကိုယ်တိုင်မပါဘဲ ဘယ်နည်းနဲ့မှ ထွက်မှာ မဟုတ်ဘူး"

"ခင်ဗျားပြောတာ တခုတော့ မှန်တယ်၊ အမေရိကန်လေတပ် အထူးလေယာဉ်ဟာ သမ္မတကတော် မပါဘဲ ထွက်ခွာမှာ မဟုတ်ဘူး၊ ဒါပေမဲ့ အခု လေယာဉ်ဟာ ထွက်ခွာသွားပါပြီ။ အမေရိကန် သမ္မတကတော်လည်း လေယာဉ်ပေါ် ပါသွားတယ်"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်ကပင် ဆက်ပြောလေသည်။

"ခင်ဗျား အံ့သြပြီး သဘောမပေါက် ဖြစ်နေပုံရတယ်၊ ကျုပ်က ခပ်ဘွင်းဘွင်းပဲ ပြောပါရစေ။ ကျုပ်မှာလဲ အလုပ်တွေ ရှိသေးတယ်။ ဒါကြောင့် ပြောပြပြီးရင် ကျုပ်ထွက်ခွာသွားပါမယ်၊ ကျုပ်ပြောပြီးတော့ ခင်ဗျားက မေးခွန်းတွေကို ထပ်မေးချင်ရင် မစ္စတာရာဇင်ကိုသာ မေးပါ။ သူက ဖြေပါလိမ့်မယ်။ အကြောင်းက ဒီလိုပါ၊ ခင်ဗျားရဲ့ခင်ပွန်း အမေရိကန်သမ္မတကြီးနဲ့ ကျုပ်တို့ ဝန်ကြီးချုပ်ဟာ ရေ့အပတ်အတွင်း လန်ဒန်မြို့ ထိပ်သီး ဆွေးနွေးပွဲတခု လုပ်ဖို့ရှိတယ်။ ဒီအစည်းအဝေးဟာ ကမ္ဘာ့ငြိမ်းချမ်းရေးအတွက် အလွန်အရေးကြီးတယ်။ ဒီတော့ ကျုပ်တို့က ခင်ဗျား ယောက်ျားရဲ့စိတ်ကူးအကြံအစည် သဘောထားတွေ၊ ကျုပ်တို့ကို ဘယ်လို ဆက်ဆံ ဆွေးနွေးမယ် ဆိုတာကို ကျုပ်တို့က သိချင်တယ်။ ဒါကို သိရဖို့အတွက် အမေရိကန်သမ္မတအိမ်တော်မှာ ကျုပ်တို့ရဲ့ လူယုံ (သူလျှို) တဦး သွားထားဖို့

စီစဉ်ခဲ့ပါတယ်။ အဲဒီသူလျှိုဟာလည်း ခင်ဗျားယောက်ျားနဲ့ နီးနီးကပ်ကပ် နေဖို့၊ သူစဉ်းစားတွေးခေါ်ပုံကို သိနိုင်မယ့်အခြေအနေမျိုး ရှိဖို့ လိုတယ်။ တကယ်တော့ အခုလို သူလျှိုလွှတ်တာဟာ မဆန်းပါဘူး၊ ခင်ဗျားတို့ အမေရိကန် ထောက်လှမ်းရေး (စီအိုင်အေ) က မကြာခဏ လုပ်ခဲ့ဖူးပါတယ်။ ကျုပ်တို့မှာ တခု ကံကောင်းတာက အမေရိကန် သမ္မတ အိမ်တော်မှာ အတွင်းကျကျ သူလျှိုတဦးထားဖို့ ကိစ္စကို လွန်ခဲ့တဲ့ သုံးနှစ်လောက်ကတည်းက ကြိုတင် စီစဉ်ခဲ့ပြီးသား ဖြစ်နေတယ်။ ဘယ်လို စတင်ခဲ့သလဲဆိုရင် ကျုပ်တို့ဟာ မမျှော်လင့်ဘဲ ခင်ဗျားနဲ့ ရုပ်ချင်း တထေရာတည်းတူတဲ့ အမျိုးသမီးတဦးကို သွားတွေ့တယ်"

"ဟင် ကျွန်မနဲ့ တထေရာတည်းတူတဲ့ အမျိုးသမီးဆိုတာ ဘယ်နည်းနဲ့မှမဖြစ်နိုင်ဘူး။ လူမှန်သမျှဟာ လက်ဗွေပုံစံများလိုပဲ တဦးနဲ့တဦး တထေရာတည်း တူတာရယ်လို့ မရှိဘူး"

ဘီလီက ကြားဖြတ် ဝင်ပြောလိုက်သော်လည်း ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ဂရုမစိုက်ဘဲ ဆက်ပြောလေသည်။

"မဖြစ်နိုင်ဘူးဆိုတာ မဟုတ်ပါဘူး။ တကယ် ဖြစ်နိုင်ပါတယ်။ ကျုပ်တို့ အမှတ်မထင်ပဲ သွားတွေ့တဲ့ မိန်းကလေးဟာ ခင်ဗျားနဲ့ ဘယ်လိုမှ ခွဲခြားလို့ မရအောင် တထေရာတည်း တူနေတယ်။ အင်္ဂါရုပ်မှာရော၊ ကိုယ်လုံးကိုယ်ပေါက် အနေအထားရော ရွေးမရအောင် တူတဲ့အပြင် သူက အင်္ဂလိပ်စကားကိုလည်း ရေရေလည်လည် တတ်ကျွမ်းသူ ဖြစ်နေတယ်။ အသေးအဖွဲ ကွာခြားချက် လေးတွေ ရှိတာပေါ့။ အဲဒါတွေကို လုံးဝ ချွတ်စွပ်တူအောင် ကျုပ်တို့က သုံးနှစ်အတွင်း ပြုပြင် ဖန်တီးယူခဲ့တယ်။ ကျုပ်တို့ရဲ့ရည်ရွယ်ချက်က အဲဒီအမျိုးသမီးကို ခင်ဗျားနေရာ လူစားထိုးထား လိုက်ဖို့ပါပဲ"

"ကျွန်မနေရာ လူစားထိုး လဲထားဖို့ဆိုတာ လုံးဝ မဖြစ်နိုင်ဘူး၊ ကျွန်မကို အများပရိသတ်က သိနေတဲ့ မိန်းမတယောက် နေရာ လူစားဝင်ဖို့ဆိုတာ ဖြစ်နိုင်ပါ့မလား။ ဒါမျိုးလဲ ကျွန်မဖြင့် တခါမှ မကြားဖူးပါဘူး။ ဘယ်လိုနည်းနဲ့မှ မဖြစ်နိုင်ဘူး"

ဤတွင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ရာဇင်အား လှမ်းခေါ်လိုက်သည်။

"ကိုင်း ရာဇင် မောင်ရင်ကပဲ ပြောပြလိုက်စမ်းပါ။ မောင်ရင်က သမိုင်းဘာသာ လေ့လာခဲ့သူလဲ ဖြစ်တယ်။ သူ ယုံကြည်အောင် ပြောပြလိုက်စမ်းပါ"

ရာဇင်လည်း ရှေ့သို့ တိုးလာလေသည်။

ထို့နောက် သူသည် စိတ်ထဲက မပါသလိုဟန်မျိုးနှင့် ပြောလေသည်။

"ဟုတ်ပါတယ်၊ ခင်ဗျားထင်တာ မှားနေပြီ။ အခုလုပ်ရပ်ဟာ အသစ်အဆန်းတခု မဟုတ်ပါဘူး။ အတိတ်ကာလပိုင်းကို ပြန်ကြည့်ရင် ဒါမျိုးတွေဟာ ရိုးနေပြီဆိုတာ တွေ့ရပါလိမ့်မယ်။ ရုပ်ချင်းတူတဲ့ လူတယောက်နဲ့ အစားထိုး လဲခဲ့တဲ့သာဓကဟာ သမိုင်းမှာ အများကြီးပဲ ရှိခဲ့ပါတယ်။ ပြင်သစ်ဘုရင် နပိုလီယံဆိုရင် သူနဲ့တူတဲ့ ယုဂျင်းဆိုတဲ့လူနဲ့ သူ့နေရာ လူစားထိုးပြီး အသုံးပြုခဲ့တယ်။ ပြီးတော့ ခင်ဗျားလဲ ကြားဖူးမှာပါ။ ဒုတိယ ကမ္ဘာစစ်အတွင်းက ဗြိတိသျှဗိုလ်ချုပ်ကြီး မောင်ဂိုမာရီဟာ သူနဲ့ ရုပ်ချင်း အလွန်တူတဲ့ ကလစ်ဖ်တန်ဂျိမ်းဆိုသူကို လူစားထိုးပြီး အသုံးပြုခဲ့ဖူးတယ်။ ဒါတွေက အတိတ်က ဖြစ်ခဲ့ဖူးတဲ့ သာဓကတွေပဲ"

ရာဇင်၏ စကားအဆုံးတွင် ဗိုလ်ချုပ်ကြီးပီထရော့ဗ်က ဝင်၍

"အခုလဲပဲ ဒါမျိုးဖြစ်နေပြီ" ဟု ပြုံးပြီး ပြောလိုက်သည်။

"ဒါပေမဲ့ အခုကိစ္စ အောင်မြင်မှာ မဟုတ်ပါဘူး"

ဘီလီက ပြောလိုက်ရာ ဗိုလ်ချုပ်ကြီးပီထရော့ဗ်ကလည်း

"အောင်မြင်ရမှာပါ" ဟု ပြန်ပြောလိုက်လေသည်။

သမ္မတကတော်ဘီလီသည် အခြေအနေကို လက်မခံနိုင်ဟန်ဖြင့် ခေါင်းခါလိုက်ပြန်သည်။

"ကျွန်မကတော့ မယုံကြည်နိုင်ဘူးရှင့်၊ ဒါထက် ကျွန်မက ဘာဖြစ်မှာလဲ။ ကျွန်မကို ရှင်တို့က ဘာလုပ်မှာလဲ"

"ဘာမှမလုပ်ပါဘူး။ ခင်ဗျားရဲ့အသက်အန္တရာယ်လဲ စိုးရိမ်စရာ မရှိပါဘူး။ ကျုပ်တို့က လူရိုင်းတွေ လည်း မဟုတ်ပါဘူး။ ခင်ဗျားက ဒီအခန်းမှာ ရက်သတ္တ နှစ်ပတ်ခန့် အေးအေးဆေးဆေး နေရုံပဲ။ ဒီအတောအတွင်းမှာ ကျုပ်တို့ရဲ့အေးဂျင်း(သူလျှို) က လိုအပ်တဲ့သတင်းတွေ ရအောင် ယူရလိမ့်မယ်။ ကျုပ်တို့ရဲ့ လူကိုတော့ (စက္ကင်းလေဒီ) ဒုတိယအမျိုးသမီးလို့ပဲ ခေါ်ကြပါစို့၊ လန်ဒန်မြို့မှာကျင်းပမယ့် ထိပ်သီး ဆွေးနွေးပွဲ နောက်ဆုံးနေ့ကျရင် ခင်ဗျားကို ကျုပ်တို့က လေယာဉ်နဲ့ လန်ဒန်ကို ပြန်ပို့မယ် ဟိုရောက်တော့မှ လူချင်း ပြန်လဲလိုက်မယ်။ ဒီတော့မှ ခင်ဗျားက ခင်ဗျားရဲ့ခင်ပွန်း အမေရိကန် သမ္မတကြီးနဲ့အတူ အမေရိကန်ပြည်ကို ပြန်သွားရမယ်။ ဒီကိစ္စကိုလည်း ဘယ်သူကမှ သိလိုက်မှာ မဟုတ်ဘူး"

"ဘာဖြစ်လို့ မသိရမှာလဲ၊ ကျွန်မက တိတ်တိတ်နေမယ် အောက်မေ့လို့လား၊ ကျွန်မက ရှင်တို့ အကြောင်းတွေကို ကမ္ဘာက သိအောင်

ထုတ်ဖော်ပြောလိုက်မယ်ရှင့်"

ဘီလီက စိတ်တိုတိုနှင့် ပြောလိုက်သော်လည်း ပီထရော့ဗ်က ပြုံး၍ခေါင်းခါလိုက်သည်။

"ဒီလို မလုပ်ပါနဲ့ဗျာ၊ ခင်ဗျားကောင်းဖို့ ပြောတာပါ။ ခင်ဗျားက ထုတ်ဖော်ပြောလိုက်ပြီပဲ ထားပါဦး၊ ခင်ဗျားယောက်ျား သမ္မတကြီးက ယုံကြည်မှာလား၊ တခြားလူတွေကရော လက်ခံယုံကြည်မတဲ့လား။ ခင်ဗျားပဲ ပြောတယ် မဟုတ်လား။ ဒီကိစ္စဟာ ယုံကြည်နိုင်စရာ မရှိဘူးလို့။ အဲဒါ မှန်တယ်၊ ဘယ်သူကမှ ယုံမှာ မဟုတ်ဘူး။ သမ္မတကတော်နေရာ လူစားထိုးလဲ ထားလိုက်တာဟာ ဘယ်လိုမှ မဖြစ်နိုင်ဘူးလို့ ယူဆကြမှာပဲ။ ခင်ဗျားက ကျုပ်တို့အပေါ် စွပ်စွဲပြောရင် ခိုင်လုံတဲ့ အထောက်အထား ဆိုလို့ ဘာမှလဲ ပြနိုင်မှာမဟုတ်ဘူး။ ဒါကြောင့် ခင်ဗျား လျှောက်ပြောရင် စိတ်ဖောက်ပြန်ပြီး ထင်ရာပြောတာပဲလို့ ထင်ကြလိမ့်မယ်။ ဒါကြောင့် ခင်ဗျား ပြန်သွားတဲ့အခါ ဘာမှမဖြစ်ခဲ့သလို နှုတ်ပိတ်ပြီး နေရလိမ့်မယ်။ ကျုပ်တို့ရဲ့အကြံအစည်ဟာ ဘယ်သူမှ မယုံကြည်နိုင်လောက်အောင် ရဲတင်းတဲ့အကြံ ဖြစ်လို့ပဲ။ အဲဒါကိုက ကျုပ်တို့ရဲ့လုံခြုံမှုဖြစ်နေတယ်"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် စကားကို ခေတ္တဖြတ်၍ စားပွဲပေါ်ရှိ သူ၏ ဆေးပြင်းလိပ်ဗူးကို ကောက်ယူလိုက်ပြီးမှ ဆက်ပြောပြန်သည်။

"ကိုင်း ကျုပ်သွားဦးမှ ဖြစ်မယ်၊ ဒီမှာ ခင်ဗျား နေရတုန်းမှာ ဘာမှ လိုလေသေး မရှိအောင် မစ္စတာရာဇင်က တာဝန်ယူပါလိမ့်မယ်။ ကောင်းကောင်းအိပ်၊ ကောင်းကောင်းစား၊ ကိုယ်လက် လှုပ်ရှားမှု လုပ်တဲ့အခါလုပ်၊ ပြီးတော့ ပျင်းရင် စာဖတ်ဖို့လဲ ခင်ဗျားအကြိုက် စာရေးဆရာတွေရဲ့ စာအုပ်တွေပါ အဆင်သင့် ရှိပါတယ်။ အမေရိကန် ရုပ်ရှင်ကားတွေရဲ့ ဗီဒီယို ကက်ဆက် ဖလင်တွေလည်း ရှိပါတယ်။ ဒီအခန်းထဲမှာ ရေဒီယိုနှစ်လုံးလည်း ရှိတယ်။ နားထောင်ချင်ရင် ဘီဘီစီ အသံလွှင့်ဌာနနဲ့ အမေရိကန်အသံက အသံလွှင့်တာတွေလည်း နားထောင်နိုင်ပါတယ်။ ခင်ဗျား ဝတ်နေကျ အဝတ်အစား အားလုံးရဲ့ပုံတူဝတ်စုံတွေကိုလည်း ကျုပ်တို့က အပြည့်အစုံ ဖန်တီးထား ပါတယ်။ ဒီအခြေအနေကို ခင်ဗျားက လက်ခံပြီး အေးအေးဆေးဆေး နေလိုက်ရင် ဘာအန္တရာယ်မှ လည်း ရှိမှာ မဟုတ်ဘူး။ ထွက်ပြေးမယ် ကြံရင်တော့ ခင်ဗျားပဲ ထိခိုက်နစ်နာရလိမ့်မယ်။ အကောင်းဆုံးက ခင်ဗျားဟာ ဒီမှာ ခဏ အပန်းဖြေခရီးထွက်ပြီး အနားယူနေရတယ်လို့ သဘောထား နေလိုက်ရင် ကောင်းမယ်။ အလိုရှိတာဆိုရင် တော့ မစ္စတာရာဇင်ကိုသာ ပြောပါ။ ဖြစ်နိုင်တယ်ဆိုရင် ရပါစေမယ်။ ကျုပ်ကိုယ်တိုင်လည်း မကြာခဏ လာကြည့်မှာပါ"

ဤသို့ ပြောပြီး ပီထရော့ဗ်သည် တံခါးပေါက်ဘက်သို့

လျှောက်သွားလေသည်။

ဘီလီသည် မကျေမနပ်ဖြစ်ဟန်နှင့်

"ဒီကိစ္စမှာ ရှင်တို့ ဘယ်နည်းနဲ့မှ အကြံအောင်မှာ မဟုတ်ဘူး"

ဟု လှမ်းအော်လိုက်သည်။ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် တံခါးဝမှ ပြန်လှည့်၍

"ခင်ဗျားကသာ အကြံအောင်မှာ မဟုတ်ဘူးလို့ ပြောနေတယ် အခု ကျုပ်တို့အကြံ အောင်မြင်နေပြီဗျ။ ကိုင်း ရာဇင် ပြလိုက်စမ်းပါကွာ"

ဟု ပြောကာ ထွက်သွားလေသည်။

ရာဇင်လည်း ဘီလီ၏ အနီးသို့ လျှောက်လာလေသည်။

"မစ္စတာရာဇင်နှင့် အခုပြောသွားတာတွေဟာ တကယ်လားဟင်၊ တကယ်ဖြစ်နိုင်ပါ့မလား"

"ဟုတ်ကဲ့၊ တကယ်ဖြစ်နေတာပါ"

ရာဇင် ဝမ်းနည်းဟန်ဖြင့် ပြောလိုက်သည်။

"နေပါဦးရှင့်၊ ဒီအကြံအစည်ထဲမှာ ရှင်ကိုယ်တိုင်လည်း ဝင်ပါနေသလား၊ မနေ့ကတော့ ရှင်ဟာ အလွန်ရည်မွန်ပြီး ခင်မင်စရာကောင်းတဲ့ လူတယောက်လို့ ထင်ခဲ့မိတယ်"

"ကျွန်တော်က အခုလည်းပဲ ရည်မွန်တဲ့ လူတယောက်ပါပဲ။ အကြံထဲ ကျွန်တော် ပါ မပါ ဆိုတာကို တော့ ဟုတ်တယ်လို့လည်း ဆိုနိုင်တယ် မဟုတ်ဘူးလို့လည်း ပြောနိုင်တယ်။ ဒီအကြံအစည်ဟာ ကေ- ဂျီ-ဘီ (ထောက်လှမ်းရေး) ရဲ့ လျှို့ဝှက်စစ်ဆင်ရေးတခု ဖြစ်ပါတယ်။ ကျွန်တော်က ကေ-ဂျီ-ဘီ အဖွဲ့က မဟုတ်ပါဘူး။ ကျွန်တော့်ကို ခေါ်သုံးတဲ့အကြောင်းကတော့ အမေရိကန်ကပြားတယောက် ဖြစ်လို့ပဲ ယူဆရပါတယ်။ ကျွန်တော့်ရဲ့မိခင်က အမေရိကန် အမျိုးသမီးတဦး ဖြစ်ပါတယ်။ ကျွန်တော်ဟာ အမေရိကန်နိုင်ငံမှာ ကြီးပြင်းလာခဲ့ပါတယ်။ မိခင်ကြီးက ကျွန်တော့်အသက် ဆယ့်ငါးနှစ်မှာ ကွယ်လွန်သွားပြီးတော့ ဖခင် ရုရှအမျိုးသားက ကျွန်တော့်ကို ရုရှနိုင်ငံကို ခေါ်လာခဲ့ပါတယ်"

ရာဇင်က သူသည် ကေ-ဂျီ-ဘီ ထောက်လှမ်းရေးသမား မဟုတ်ကြောင်း မုသားသုံး၍ ပြောလိုက်ခြင်း ဖြစ်သည်။ သူ၏ ဘဝဖြစ်စဉ်အကြောင်းကိုမူ ဘီလီက

စိတ်ဝင်စားပုံရလေသည်။

"ရှင်က ဘာဖြစ်လို့ အမေရိကန်နိုင်ငံကို ပြန်မသွားတာလဲ"

ထိုမေးခွန်းကို ရာဇင်သည် ချက်ချင်းပြန်မပြောဘဲ ထိုင်ရာမှထ၍ ရေဒီယိုတလုံးကို ဖွင့်လိုက်သည်။

ရေဒီယိုမှ သီချင်းသံ ထွက်ပေါ်လာသောအခါ အသံကို ခပ်ကျယ်ကျယ် ဖွင့်ထားလိုက်လေ သည်။

"ဒါက အခု ကျွန်တော်တို့ပြောတဲ့ စကားတွေကို ရုတ်တရက် မကြားနိုင်အောင် ကာကွယ်တဲ့ သဘောပါပဲ။ အခု ခင်ဗျားရဲ့မေးခွန်းကို ဖြေပါမယ်။ အမေရိကန်ကို ဘာဖြစ်လို့ ပြန်မသွားသလဲဆိုတဲ့ မေးခွန်း မဟုတ်လား၊ မှန်တာပြောရရင် အခုအချိန်ထိ အမေရိကန်ကို သွားဖို့ ဆန္ဒရှိနေတုန်းပါပဲ။ တကြိမ်က ကျွန်တော်ဟာ သတင်းစာဆရာအဖြစ်နဲ့ ခဏတော့ သွားဖူးပါတယ်။ သို့သော် သူလျှိုမှု တခုနဲ့ ပတ်သက်ပြီး ကျွန်တော့် မှာ အပြစ်မရှိဘဲနဲ့ ပြည်နှင်ဒဏ်ပေးခံခဲ့ရပါတယ်"

"ဟုတ်လား၊ အခု ရှင်က ကျွန်မကို ကူညီမယ်ဆိုရင် ကျွန်မကလည်း ရှင့်ကိစ္စအတွက် ကျွန်မယောက်ျား သမ္မတကြီးကို ပြောပေးရင် ရနိုင်ပါတယ်"

ဤတွင် ရာဇင်က ခေါင်းခါလိုက်သည်။

"ဘယ်လိုလုပ်ပြီး ကျွန်တော်က ခင်ဗျားကို ကူညီနိုင်မှာလဲ၊ အခု ခင်ဗျားဟာ ရဲတိုက်ကြီးနဲ့တူတဲ့ ကရင်မလင်နန်းတော်ကြီးတွင်းမှာ ရောက်နေတယ်။ အစောင့်အကြပ် တွေကလည်း အပြည့်ချထား တယ်။ ဒီနေရာက ထွက်ဖို့ စိတ်ကူးရင်တောင် အန္တရာယ် ရှိနိုင်တယ်။ ကျွန်တော်က ခင်ဗျားကို ထွက်ပြေးဖို့ ကူညီချင်တယ်ပဲထားဦး ဘယ်လိုမှ ကူညီလို့ မဖြစ်နိုင်ဘူး"

"ထွက်ပြေးဖို့ မဟုတ်ဘူးလေ၊ ဒီအကြောင်းကို အမေရိကန်သံအမတ်ကြီး သိအောင် ပြောပေးရင် မဖြစ်ဘူးလား"

"ပြောရင်လဲ သံအမတ်ကြီးက ကျွန်တော့်စကားကို ယုံမှာ မဟုတ်ဘူး၊ ယုံကြည်တယ်ပဲ ထားပါဦး၊ သံအမတ်ကြီးက ဘယ်လိုလုပ်ပြီး ခင်ဗျားကို ရှာမှာလဲ၊ သူက ဒီကရင်မလင် နန်းတော်ကို လာရှာရင် ဘာမှ တွေ့မှာ မဟုတ်ဘူး။ အဲဒီအချိန်မှာဆိုရင် ခင်ဗျားက မော်စကိုမြို့ပြင်ဘက် တနေရာကို ရောက်နေလိမ့်မယ်။ ပြီးတော့ ကျွန်တော့်အဖို့ကလဲ ဒီသတင်း ပေးလိုက်တာသာ သိရင် ကေန်မုချ သေဒဏ်ပေးခံရမှာပဲ။ ဒါကြောင့် လွတ်အောင်ကြံဖို့က မဖြစ်နိုင်သေးပါဘူး"

ဤတွင် ဘီလီသည် စိတ်ပျက်ဟန်ဖြင့် ငိုက်ကျသွားလေသည်။

"ရှင်ပြောတာလဲ မှန်တယ်။ ဒါထက် ကျွန်မကို သူတို့က နှစ်ပတ်ကြာရင် တကယ်ပဲ ပြန်လွှတ်မယ် ထင်သလားဟင်"

"ကျွန်တော်ကတော့ လွှတ်ပေးမယ်လို့ ထင်ပါတယ်"

"ကျွန်မကိုတော့ ဘယ်လိုမှ အန္တရာယ် မပြုဘူးလား"

"အန္တရာယ်ပြုစရာ အကြောင်း မရှိပါဘူး။ သူတို့အဖို့က ခင်ဗျားက ဘေးရန်မရှိဘဲ ကျန်းကျန်းမာမာ ရှိတာကမှ ပိုပြီးအသုံးကျမှာမို့ပါ။ သူတို့ရဲ့လူယုံ စက္ကင်းလေဒီဆိုတဲ့ မိန်းမက စုံစမ်းထောက်လှမ်းလို့ မရတဲ့ အချက်တွေကို ခင်ဗျားဆီမှာ လာမေးချင်လဲ မေးလိမ့်မယ်။ လန်ဒန်မြို့ ထိပ်သီး ဆွေးနွေးပွဲ ပြီးသွားရင်တော့ ခင်ဗျားကို ပြန်လွှတ်ပေးလိမ့်မယ်လို့ ထင်ပါတယ်"

ထိုစကားကို ဘီလီသည်ခေတ္တ စဉ်းစားနေလေသည်။ တဖန် စိတ်ကူးတမျိုး ရလာပုံရလေသည်။

"ဒီမယ် သူတို့အကြံက မအောင်မြင်နိုင်ဘူး။ အခု လောလောဆယ် လူမသိပေမယ့် အမေရိကန်ပြည် ရောက်တာနဲ့ အမှန်ပေါ်သွားမှာပဲ။ ဝါရှင်တန်မြို့ကို ရောက်လို့ လေဆိပ်မှာ ကျွန်မရဲ့ခင်ပွန်း သမ္မတကြီး ဆီးကြိုနေတယ်မဟုတ်လား။ သူတို့ရဲ့စက္ကင်းလေဒီက လေယာဉ်ပေါ်က ဆင်းလာတာနဲ့ ကျွန်မရဲ့ခင်ပွန်းက ကျွန်မအစစ် မဟုတ်ကြောင်း သိသွားမှာ သေချာတယ်။ ကျွန်မယောကျ်ားက ကျွန်မကို ကောင်းကောင်းကြီး သိထားတာမဟုတ်လားရှင့်၊ ဪ ဒါထက်စောစောက လူကြီးက ဘယ်သူလဲ"

"ဗိုလ်ချုပ်ကြီး ပီထရော့ဗ် ဖြစ်ပါတယ်"

"အဲဒီ ဗိုလ်ချုပ်ကြီးက ထွက်သွားခါနီး ရှင့်ကို ပြလိုက်စမ်းပါလို့ ပြောသွားတာဟာ ဘာကို ပြခိုင်းတာလဲဟင်"

ဤတွင် ရာဇင်သည် ဗီဒီယိုတိတ်ခွေတခုကို စက်ထဲ ထည့်၍ ရုပ်မြင်သံကြားစက်မှတဆင့် ပြသရန် စီစဉ်လေသည်။

"ဒါက ဒီနေ့ခင်ဗျားတို့ လေယာဉ်ကြီး ဝါရှင်တန်မြို့တော်ကို ပြန်ရောက်တဲ့ သတင်းကားပါပဲ။ အမေရိကန် ရုပ်မြင်သံကြားက ထုတ်လွှင့်တာကို တဆင့်ကူးယူထားပါတယ်"

ဟု ပြေရင်း ရာဇင်သည် ခလုတ်ကို ဖွင့်လိုက်ရာ ဘီလီသည် ရုပ်မြင်သံကြားစက်မှ ပိတ်ကားကို ကြည့်လိုက်လေသည်။

ချက်ချင်းလိုပင် ပိတ်ကားပေါ်မှ အရုပ်ပေါ်လာသည်။

ဝါရှင်တန်မြို့ သမ္မတအိမ်တော်ဝင်းအတွင်း၌ ရဟတ်ယာဉ်တစင်း ပျံဝဲရာမှ မြက်ခင်းပြင်ပေါ်သို့ ဖြည်းညင်းစွာ ဆင်းသက်လျက်ရှိစဉ် အမေရိကန်သမ္မတ ဘရက်ဖို့ဒ်ကိုယ်တိုင် ဆီးကြိုနေသည်ကို မြင်တွေ့ရလေသည်။

ဘီလီသည် ကြည့်နေရင်းက မြင်ရသည့် အရုပ်ကို ဟုတ်မှ ဟုတ်ပါလေစဟု မယုံနိုင်အောင် ဖြစ်သွားကာ အံ့အားသင့်နေလေတော့သည်။

ရဟတ်ယာဉ်ပေါ်မှ ဆင်းလာသူ အမျိုးသမီးသည် မိမိနှင့် ရွေးမရအောင် တထေရာတည်း ဖြစ်နေပေသည်။ မျက်နှာပေါက်နှင့် ကိုယ်လုံး ကိုယ်ဟန်သာမက ဝတ်စားထားပုံကလည်း မိမိအတိုင်း ဖြစ်နေသည်။ လှုပ်ရှားသွားလာဟန်ကအစ မိမိကဲ့သို့ပင် ဖြစ်နေသည်။

ထိုမိန်းမသည် ရဟတ်ယာဉ်၏လှေကားရင်းသို့ ရောက်လျှင် သမ္မတ ဘရက်ဖို့ဒ်သည် ဆီးကြို၍ အားပါးတရ ပွေ့ဖက်နှုတ်ဆက်လိုက်သည်။ ပြီးတော့ ထိုမိန်းမကို ယုယစွာ နမ်းရှုပ်လိုက်သေးသည်။ ဘေးပရိသတ်က လက်ခုပ်တီးသြဘာပေးသံကြားရပြီးနောက် သမ္မတဘရက်ဖို့ဒ်သည် ဒုတိယမွှိ ထိုမိန်းမကို နမ်းရှုပ်လိုက်ပြီး နှုတ်ဆက်ပြန်သည်။

ထိုနောက် စာရေးဆရာများ ဓာတ်ပုံဆရာများနှင့် မိုက်ကရိုဖုန်း စကားပြောခွက်များ ရှိရာသို့ သမ္မတကြီးက ခေါ်သွားလေသည်။

စက္ကင်းလေဒီ သို့မဟုတ် သမ္မတကတော် အတုသည် ရုပ်မြင်သံကြား ကင်မရာရှေ့တွင်ရပ်၍ စကားပြောလေသည်။

မော်စကိုမြို့ အမျိုးသမီးများ ညီလာခံကြီးသည် အထူးအောင်မြင်ခဲ့ကြောင်း၊ သူမကိုယ်တိုင် အသေးစိတ် အချက်များကို နက်ဖြန် အမေရိကန် အမျိုးသမီးများအဖွဲ့ချုပ်၌ အစီရင်ခံ အကျယ်တဝင့် ပြောပြမည်ဖြစ်ကြောင်း၊ မော်စကိုမြို့သည် အလွန်စိတ်ဝင်စားဖွယ်ကောင်းကြောင်း၊ သို့သော် ယခု မိမိ၏ဌာနသို့ ပြန်ရောက်လာသည်ကို ဝမ်းမြောက်ပါကြောင်း စသည်ဖြင့် အင်္ဂလိပ်စကားကို ရေလည် ကျွမ်းကျင်စွာ မိမိဘီလီ၏ လေသံအတိုင်း ပြောနေလေသည်။

ဘီလီသည် ရုပ်မြင်သံကြား ပိတ်ကားကို ကြည့်ရင်း ပါးစပ်အဟောင်းသားနှင့် အံ့သြနေမိလေသည်။

အရေးထဲ သမ္မတဘရက်ဖို့ဒ်သည် ထိုမိန်းကို ရင်းနှီးစွာတွဲ၍ အိမ်ဖြူတော်အတွင်းသို့ ခေါ်သွားသည်ကို မြင်ရပြန်သည်။ မိမိနေရာလူစားထိုး

ဝင်ရောက်နေသော ရှုရှုသူလျှိုမအား ခင်ပွန်းက ဇနီးအဖြစ် တွဲခေါ်သွားပါလေပြီ။

ဘီလီသည် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က "ကျုပ်တို့အကြံ အောင်မြင်နေပါပြီ" ဟု ပြောသွားသည် ကိုလည်း ယခုမှ သဘောပေါက်မိလေတော့သည်။

ရာဇင်သည် ရုပ်မြင်သံကြားစက်ကို ပိတ်လိုက်ပြီးနောက် ဘီလီဘက်သို့လှည့်၍ ပြောပြန်သည်။

"ဗိုလ်ချုပ်ကြီးက ခင်ဗျားကို ပြခိုင်းတာဟာ ဒါပါပဲ၊ ဟိုအမျိုးသမီးက ခင်ဗျားမဟုတ်ဘူးဆိုတာ ခင်ဗျားယောကျ်ားအပါအဝင် ဘယ်သူမှ သိကြမှာ မဟုတ်ဘူး။ ဗိုလ်ချုပ်ကြီး ပြောသွားတဲ့အတိုင်း မှန်နေပါတယ်။ ကျွန်တော်ကတော့ ဝမ်းနည်းပါတယ်"

ဘီလီသည် ဘာမှပြန်မပြောနိုင်ဘဲ ဆိတ်ဆိတ်နေရင်း စဉ်းစားနေလေသည်။

ကေ-ဂျီ-ဘီ ခေါ် ရုရှထောက်လှမ်းရေး၏ လျှို့ဝှက်အကြံက တကယ်ပင် ပိရိသေသပ်လှပေသည်။ လူချင်း လဲလိုက်ပုံသည်လည်း လုံးဝ သံသယ ဖြစ်စရာမရှိအောင် ချွတ်ယွင်းချက် ကင်းနေပေသည်။

ယခုအတိုင်းဆိုလျှင် ကေ-ဂျီ-ဘီ ထောက်လှမ်းရေး သူလျှိုတဦးသည် အမေရိကန်သမ္မတအိမ်တော် အတွင်းသို့ ရောက်ရှိသွားပြီဖြစ်သည်။ မိမိ၏အခြေအနေကသာလျှင် လုံးလုံးမျှော်လင့်ချက် မရှိသည့် အဖြစ်သို့ ရောက်ရှိနေပါလေပြီ။

ဤသို့ စဉ်းစားရင်း မျှော်လင့်ချက်ရောင်ခြည်တခုကို တွေးမိပြန်သည်။

နက်ဖြန်ဆိုလျှင် သမ္မတကတော်၏ ခရီးစဉ်အရ အမေရိကန်ပြည် အနောက်ဘက် ကမ်းရိုးတန်း လော့စ်အိန်ဂျယ်လိစ်မြို့သို့ သွားရမည်ဖြစ်သည်။ ထိုမြို့တွင် မိမိ (ဘီလီ) ၏ ဖခင်နှင့် ပြန်လည် တွေ့ဆုံရန် အစီအစဉ်လည်း ရှိသည်။

အကယ်၍ မိမိခင်ပွန်း သမ္မတ ဘရက်ဖို့ဒ်က ရုရှသူလျှိုမ (စက္ကင်းလေဒီ) အား အတုအယောင်မှန်း မရိပ်မိသည်ပဲထားဦး သူမ၏ဖခင်ကြီးကတော့ သမီးအစစ် မဟုတ်ကြောင်း ရိပ်မိနိုင်စရာ ရှိပေသည်။

ဖခင်ကြီးက သူလျှိုမတွင် ချွတ်ယွင်းချက်တခုခုကို သတိပြုမိမည် ဖြစ်သည်။ ထိုအခါ အဘိုးကြီးက မခံမရပ်နိုင်ဖြစ်ပြီး ဖွင့်ချဖော်ထုတ်ခြင်းအားဖြင့် ကေ-ဂျီ-ဘီ ၏အလိမ် ပေါ်သွားနိုင်လေသည်။

ယင်းအချက်အပြင် ဘီလီသည် နောက်တချက်ကိုလည်း စဉ်းစား၍ မျှော်လင့်ချက် ထားလိုက်ပြန်လေ သည်။

ယခု ဝါရှင်တန်မြို့တော်၌ အိပ်ရာဝင်ချိန်တွင် ရှုရှသူလျှိုမ အလိမ်ပေါ်သွားနိုင်ပေသည်။ မိမိ(ဘီလီ)သည် ဆရာဝန်၏ညွှန်ကြားချက်အရ ယောက်ျားနှင့် အတူမအိပ်ရန် ယာယီ တားမြစ်ချက် ရှိကြောင်း သူလျှိုမ သိနိုင်မည်မဟုတ်။ ထို့ကြောင့် သူမက လင်မယားဘာဝ အတူအိပ်ဖို့ ကြိုးစားသည်နှင့် သမ္မတဘရက်ဖို့ဒ်သည် ချက်ချင်း သံသယ ဖြစ်လာနိုင်လေသည်။

ဤသို့ စဉ်းစားရင်းဘီလီသည် အနည်းငယ် အားတက်မိသလို ဖြစ်လာလေသည်။

ထို့ကြောင့် သူမသည် ရာဇင်ဘက်သို့ လှည့်၍ ပြုံးလိုက်သည်။

"ကောင်းပြီလေ၊ အခုပွဲမှာ ပထမအချီ နိုင်သွားပြီ ဆိုပါတော့။ ဒါပေမဲ့ ပွဲက မပြီးသေးဘူးရှင့်၊ တချို့တွေ ရှိသေးတယ်၊ ရှင်တို့ရဲ့အမျိုးသမီး စက္ကင်းလေဒီအဖို့လဲ မကြာခင် အကြီးအကျယ် ပြဿနာ ရင်ဆိုင်ရတော့မှာ သေချာပါတယ်"

*

ဝါရှင်တန်မြို့ သမ္မတ အိမ်တော်၏ ထမင်းစားခန်းကြီးတွင် ညစာ စားကြပြီးနောက် သမ္မတကတော် ဟန်ဆောင်နေသူ ဗီရာ သို့မဟုတ် စက္ကင်းလေဒီသည် ပြန်ကြားရေးမှူး နိုရာ၊ သတင်းစာဆရာ ပါကာတို့နှင့် အတူ ရုပ်မြင်သံကြား ကြည့်နေလေသည်။

နောက်တနေ့နံနက်တွင် လော့စ်အိန်ဂျယ်လိစ်မြို့သို့ ခရီးထွက်ရန် ရှိသည်ကတကြောင်း၊ သမ္မတကတော်အနေဖြင့် ဝါရှင်တန်သို့ ပြန်ရောက်သည့် ပထမဆုံးနေ့ဖြစ်သည်ကတကြောင်း၊ ထိုနေ့ညအဖို့ ဘာအလုပ်မှ မလုပ်တော့ဘဲ အနားယူရန် ဆုံးဖြတ်လျက် ရုပ်မြင်သံကြား ကြည့်နေကြခြင်း ဖြစ်လေသည်။

ဗီရာသည် မော်စကိုမြို့တွင် ရှိစဉ်ကပင် ဤသမ္မတအိမ်တော်၏အခန်းများ ဖွဲ့စည်းထားပုံ အနေအထား အသေးစိတ်ကို ကောင်းစွာ လေ့လာထားခဲ့ပြီးနောက် ယခု သူမအဖို့ ပထမဆုံးအကြိမ် ရောက်ရှိခြင်း ဖြစ်လင့်ကစား လုံးဝ ကြောင်ခြင်း၊ စိမ်းခြင်း မရှိဘဲ ကိုယ့်အိမ်ကိုယ် ပြန်ရောက်လာ ခဲ့ရသကဲ့သို့ပင် ဖြစ်နေလေသည်။ ထို့ကြောင့်လည်း သူမသည် ဣန္ဒြေမပျက် ဆက်လက် သရုပ်ဆောင်နိုင်ခြင်းဖြစ်လေသည်။

ရုပ်မြင်သံကြား ကြည့်ရာတွင်ပင် သူမသည် ထိုင်ခုံနေရာကို မှန်ကန်တိကျစွာ ထိုင်နိုင်လေသည်။

ထိုအခန်းတွင် ၁၇၆၇ ခုနှစ်က အမေရိကန်သမ္မတ ဖြစ်ခဲ့သူ ဖရင်းကလင်း၏ ပန်းချီကားကြီးတချပ် ချိတ်ဆွဲထားသည်။ ယင်းပန်းချီကားကြီးအောက်တည့်တည့်ရှိ

ထိုင်ခုံတွင် သူမက ဝင်ထိုင်လိုက်သည်။ ဤနေရာသည် သမ္မတကတော်အစစ် ဘီလီ ထိုင်နေကျနေရာ ဖြစ်ကြောင်း ကြိုတင် သိရှိထားပြီး ဖြစ်လေသည်။

ဗီရာ၏ ဝဲယာ ဘေးနှစ်ဘက်တွင်ကား နိုရာနှင့် ပါကာတို့က ထိုင်နေကြလေသည်။

ဗီရာသည် ရုပ်မြင်သံကြား ကြည့်နေရင်း ရံဖန်ရံခါ နိုရာနှင့် ပါကာတို့အား လှမ်းစကားပြောနေလိုက် သေးသည်။ ပိတ်ကားပေါ်မှ အရုပ်အကြောင်းကိုလည်း ဆွေးနွေးလေသည်။

သို့သော် သူမ၏စိတ်ထဲတွင်ကား ဝါရှင်တန်မြို့တော်သို့ ပထမဆုံးအကြိမ် ရောက်ရှိလာပုံကို ပြန်လည် သုံးသပ်နေမိလေသည်။

ရဟတ်ယာဉ်ပေါ်မှ ဆင်းဆင်းချင်း သမ္မတ ဘရက်ဖို့ဒ်က သူမအား ဝမ်းသာအားရ ပွေ့ဖက် နှုတ်ဆက်ပုံ နမ်းရှုပ်ပုံကိုပါ ပြန်လည်သတိရမိကာ မိမိအနေဖြင့် ပထမဆုံးအဆင့် မှတ်ကျောက်တင် စစ်ဆေးခံရခြင်းကို ချောမောစွာ အောင်မြင်ခဲ့လေပြီဟု ဝမ်းမြောက် အားတက်မိလေသည်။

မော်စကိုမြို့မှ ထွက်ခွာခဲ့ရစဉ်က လေယာဉ်ပေါ်သို့ ရောက်ရောက်ချင်း အချိန်ကလည်း သူမသည် အနည်းငယ် စိုးရိမ်မိခဲ့သေးသည်။ လေယာဉ်ပေါ် ရောက်လျှင် ဘီလီနှင့် နီးစပ်သူများက မိမိအား သေချာ စေ့စပ်စွာ စစ်ဆေးကြည့်ရှုကြလေမည်လောဟု စိုးရိမ်မိခြင်း ဖြစ်သည်။

သို့သော် တကယ်တမ်း လေယာဉ်ပေါ် ရောက်သောအခါ မည်သူကမှ သူမအား ဂရုစိုက်မကြည့်ဘဲ နေခဲ့ကြသည်။ အားလုံးက သူမအား သမ္မတကတော် ဘီလီအစစ်ဟု ယူဆနေပုံရလေသည်။ ဘီလီနှင့် အလွန်ရင်းနှီးသော ပြန်ကြားရေးမှူး နိုရာဆိုလျှင် မော်စကိုမှ လေယာဉ်ထွက်ချိန်မှစ၍ တောက်လျှောက်ဆိုသလို အိပ်ပျော်နေခဲ့သည်။

ဗီရာသည် မော်စကိုမြို့တွင် ရှိစဉ်က ရာဇင်ထံမှ ကြားသိရပုံမှာ သမ္မတကတော် ဘီလီ၏ အရက်ခွက်တွင် အိပ်ဆေးခပ်သည့်အခါ နိုရာကိုပါ အိပ်ဆေးခပ်မည်ဟု သိခဲ့ရသည်။ အိပ်ဆေးအရှိန် မကုန်သေး၍ လေယာဉ်ပေါ်တွင် အိပ်ပျော်နေခြင်း ဖြစ်ဟန်တူသည်။

သတင်းစာဆရာ ပါကာနှင့် ပတ်သက်၍ ပြဿနာ မရှိခဲ့ချေ။ လေယာဉ်ထွက်ခါစက ပါကာသည် သူမထံသို့လာ၍ အပြန်ခရီးတွင် ကိုယ်ရေးအတ္ထုပ္ပတ္တိအတွက် ဆွေးနွေးချင်ပါသလားဟု မေးခဲ့ရာ သူမက ပင်ပန်း နွမ်းနယ်လွန်း၍ အနားယူချင်ကြောင်း တောင်းပန်လိုက်သည်။

ပါကာကလည်း နားလည်မှုရှိဟန်ဖြင့်

"ဟုတ်မယ်၊ ယမန်နေ့ညက ခင်ဗျားဟာ ခေါင်းတောင် မထူနိုင်ဘူး၊ ဒါကြောင့် အနားယူဖို့ အချိန်ရတုန်း ကောင်းကောင်းသာ အိပ်ပြီး အနားယူနေလိုက်တာ ကောင်းတယ်"

ဟု ပြန်ပြောကာ ထွက်သွားခဲ့လေသည်။

သမ္မတ ဘရက်ဖို့ဒ်နှင့် ရောက်ရောက်ချင်း ဆီးကြိုနှုတ်ဆက်ပြီးနောက် လူချင်း ကြာကြာ တွေ့ခွင့် မရခြင်းကလည်း ဗီရာအဖို့ တမျိုး စိတ်သက်သာရာ ရစေခဲ့လေသည်။

သမ္မတအနေဖြင့် အစည်းအဝေးတွေ ဆက်တိုက်တက်နေရသဖြင့် ထိုနေ့ညအဖို့ ညစာစားချိန် တိုင်အောင် အစည်းအဝေး ရှိနေ၍ အတူမစားနိုင်ကြောင်းကို တယ်လီဖုန်းဆက်၍ သူ၏ ရုံးခန်းမှ နေ၍ ဘရက်ဖို့ဒ်က တောင်းပန်ခဲ့သေးသည်။

ထို့ကြောင့် ဗီရာသည် ညစာစားပွဲစားရာတွင် နိုရာ၊ ပါကာတို့နှင့်အတူ စားခဲ့ရခြင်း ဖြစ်လေသည်။

ထိုနေ့က နေ့လယ်စာ စားချိန်တွင် ဗီရာသည် ဆီးနိတ်လွှတ်တော် အမတ်သုံးဦး၏ ဇနီးများနှင့်အတူ အိမ်ရှင်မအဖြစ် စားခဲ့ရသေးသည်။ ထိုနေ့လယ်စာ စားပွဲတွင်လည်း သူမသည် တကယ့် သမ္မတ ကတော် ဘီလီ၏ ဟန်မျိုးဖြင့် မော်စကိုမြို့အကြောင်းများကို ကောင်းစွာ ပြောနိုင်ခဲ့လေသည်။

မွန်းလွဲပိုင်းတွင် သူမသည် လန်ဒန်မြို့ ထိပ်သီး ဆွေးနွေးပွဲ သွားသည့်အခါ ဝတ်ဆင်မည့် အဝတ်အစားသစ်များ တီထွင်ချုပ်ရသူ လက်ဒ်ဘာရီဆိုသူက ဝတ်စုံ နမူနာများ လာရောက် ပြသလေသည်။

ဤတွင် ဗီရာသည် ဣန္ဒြေမပျက် အဝတ်အစား နမူနာများကို ကြည့်ပြီး အနည်းငယ် ပြင်ဆင်စရာ တို့ကို အကြံပေးနိုင်ခဲ့သည်။ လက်ဒ်ဘာရီက ထိုညနေပင် လေယာဉ်ဖြင့် လန်ဒန်မြို့သို့ ပြန်ပြီး ဗီရာ ရောက်လာသည့်အခါတွင် အဝတ်အစားများ အဆင်သင့် ဖြစ်နေပါစေမည်ဟု ပြောသွားလေသည်။

တဖန် သတင်းစာဆရာ ပါကာက နောက်တနေ့ လော့စ်အိန်ဂျယ်လိစ်မြို့ရောက်လျှင် သူမ ပြောရမည့် မိန့်ခွန်းမူကြမ်းကို ရေး၍ လာပြလေသည်။ ဗီရာက ဖတ်ကြည့်ပြီး ပြင်ဆင်ရန် အချက် အနည်းငယ် ပြောလိုက်ရာ ပါကာက ပြန်ပြင်ရေးပေးပါမည်ဟု ကတိပေးလေသည်။ ထိုမိန့်ခွန်းတွင် ရုရှပြည် ကွန်မြူနစ်စနစ်အောက်မှ အမျိုးသမီးများအကြောင်း

ပါရှိလေရာ ရုတ်တရက် ဗီရာသည် ပြင်ဆင်ခိုင်းမည်ဟု စိတ်ကူးလိုက်မိသေးသည်။ သို့သော် ချက်ချင်းပင် သူ့ကိုယ်သူ ပြန်သတိပေးလိုက် ရသည်။

သူမသည် ယခုအချိန်တွင် သစ္စာရှိ ဆိုဗီယက်နိုင်ငံသူတဦး မဟုတ်။

အမေရိကန်သမ္မတကတော် ဘီလီ ဖြစ်နေပါတကားဟု ဆင်ခြင်၍ အသာနေလိုက်ရ လေသည်။

မွန်းလွဲပိုင်းတွင် အားနေသဖြင့် ဗီရာသည် တရေးအိပ်လိုက်လေသည်။ ထို့နောက် သူမ၏ အိမ်ဖော် ဘာရာက လာနှိုးတော့မှ ပြန်ထပြီး အဝတ်အစား လဲလိုက်သည်။

ညစာစားချိန် မရောက်မီ သူမသည် ယမကာအရက် သောက်ချင်လာသဖြင့် ရုတ်တရက် သောက်နေကျ ရုရှအရက် ဗော့ဒ်ကာ မှာလိုက်မည် ပြုပြီးမှ ချက်ချင်းသတိရကာ သမ္မတကတော် ဘီလီသောက်နေကျ ဝီစကီနှင့် ဆိုဒါတခွက် ယူခဲ့ရန် မှာလိုက်ရလေသည်။

*

ညစာစားကြသည့် အချိန်တွင်ကား ဗီရာသည် အတော်ပင် နေသာထိုင်သာ ရှိနေပြီ ဖြစ်လေသည်။ နိုရာ၊ ပါကာနှစ်ယောက်နှင့်လည်း အလ္လာပ သလ္လာပ စကားတွေ ကောင်းစွာ ပြောနိုင်လေသည်။

နိုရာက မော်စကိုမြို့ ဂုဏ်ပြုညစာစားပွဲတုန်းက သူနှင့် သမ္မတကတော်တို့၏ အရက်ခွက်ထဲ ဆေးခပ်လိုက်လေသလောဟု သံသယဖြစ်မိကြောင်း ပြောရာ ဗီရာက ရယ်ကာမောကာဖြင့် မဖြစ်နိုင်ကြောင်း ပြောလိုက်ရလေသည်။

"ဘယ်ဖြစ်နိုင်ပါ့မလဲ နိုရာရယ်၊ ဆိုဗီယက်ဝန်ကြီးချုပ်က ဧည့်သည်တော် အမေရိကန် သမ္မတ ကတော်နဲ့ သူ့ပြန်ကြားရေးမှူးကို အရက်ခွက်ထဲ ဆေးခပ်တယ်ရယ်လို့ ဘယ်နည်းနဲ့မှမဖြစ်နိုင်ပါဘူး။ အမှန်က တို့ဟာတို့ အရက်သောက်တာလွန်ပြီး မူးကြတာပဲ"

ဤသို့လျှင် ဗီရာက ပြောလိုက်သည်။

ညစာစားနေရင်း သတင်းစာဆရာ ပါကာသည် သမ္မတကတော်၏ အိမ်ထောင် မိသားစုများ အကြောင်းကို စကားစပ် ဆွေးနွေးလေသည်။ ဤတွင်လည်း ဗီရာက ဣန္ဒြေမပျက် ပြန်လည် ဆွေးနွေးနိုင်လေသည်။ သူမကိုယ်တိုင်က သမ္မတကတော် ဘီလီ၏ မိသားစုများအကြောင်းကို

ကြိုတင်လေ့လာ မှတ်သားထားပြီး ဖြစ်ပေသည်။ ထို့ကြောင့် ဗီရာက ကွယ်လွန်သူ မိခင်ကြီးအား အထူးလွမ်းဆွတ် သတိရမိကြောင်း မုဆိုးဖိုဘ၀တွင် တယောက်တည်း ခပ်အေးအေး နေထိုင်သူ ဖခင်ကြီးအား အောက်မေ့မိကြောင်း စသည်ဖြင့် စကားကို အဆင်ပြေအောင် ပြောနိုင်လေသည်။ ပါကာက စကားစပ် ပြောဆိုဆွေးနွေးပုံမှာ မိမိအား စမ်းသပ် စစ်ဆေးနေခြင်းလေလောဟု သံသယ မရှိဖွယ် ဖြစ်သော်လည်း စင်စစ်အားဖြင့် သမ္မတကတော် ဘီလီ၏ ကိုယ်ရေးအတ္ထုပ္ပတ္တိ ရေးသားရန် အတွက် အချက်အလက် စုံစမ်းမေးမြန်းခြင်းသာ ဖြစ်မည်ဟု ဗီရာက သူ့ကိုယ်သူ နှစ်သိမ့်အားပေး လိုက်လေသည်။

ညစာစားပြီးလျှင် ရုပ်မြင်သံကြားမှ ပြသော ရုပ်ရှင်ကားဟောင်း တကားကို ကြည့်ကြရာ ဗီရာက အလွန်စိတ်ဝင်စားဟန်ဖြင့် ကြည့်နေလိုက်သည်။

ရုပ်ရှင်ပြီးသွားချိန်တွင် ပါကာက အခြားအစီအစဉ်များ ဆက်ကြည့်ချင်ပါသေးသလားဟု မေးရာ ဗီရာက လက်ပတ်နာရီကိုကြည့်ပြီး ဝါးခနဲ သမ်းလိုက်သည်။

"ဆယ်နာရီတောင် ထိုးသွားပြီ၊ ဒီနေ့အဖို့တော့ ပင်ပန်းလွန်းလို့ အနားယူချင်တယ်"

ဟု ပြောလိုက်လေသည်။

"ဟုတ်တယ်၊ ကျွန်မလည်း အနားယူချင်လှပါပြီ"

နိုရာကပါ ဝင်ပြောသဖြင့် ပါကာသည် ရုပ်မြင်သံကြားစက်ကို ပိတ်လိုက်သည်။

"နက်ဖြန် လော့စ်အိန်ဂျယ်လိစ်မြို့ကိုသွားဖို့ ဘယ်အချိန် ထွက်ကြရမှာလဲ"

ပါကာက မေးရာ ဗီရာက

"ညနေ လေးနာရီနဲ့ ငါးနာရီကြားလို့ ထင်တာပဲ"

ဟု ပြန်ပြောလိုက်လေသည်။

"ထွက်ရမယ့်အချိန်က ငါးနာရီနဲ့ ငါးမိနစ်ပါရှင့်"

နိုရာက အချိန်ကို အတိအကျ ပြောလိုက်သည်။

"နက်ဖြန်လည်း စာအုပ်အတွက် ဆွေးနွေးဖို့ အချိန်ရမှာ မဟုတ်ဘူး ထင်တယ်"

ပါကာ မေးမြန်းရာ ဗီရာက ထိုင်ရာမှထရင်း

"လောလောဆယ်တော့ စာအုပ်ကိစ္စကို ခဏထားလိုက်ဦးမှပဲ၊ လေယာဉ်ပေါ်ကျတော့ ကျွန်မ ပြောရမယ့် မိန့်ခွန်းကို ဆွေးနွေးကြတာပေါ့"

"ကဲ ဒီညအဖို့တော့ ဒါပဲနော် ဂွတ်နိုက်" ဟု စကားကို ဖြတ်လိုက်သည်။

ဗီရာသည် အမေရိကန်သမ္မတ၏ အိပ်ခန်းထဲတွင် တယောက်တည်း ရှိနေလေသည်။

ရုတ်တရက်သော် ငါသည် ရန်သူ၏ပိုင်နက်နယ်မြေအတွင်း တယောက်တည်း ရောက်နေပါတကားဟု အားငယ်သလို ဖြစ်မိလေသည်။ သို့သော် ချက်ချင်းပင် မော်စကိုမြို့မှ မထွက်ခွာမီ သက်ဆိုင်ရာမှ မှာကြားလိုက်သော အချက်တခုကို သတိရမိလေသည်။

ယင်းအချက်ကား အမေရိကန်သမ္မတ၏ အိမ်တော်ဝန်ထမ်းများအနက် ရုရှထောက်လှမ်းရေး (ကေ-ဘီ-ဂျီ) ၏ လျှို့ဝှက်လူယုံနှစ်ဦး ရှိသည်ဟူသော အချက်ပင်တည်း။ ထိုလူနှစ်ဦးက ဗီရာသည် မည်သူမည်ဝါဖြစ်ကြောင်း အမှန်ကို သိနေကြမည်ဟု ဆိုသည်။ သို့သော် ဗီရာအနေဖြင့် ထိုလူများအား တတ်နိုင်သလောက် မဆက်သွယ်ဘဲ နေပြီး တကယ် အကျဉ်းအကျပ် အရေးပေါ် ပြဿနာရှိမှသာ ဆက်သွယ်ရမည်ဟုလည်း ညွှန်ကြားလိုက်သည်။ ထိုသို့ အရေးပေါ်ကိစ္စဖြစ်လျှင် ဗီရာအား တယ်လီဖုန်းနံပါတ်တခု ပေးမည်ဖြစ်ရာ ထိုတယ်လီဖုန်းမှတဆင့် ကေ-ဂျီ-ဘီ အဖွဲ့ဝင် များနှင့် အဆက်အသွယ် ရမည်ဟု ဆိုပေသည်။

ထို့ကြောင့် ယခု လောလောဆယ်အချိန်တွင် မည်သူ့ကိုမှ ဆက်သွယ်ရန် မလိုအပ်သေးဟု ဆုံးဖြတ်ကာ ဗီရာသည် ညဝတ်အင်္ကျီတခုကို ယူ၍ လဲဝတ်လိုက်သည်။ နှစ်ယောက်အိပ် ခုတင်ကြီး ပေါ်သို့ လှဲအိပ်လိုက်ရင်း သူမသည် စိတ်ထဲမှ ကျေနပ် အားတက်နေမိလေသည်။ ယခုအချိန်အထိ မိမိ၏သရုပ်ဆောင်မှုသည် ချွတ်ယွင်းချက် တစုံတရာ မရှိဘဲ အထူးပင် အောင်မြင်နေသည် မဟုတ်ပါလား။

သူမ၏ချစ်သူ ရာဇင်ကိုလည်း သတိရမိလေသည်။ ယခုအချိန်၌ ရာဇင်သည် မော်စကိုမြို့တွင် မည်သို့ နေလေမည်နည်း။

တဖန် အမေရိကန်သမ္မတကတော်အစစ် ဘီလီအကြောင်းကိုလည်း စဉ်းစားမိပြန်သည်။ ဘီလီခမျာ သနားစရာပင် ဖြစ်နေရှာသည်။

ဤတွင် ချက်ချင်းပင် စိတ်ကို ပြန်ထိန်းလိုက်ရသည်။

ယခုအချိန်တွင် သမ္မတကတော်ဘီလီအား သနားနေ၍မဖြစ်။ မိမိကသာ သမ္မတကတော် နေရာ၌ ရောက်ရှိနေပြီး လုပ်ငန်းတာဝန် ပြီးဆုံးသည်အထိ ဆက်လက် သရုပ်ဆောင်သွားရန် အရေးကြီးသည် မဟုတ်ပါလော။

ဗီရာသည် အိပ်ရာဘေးရှိ စားပွဲပေါ်မှ အိပ်ဆေးပြားတပြားကို လှမ်းယူ၍ ရေတခွက်နှင့် သောက်ချလိုက်သည်။ အိပ်တော့မည် ပြုစဉ်မှာပင် သမ္မတဘရက်ဖို့ဒ်သည် အိပ်ခန်းတွင်းသို့ ဝင်လာလေသည်။

လာလာချင်းပင် ဗီရာအနီးသို့လာပြီး နှုတ်ခမ်းကို နမ်းရှုပ်၍ နှုတ်ဆက်လိုက်သည်။

"ဘယ့်နှယ်လဲကွယ့်၊ မော်စကိုမြို့မှာ ပျော်ရဲ့လား၊ သူတို့က ကောင်းကောင်း ဧည့်ခံရဲ့လား"

"ပျော်ပါတယ်၊ ဧည့်ခံတာလဲ ကောင်းလွန်းလို့ ကျွန်မဖြင့် ပင်ပန်းလိုက်တာ လွန်ပါရော"

ဗီရာက အလိုက်သင့် ပြန်ပြောလိုက်သည်။

သမ္မတဘရက်ဖို့ဒ်သည် အင်္ကျီအဝတ်အစားများ ချွတ်လဲနေရင်းက ညဝတ်အင်္ကျီ လဲဝတ်လိုက်သည်။ နှစ်ယောက်အိပ် ခုတင်ကြီးပေါ်သို့ လှဲအိပ်လိုက်ရင်း

"ဝန်ကြီးချုပ် ကီရင်ချင်ကိုနဲ့ကော တွေ့ခဲ့လားဟင်"

ဟု မေးပြန်သည်။

"ခပ်လှမ်းလှမ်းကပဲ တွေ့ပါတယ်၊ များသောအားဖြင့် ကျွန်မ သူ့ဇနီးနဲ့ပဲ ဆက်ဆံရပါတယ်"

ထိုအချိန်၌ သမ္မတဘရက်ဖို့ဒ် အဝတ်အစားလဲပြီး၍ ဗီရာ၏ ဘေးသို့ ရောက်လာပြီဖြစ်သည်။

"မနက်ဖြန်ဆိုရင် ကျွန်မက ခရီးထွက်ရဦးမယ်ရှင့်"

"အေး ဟုတ်သားပဲ၊ ဒါထက် ဟိုရောက်ရင် မင်းရဲ့ဖခင်ကြီးကို နှုတ်ဆက်လိုက်ကြောင်း ပြောလိုက်ပါ"

သမ္မတ ဘရက်ဖို့ဒ်သည် ပြောရင်းနှင့် ဗီရာ၏ဘေးတွင် ဝင်လှဲအိပ်လိုက်သည်။ တချိန်တည်းမှာပင် ဗီရာကို ပွေ့ဖက်၍

နမ်းရှုပ်လိုက်လေသည်။

တစိမ်းယောကျ်ားတဦးက ဤသို့ ပွေ့ဖက်နမ်းရှုပ်ခြင်း ခံရသဖြင့် စိတ်လှုပ်ရှားတက်ကြွသလို ဖြစ်လာရာ ဗီရာသည် ကြိုးစား၍ စိတ်ကို ထိန်းထားလိုက်သည်။ တဖန် မိမိ၏ ကေ-ဂျီ-ဘီ အဖွဲ့က ကြိုတင် အသိပေးထားသည့်အချက်ကို သတိရမိလေသည်။ သမ္မတကတော်ဘီလီ၏ ကျန်းမာရေး အခြေအနေအရ ဆရာဝန်က ယောကျ်ားနှင့် အတူ မအိပ်ရဟု တားမြစ်ထားသည့်အချက်ပင် ဖြစ်သည်။

ဤအတိုင်းဆိုလျှင် တော်ပါသေးရဲ့ဟု တွေးမိလေသည်။

ထိုအချိန်၌ သမ္မတဘရက်ဖို့ဒ်ကိုယ်တိုင်က စိတ်မချင့်မရဲ ဖြစ်နေဟန် တူလေသည်။

"အရေးထဲ ဆရာဝန်ရဲ့တားမြစ်ချက်ကလည်း စိတ်ညစ်ဖို့ ကောင်းလိုက်တာ၊ ဘယ်လောက် ကြာဦးမှာတဲ့လဲ"

"သိပ်မကြာတော့ဘူး ထင်ပါတယ်၊ ကျွန်မရဲ့ကျန်းမာရေး အခြေအနေ ပြန်ကောင်းလာမှာပါ"

"အင်း အဲဒီအချိန်ရောက်ဖို့ စောင့်နေရဦးမှာပေါ့၊ ကဲ ကဲ အေးအေးဆေးဆေးသာ အိပ်လိုက်ပေတော့၊ ငါလဲ ဒီနေ့ တနေ့လုံး တောက်လျှောက် ပင်ပန်းလာလို့ အိပ်လိုက်တော့မယ်"

ပြောပြောဆိုဆို သမ္မတဘရက်ဖို့ဒ်သည် တဘက်သို့ စောင်းလှည့်ပြီး အိပ်လိုက်ရာ မကြာမီ အိပ်ပျော်သွားလေတော့သည်။

ဗီရာသည် ချက်ချင်း အိပ်မပျော်နိုင်ဘဲ နောက်တနေ့ ရင်ဆိုင်ရမည့် ကိစ္စတခုအကြောင်းကို တွေးနေမိလေသည်။

နက်ဖြန်ဆိုလျှင် သမ္မတကတော်ဘီလီ၏ ဖခင်ကြီးနှင့် တွေ့ရမည်ဖြစ်ရာ ထိုအချိန်သည် သူမအဖို့ နောက်ဆုံးအဆင့် စာမေးပွဲဖြေရသလို စစ်ဆေးခံရမည့်သဘောဖြစ်သည်။ စစ်ဆေးခံ၍ အောင်မြင် သွားပါက သူမအဖို့ ဘာကိုမှ စိုးရိမ်စရာ ရှိတော့မည် မဟုတ်ချေ။

*

နောက်တနေ့ ဝါရှင်တန်မှ လော့စ်အိန်ဂျယ်လိစ်မြို့သို့အသွား လေယာဉ်ပေါ်တွင် ဗီရာသည် သတင်းစာဆရာ ပါကာကို ခေါ်၍ သူမ၏ ကိုယ်ရေးအတ္ထုပ္ပတ္တိစာအုပ်အကြောင်း ဆွေးနွေးလေသည်။

ပါကာသည် ဝမ်းသာအားရစွာဖြင့် ကက်ဆက် ရီကော်ဒါစက်တလုံးကို အနီးတွင်ချ၍ စကား ပြောလေသည်။

"နောက်ဆုံး ဆွေးနွေးခဲ့တုန်းက မော်စကိုအသွား လေယာဉ်ပေါ်မှာ တပိုင်းတစနဲ့ပဲ ရပ်လိုက်ရတယ်။ အဲဒီက ဆက်ကြရအောင်"

"ကောင်းပြီလေ၊ ကျွန်မကတော့ အဆင်သင့်ပဲ"

"အရင်တခါ ပြောတုန်းက ခင်ဗျားဟာ လော့စ်အိန်ဂျယ်လိစ်တိုင်း သတင်းစာရဲ့ သတင်းထောက် အဖြစ် လုပ်ခဲ့ဖူးတာနဲ့ ပတ်သက်လို့ စကား စခဲ့တယ်၊ အဲဒါကို ဆက်ကြရင် ကောင်းမယ် ထင်တယ်"

"ကောင်းသားပဲ၊ အဲဒီတုန်းက ကျွန်မဟာ သတင်းဆောင်းပါးတပုဒ် ရေးဖို့ တာဝန်ကျတော့ အရှက်ကွဲတော့မလို ဖြစ်ခဲ့သေးတယ်"

"ဟုတ်ကဲ့ အဲဒါကိုလည်း သိပါတယ်။ ခင်ဗျားရဲ့သတင်းဆောင်းပါးကို ဝါရင့် သတင်းစာဆရာကြီး ကီလ်ဒေက ဝင်ကူညီကယ်ခဲ့တယ် မဟုတ်လား"

"ကီလ်ဒေတွင် မဟုတ်ဘူးရှင့်၊ ကျွန်မရဲ့သတင်းဆောင်းပါးကို အစအဆုံး အသစ် ပြန်ရေးပေးတာက စတိဗ်ဝုဒ်ဆိုတဲ့လူရှင့်"

ဗီရာက ဤသို့ပြောလိုက်ရာ ပါကာသည် နားမလည်သလို ဖြစ်သွားလေသည်။

"လွန်ခဲ့တဲ့ တပတ်လောက်တုန်းက ကျွန်တော်ကိုယ်တိုင် ကီလ်ဒေနဲ့ တွေ့ပါတယ်၊ သူက ပြောတော့ ခင်ဗျားရဲ့သတင်းဆောင်းပါးကို သူ ကိုယ်တိုင် ပြန်ရေးပေးတာပါတဲ့"

"သူက ဒီလိုပဲ ပြောသလား"

"ဟုတ်ကဲ့၊ သူက ဒီအတိုင်းပဲ ပြောပါတယ်"

"ဒါဖြင့် ဒီလူကြီး မေ့နေလို့နဲ့ တူပါတယ်။ ကျွန်မက ဘယ်သူပြန်ရေးပေးတယ်လို့ သိရတဲ့ နောက်ပိုင်းမှာ ကျွန်မကိုယ်တိုင် စတိဗ်ဝုဒ်ဆီကို သွားကျေးဇူးတင်စကားတောင် ပြောခဲ့ပါသေးတယ်"

"ဪ ဟုတ်လား"

ပါကာ ဤသို့ အလိုက်သင့် ပြောလိုက်ရသော်လည်း သူ၏စိတ်ထဲတွင် အလွန်အံ့ဩမိ လေသည်။

သတင်းစာဆရာကြီး ကီလ်ဒေသည် သူနှင့် အလွန်ရင်းနှီးသဖြင့် မော်စကိုမသွားမီ တပတ်ကပင် စကားပြောခဲ့ရသေးသည်။ ကီလ်ဒေက သူကိုယ်တိုင် ဘီလီ၏သတင်းဆောင်းပါးကို ပြန်ရေးခဲ့သော် လည်း စတိဗ်ပုဒ်ဆိုသူ ရေးခဲ့ကြောင်း လုပ်ကြံပြောခဲ့သည်ဟု ဆိုသည်။ တကယ်တော့ စတိဗ်ဝုဒ် ဆိုသူဟူ၍ လုံးဝမရှိဟုလည်း ဆိုသည်။

ယခုတော့ သမ္မတကတော်က စတိဗ်ဝုဒ်ထံ ကိုယ်တိုင် သွားရောက်ခဲ့ပါသည်ဟု ပြောခြင်းမှာ အလွန်ထူးဆန်းနေပေသည်။

(မှတ်ချက်။ ။ အမှန်က ဤနေရာတွင် ဗီရာသည် စိတ်ကူးဉာဏ် သုံး၍ ပြောလိုက်ခြင်းမှာ မှားသွားခြင်း ဖြစ်သည်။)

သို့သော် ပါကာသည် ဘာမှဆက်မပြောဘဲ ကိုယ်တွေ့ အတ္ထုပ္ပတ္တိ ကိစ္စကိုသာ ဆက်လက် ဆွေးနွေးလိုက်လေသည်။

သို့ဖြစ်လင့်ကစား ပါကာစိတ်ထဲ၌ မကျေမချမ်း ဖြစ်နေမိလေသည်။

သမ္မတကတော်ဘီလီသည် အလွန် ရိုးဖြောင့်သူဖြစ်၍ လိမ်လည်ပြောလေ့ မရှိကြောင်း သူ ကောင်းစွာ သိထားသည်။ ယခုတော့ သူမသည် စတိဗ်ဝုဒ်ကိစ္စတွင် လိမ်ပြောမှန်း သိသာ ထင်ရှားနေသည်။

ဘာကြောင့်များ လိမ်ပြောပါလိမ့်ဟု ပါကာသည် စဉ်းစား၍ မရဘဲ ဖြစ်နေလေသည်။

လေ့ခ်စ်အိန်ဂျယ်လိစ်မြို့တွင် တနေကုန် အလုပ်များနေကြပြီးနောက် သူတို့အဖွဲ့သည် အထူး လေယာဉ်ဖြင့် ဝါရှင်တန်မြို့သို့ ပြန်လာခဲ့ကြလေသည်။

သတင်းစာဆရာ ပါကာသည် လေယာဉ်တနေရာတွင် တယောက်တည်းထိုင်၍ ဝီစကီတခွက် သောက်ရင်း စဉ်းစားနေလေသည်။

လေ့ခ်စ်အိန်ဂျယ်လိစ်မြို့၌ သမ္မတကတော်နှင့်အတူ လိုက်ပါသွားလာ လှုပ်ရှားနေရင်း ထူးဆန်းသော ဖြစ်ရပ်အချို့ကို ကြုံခဲ့ရလေသည်။ ထို့ကြောင့် သူ၏မှတ်စုစာအုပ်ထဲ၌ ဤသို့ ရေးမှတ်လိုက်လေ သည်။ ယနေ့ သမ္မတကတော်ဘီလီ၏ အပြုမူများသည် ထူးဆန်းလှသဖြင့် နားမလည်အောင် ဖြစ်မိသည်။

အမေရိကန် အမျိုးသမီးများအဖွဲ့ချုပ်၏ ဂုဏ်ပြု နေ့လယ်စာစားပွဲတွင် ဘီလီသည် သူမ၏ အရင်းနှီးဆုံး မိတ်ဆွေဟောင်းတဦးဖြစ်သူ အက်ဂနက်စ် အမည်ရှိ အမျိုးသမီးဘေးနားတွင် ထိုင်ရလိမ့်မည်ဟု နိုရာ ကြိုတင် ပြောထားခဲ့သည်။

နေ့လယ်စာစားပွဲသို့ ရောက်သောအခါ ဘီလီသည် အခြားအမျိုးသမီးတဦးအား "ဟဲလို အက်ဂနက်စ်" ဟု လူမှား၍ သွားနှုတ်ဆက်လိုက်သည်။ ထိုမိန်းမကလည်း အံ့အားသင့်လျက် သူသည် အက်ဂနက်စ် မဟုတ်ကြောင်း ရှက်ကိုးရှက်ကန်းနှင့် ပြန်ပြောပြီး တကယ့် အက်ဂနက်စ် အစစ်ကို ခေါ်ပေးရသည်။

ဘီလီသည် ဘာကြောင့် သူငယ်ချင်း အက်ဂနက်စ်အား မမှတ်မိလေသနည်း။

တဖန် နေ့လယ်စာ စားပွဲတွင်လည်း ထူးဆန်းသော အဖြစ်တခု တွေ့ရသေးသည်။ သမ္မတကတော် ဘီလီသည် အစားအစာ ချေးများသူဖြစ်၍ အိုက်စတာ ခေါ် ပင်လယ်ကမာကို လုံးဝ စားလေ့မရှိ၊ ထိုအကြောင်းကို ကြိုတင်ပြောထားမိသဖြင့် ထိုနေ့ နေ့လယ်စာစားပွဲတွင် ပထမဆုံး တည်ခင်းသည့် အစားအစာက အိုက်စတာ (ကမာ) ဟင်း ဖြစ်နေသည်။ ကျွန်တော်နှင့် နီရာတို့က အားနာလျက် ရှိနေစဉ် ဘီလီသည် ကမာဟင်းလျာကို အားပါးတရ ယူစားသောက်နေသဖြင့် မယုံကြည်နိုင်အောင် အံ့အားသင့်ခဲ့ရသည်။

ထို့နောက် မူလအစီအစဉ်ထဲ မပါသော ရန်ပုံငွေ ဘော့စ်ဘောကစားပွဲသို့ သွားရောက်ကြည့်ရှုရာ ဘီလီသည် နဂိုက ဘော့စ်ဘောကစားခြင်းကို အလွန်ဝါသနာပါခဲ့သူဖြစ်သော်လည်း ယခုတော့ လုံးဝ စိတ်မဝင်စားသလို ဖြစ်နေသည်။ ဤသည်မှာလည်း ထူးဆန်းလှသည်။

သူတို့၏ မိသားစုများ နေထိုင်သည့် နေအိမ်သို့ ခေတ္တဝင်လည်ကြသောအခါ ဘီလီသည် သူမ၏ ဖခင်ကြီးနှင့် ညီမငယ်ကစ်တို့အား ကောင်းစွာ နှုတ်ဆက်စကားပြောသည်။

သို့သော် တူတော်မောင် ဆယ့်လေးနှစ်သား ရီချီနှင့် တွေ့ဆုံနှုတ်ဆက်ရာတွင် ထူးဆန်းသော ဖြစ်ရပ်တခု တွေ့ရပြန်လေသည်။

"ဟဲ့ ရီချီ၊ မင်းနဲ့မတွေ့ ရတာ တစ်နှစ်ရှိသွားပြီ။ မင်းက ထွားလာလိုက်တာ"

ဘီလီက ဤသို့ပြောရာ ညီမငယ် ကစ်က

"ဟာ အစ်မကလည်း ဘာတွေလျှောက်ပြောနေတာလဲ၊ လွန်ခဲ့တဲ့ တလကပဲ အစ်မဟာ ရီချီနဲ့ တွေ့ခဲ့သေးတယ်လေ မေ့သွားပြီလား"

ဟု ပြောလိုက်တော့မှ ဘီလီက ရယ်မောလျက်

"ဟာ ဟုတ်သားပဲ၊ မေ့နေလိုက်တာ။ ဒီလိုပဲကွယ် အလုပ်ကလည်းများ၊ အသက်ကလည်း ကြီးလာတော့ မှတ်ဉာဏ် သိပ်မကောင်းတော့ဘူး"

ဟု ပြောခဲ့သည်။

သူတို့ မိသားစုအိမ်တွင် ဘီလီ အပျိုဘဝက အလွန်ချစ်သော ဟမ်လက် အမည်ရှိ ခွေးနက်ကလေး တကောင် ရှိသည်။ ဘီလီကိုယ်တိုင် မွေးကာစမှ တယုတယ မွေးခဲ့ပြီး အလွန်ချစ်ခဲ့သည်။ နောက် သူမ အိမ်ထောင်ကျသွားမှ ထားပစ်ခဲ့ရသည်။ ခွေးကလေးကလည်း ဘီလီအား အလွန်ချစ်သည်။

သို့ရာတွင် ထိုနေ့က ခွေးကလေး ဟမ်လက်ကို ခေါ်လာသောအခါ ဘီလီက ဝမ်းသာအားရ ပြေးနှုတ်ဆက်မည် ပြုသော်လည်း ခွေးသည် ခေတ္တနမ်းကြည့်ပြီးနောက် အကပ်မခံဘဲ နောက်ဆုတ် သွားသည်။ ထို့ပြင် ခွေးသည် ဘီလီအား ရန်သူ လူစိမ်းတယောက်သဖွယ် တဝုတ်ဝုတ်နှင့် ဟောင်လေသည်။

ဘီလီက ရယ်မောကာဖြင့်

"ဟဲ့ ဟမ်လက် မင်းက ငါ့ကို မေ့သွားပြီလား။ ဒီလိုဆိုရင် နောက် ငါ မင်းကို မတွေ့ဘူးသိလား"

ဟု ပြောလိုက်သည်။

ကျွန်တော်သည် ထိုအဖြစ်ကိုကြည့်ပြီး အလွန်ထူးဆန်းသည်ဟု ထင်မိသဖြင့် လေယာဉ်ကွင်းသို့ အသွားတွင် နိုရာအား တိုးတိုးတိတ်တိတ် ပြောမိပါသေးသည်။

"ဒီမယ် နိုရာ၊ ခွေးကလေးက ဘီလီကို အနားကပ်မခံဘဲ ရန်သူလိုဟောင်တာ သိပ်ထူးဆန်းတယ် နော်"

"ဟာ ရှင်ကလဲ ဘာတွေပြောနေတာလဲ၊ ခွေးက နေမကောင်းလို့ စိတ်တိုနေတာ ဖြစ်မှာပေါ့ရှင်"

နိုရာက ဤသို့ ပြောလိုက်သဖြင့် ကျွန်တော်လည်း ဆက်မပြောဘဲ နေလိုက်ရသည်။

*

လော့စ်အိန်ဂျယ်လိစ်မြို့မှ ဝါရှင်တန်မြို့ သို့ ပြန်ရောက်ချိန်မှာ အလွန်နောက်ကျနေသဖြင့် သမ္မတဘရက်ဖို့ဒ်ကိုယ်တိုင် သမ္မတကတော်အား နံနက် ဆယ်နာရီမထိုးမီ အိပ်ရာမှ မနိုးကြရန် အမိန့်ပေးထားလေသည်။

သမ္မတကိုယ်တိုင်ကမူ ခပ်စောစော အိပ်ရာမှထ၍ နံနက်ရှစ်နာရီ စတင်မည့် အစည်းအဝေးသို့ ရောက်နေလေသည်။

အစည်းအဝေးမှာ လန်ဒန်မြို့ ထိပ်သီးဆွေးနွေးပွဲသို့ မသွားမီ အာဖရိကတိုက် ဘိုအင်ဒီနိုင်ငံနှင့် ပတ်သက်၍ နောက်ဆုံး အခြေအနေများကို လေ့လာ သုံးသပ်ရန် ဖြစ်လေသည်။ လန်ဒန်မြို့၌ ဆိုဗီယက် ဝန်ကြီးချုပ်နှင့် တွေ့ဆုံဆွေးနွေးသည့်အခါတွင် သမ္မတ ဘရက်ဖို့ဒ်အနေဖြင့် အချက်အလက် ပြည့်ပြည့်စုံစုံ သိထားမှသာလျှင် ဘိုအင်ဒီနိုင်ငံ၏ အနာဂတ် ကံကြမ္မာကိစ္စကို ပိုင်နိုင်စွာ ပြောဆို ဆွေးနွေးနိုင်မည်ဖြစ်ပေသည်။

ထိုအစည်းအဝေး၌ နိုင်ငံခြားရေးဝန်ကြီး ကင်းနင်း၊ စစ်ဦးစီးချုပ် ရေတပ်ဗိုလ်ချုပ်ကြီး ရစ်ဒလီ၊ အာဖရိက ရေးရာပါရဂူ ဒီဝယ်လ်နှင့် သမ္မတ၏ အကြံပေးအရာရှိ ဂစ်ဗ် စသော ပုဂ္ဂိုလ်များ တက်ရောက်ကြလေသည်။

အကြံပေးအရာရှိ ဂစ်ဗ်က အစည်းအဝေး မစမီ သမ္မတကြီးအား သမ္မတကတော် ယမန်နေ့ညက လေ့စ်အိန်ဂျယ်လိစ်မြို့၌ မိန့်ခွန်းပြောသည်ကို ရုပ်မြင်သံကြားမှ ကြည့်၍ ချီးကျူးဖွယ် ကောင်းကြောင်း ပြောလေသည်။

သမ္မတကြီးကလည်း သဘောကျ၍ ပြုံးပြီး

"ဒါပေါ့ဗျာ ရွေးကောက်ပွဲကျရင် သူ့ကိုပါ အသုံးချရမှာပဲ" ဟု ပြောလိုက်သည်။

ထို့နောက် အာဖရိကတိုက် ဘိုအင်ဒီနိုင်ငံနှင့် ပတ်သက်၍ အခြေအနေ အရပ်ရပ်ကို အသေးစိတ် ဆွေးနွေးကြလေသည်။ ထောက်လှမ်းရေး သတင်းများကိုလည်း လေ့လာ သုံးသပ်ကြသည်။ အာဖရိကရေးရာ ပါရဂူ ဒီဝယ်လ်ကလည်း စုဆောင်းရရှိထားသော အချက်အလက်များ အပြည့်အစုံ တင်ပြလေသည်။ ထိုနိုင်ငံ၌ ဆိုဗီယက် ရုရှ၏ သြဇာပမာဏကိုလည်း လေ့လာသုံးသပ်ကြလေသည်။

အချုပ်အားဖြင့် လန်ဒန်မြို့၌ ဆိုဗီယက်ဝန်ကြီးချုပ်နှင့် တွေ့ဆုံရမည့် ထိပ်သီးဆွေးနွေးပွဲတွင် ဘိုအင်ဒီနိုင်ငံအရေးတွင် အမေရိကန်မှ အားသာအောင် အချက်အလက်များ ရှာဖွေစုဆောင်းသည့် အစည်းအဝေး ဖြစ်သည်။

မွန်းလွဲပိုင်းအချိန်တွင် ဗီရာနှင့် နီရာတို့သည် သမ္မတအိမ်တော် ထမင်းစားခန်း၌ နေ့လယ်စာ စားကြရင်း ပြန်ကြားရေးမှူး နီရာက သမ္မတကတော်အနေဖြင့် ထိုနေ့အဖို့ လုပ်စရာ အစီအစဉ် များကို ပြောပြလေသည်။

အစီအစဉ်တွေကလည်း စုံလှပေသည်။ အမျိုးသမီး ဂျာနယ်တခုအတွက် မျက်နှာဖုံးပုံအဖြစ် သုံးသည့် ဓာတ်ပုံတပုံ ရိုက်ရန်ရှိပြီး ဆက်လက်၍ နိုင်ငံခြားအဖွဲ့တဖွဲ့က သမ္မတအိမ်တော် လာရောက် လေ့လာသည်ကို

အိမ်ရှင်မအဖြစ် လိုက်ပြရမည်ဖြစ်သည်။ ထို့နောက် သူမ အတ္ထုပ္ပတ္တိစာအုပ် ထုတ်ဝေမည့် နယူးယောက်မြို့မှ စာအုပ်ထုတ်ဝေသူအား ပါကာနှင့်အတူ လက်ခံစကားပြောရန် ရှိသည်။ မွန်းလွဲပိုင်းတွင် တရုတ်သံရုံး၌ သံတမန်အရာရှိများနှင့်အတူ လက်ဖက်ရည်ပွဲတခု တက်ရမည်။ ထို့နောက် ခေတ္တနားရင်း စာတိုက်မှလာသည့် စာပေါင်းများစွာကို လေ့လာကြည့်ရန် ရှိသည်။ ညစာ မစားမီ ခေတ္တနားချိန်ရပြီး ညစာစားသည့်အခါတွင်လည်း သမ္မတဇနီးမောင်နှံက ဒီမိုကရက်တစ်ပါတီအတွက် ရန်ပုံငွေရှာပေးသူ ပုဂ္ဂိုလ်ရှစ်ဦး ဇနီးမောင်နှံတို့အား ဖိတ်ကြား၍ ညစာစားရမည်ဖြစ်သည်။

ဗီရာသည် အထက်ပါ အစီအစဉ်များကို နားထောင်ရင် ခက်ခက်ခဲခဲ ဘာမှမရှိဟု စိတ်ထဲမှာ ကောက်ချက်ချလိုက်မိသည်။

ထို့နောက် နိုရာက သူမအား သတင်းစာဖြတ်ပိုင်းများ ပါရှိသော ဖိုင်တွဲတခုကို ပေးပြန်သည်။ ထိုဖြတ်ပိုင်းများမှာ ယမန်နေ့က လေ့စ်အိန်ဂျယ်လိစ်မြို့တွင် ရုပ်မြင်သံကြားမှတဆင့် သူမ မိန့်ခွန်း ပြောဆိုခဲ့ခြင်းနှင့် ပတ်သက်၍ သတင်းစာဆရာများက ရေးသားဖော်ပြပုံကို ဖြတ်တောက် ဖိုင်တွဲထားခြင်းပင် ဖြစ်သည်။

ဗီရာသည် သတင်းစာဖြတ်ပိုင်းများကို ကြည့်ရင်း ကြည်နူးပီတိဖြစ်မိလေသည်။ ရုရှပြည်မှာနေစဉ်က သူမသည် ပြဇာတ်မင်းသမီးအဖြစ် ယခုလို သတင်းစာဆရာများက အသားပေး ရေးသားခဲ့ခြင်း မခံခဲ့ရဖူးသဖြင့် ဝမ်းမြောက် ကျေနပ်မိခြင်း ဖြစ်လေသည်။

"နောက်တခုက လန်ဒန်မြို့မသွားခင် နက်ဖြန်တစ်ရက်ပဲ အချိန်ရှိတော့တယ်။ ခရီးသွားဖို့ ပြင်ဆင်ရမယ့် အပြင် နက်ဖြန်အတွက် အစီအစဉ်တွေကလည်း ပြည့်နေပါတယ်။ ဒါကြောင့် နက်ဖြန် အစီအစဉ်ကို ကြိုတင်လေ့လာထားရင်ကောင်းမယ်ထင်ပါတယ်"

နိုရာကပြောရင်း နောက်တနေ့အတွက် အစီအစဉ်စာရွက်ကိုပါ လှမ်းပေးလိုက်သည်။

ဗီရာသည် အစီအစဉ်စာရွက်ကို ဖတ်ကြည့်နေရင်း ညနေ လေးနာရီအချိန် ဒေါက်တာဆာဒက်နှင့် တွေ့ဆုံရန် အစီအစဉ်ကို သတိပြုမိသည်။ ဒေါက်တာဆာဒက်ဆိုသူကလည်း မီးယပ်နှင့် သားဖွားဘက်ဆိုင်ရာ အထူးကုပါရဂူတဦးဖြစ်သည်။

ဘာကြောင့် ထိုဆရာဝန်နှင့် တွေ့ဆုံရန် ချိန်းထားသည်ကို သူမအနေဖြင့် ရုတ်တရက် စဉ်းစား၍ မရအောင် ဖြစ်နေမိလေသည်။

ထို့ကြောင့် နိုရာအား စကားတောက်ကြည့်သလို မေးကြည့်ရန် ဆုံးဖြတ်လိုက်သည်။

"နေပါဦး နိုရာရဲ့ ဒေါက်တာ ဆာဒက်နဲ့ တွေ့ဆုံဖို့က အရေးကြီးလို့ ထည့်ထားတာလား"

"ဪ ဘီလီကလဲ မေ့နေပြီထင်တယ်။ မော်စကိုမသွားခင်က ဒေါက်တာ ဆာဒက်နဲ့ တကြိမ် တွေ့ပြီးတော့ ပြန်လာလာချင်း တကြိမ် ပြန်တွေ့ဖို့ ဘီလီပဲ ကျွန်မကို ညွှန်ကြားထားခဲ့တယ် မဟုတ်လား။ ဒေါက်တာကြီးကလည်း ဘီလီနဲ့ ပတ်သက်လို့ စမ်းသပ်ချက်တွေ အဖြေပေါ်တော့မှာမို့ ထပ်တွေ့ဖို့ လိုတယ်လို့ ပြောပါတယ်"

"ဪ ဟုတ်သားပဲ။ ကိုယ့်ဟာကိုယ် မေ့နေလိုက်တာ"

ဤသို့ ဗီရာက အလိုက်သင့် ပြန်ပြောလိုက်ရသော်လည်း သူမ၏ စိတ်ထဲတွင်ကား မီးယပ်အထူးကု ပါရဂူနှင့် တွေ့ဆုံရသည့်ကိစ္စ၊ စမ်းသပ်ချက်များ ကိစ္စသည် ဘာမှန်းမသိပါချေ။

နိုရာသည် သမ္မတအိမ်တော် သတင်းစာကွန်ဖရင့်တွင် သွားရောက်ကူညီ ဆောင်ရွက်ပေးစရာ ရှိပါသည်ဟုဆိုကာ နိုရာက ထွက်သွားသဖြင့် ဗီရာသည် တယောက်တည်း ကျန်ရစ်လေသည်။

ဤတွင် သူမသည် ယခုအချိန်အထိ မိမိသရုပ်ဆောင်မှုကို ပြန်လည် ဝေဖန် သုံးသပ်ကြည့်နေမိလေ သည်။ မိမိသည် မှတ်ကျောက်တင် စမ်းသပ်မှုအတော်များများကို ကျော်လွှားအောင်မြင်ခဲ့သော်လည်း ချွတ်ယွင်းချက် အသေးအဖွဲများတော့ ရှိခဲ့သည်။ သမ္မတကတော်အစစ် ဘီလီ၏ဖခင်နှင့် သမီး (ညီမငယ်) တို့က မိမိအား လုံးဝ သံသယရှိပုံ မရချေ။ သို့သော် ဟမ်လက်အမည်ရှိခွေးက မိမိသည် သူ့သခင်မ ဘီလီအစစ် မဟုတ်ကြောင်းသိ၍ လက်မခံဘဲ ဟောင်ခဲ့သည်။ သို့သော် တိရစ္ဆာန် တကောင်က လက်မခံခြင်းသည် အရေးကြီးသည်ဟု မဆိုနိုင်ချေ။

ယခုတဖန် မီးယပ်အထူးကု ဆရာဝန် ဒေါက်တာဆာဒက်နှင့် တွေ့ဆုံ၍ ဒေါက်တာကြီးက မိမိအား ခန္ဓာကိုယ်ကို အသေးစိတ် စစ်ဆေးကြည့်လျှင် မည်သို့နေမည်နည်း။

ထိုဆရာဝန်ကြီးနှင့် ဘီလီတို့ မော်စကိုမြို့ မသွားမီက တွေ့ဆုံခဲ့ကြသည်ဆိုခြင်းမှာလည်း မည်သည့် ရောဂါမျိုးနှင့် ပတ်သက်လေသနည်း။

ဤမေးခွန်းများ၏ အဖြေကို မသိသဖြင့် ဗီရာသည် စိုးရိမ်မိလာလေသည်။

အရေးပေါ်ကိစ္စရှိလျှင် တယ်လီဖုန်းဆက် အကူအညီတောင်းရန် ကေ-ဂျီ-ဘီက ပေးထားသော လျှို့ဝှက် တယ်လီဖုန်းနံပါတ်သို့ ဆက်လိုက်လျှင် ကောင်းမည်လော။

ဘာပဲဖြစ်ဖြစ် အဖြစ်မှန်ကို သိရအောင် လှမ်းဆက်လိုက်မည်ဟု ဆုံးဖြတ်လိုက်သည်။

တယ်လီဖုန်းဆက်ရမည့် အစီအစဉ်ကလည်း အတော်ရှုပ်ထွေးလေသည်။

သမ္မတကတော်၏ တယ်လီဖုန်း အဝင်အထွက် အားလုံးကို ဗဟို စက်ခလုတ်ခုံမှ အော်ပရေတာ တဦးထံမှ တဆင့်သွားရသည်။ ဗီရာက အော်ပရေတာအား နံပါတ်တခုပေး၍ ဆက်ခိုင်းရမည်။ တဘက်မှ ပြန်ဖြေသည့်အခါ သူမက 'မစ္စတာဆမစ်နဲ့ တွေ့ချင်ပါတယ်' ဟု ပြောလိုက်ရမည်။ ထိုအခါမှ တဘက်မှလူက နံပါတ်မှားနေပါတယ်ဟု ပြန်ပြောမည်။ ဗီရာသည် ဒုတိယအကြိမ် နံပါတခု တောင်းလိုက်ရမည်။ ဤတွင်လည်း နောက်ထပ် တဘက်မှ နံပါတ်မှားနေတယ်ဟု ပြန်ပြောမည် ဖြစ်သည်။

ထိုအခါ ကေ-ဂျီ-ဘီ ထောက်လှမ်းရေးက ဗီရာတွင် အရေးပေါ် အကူအညီ လိုနေပြီဟု သိသွားမည် ဖြစ်ပြီး သမ္မတအိမ်တော်အတွင်းရှိ ကေ-ဂျီ-ဘီ ထောက်လှမ်းရေးလူယုံက ဗီရာထံသို့ လာရောက် ဆက်သွယ်မည်ဖြစ်သည်။ ထိုလူက သူသည် ကေ-ဂျီ-ဘီလူဖြစ်ကြောင်း သိရန်အတွက် ဒစ္စနေလင်း ဟူ၍ စကားဝှက်ပြောမည်ဖြစ်သည်။ ဗီရာက ထိုလူအား အခက်အခဲပြဿနာကို ခပ်တိုတိုတုတ်တုတ် ပြောပြလိုက်ရမည်ဖြစ်ပြီး ထိုလူသည် နောက်ပိုင်းမကြာမီ ပြဿနာ ဖြေရှင်းရန် နည်းလမ်း အကြံဉာဏ်များ လာပေးမည်ဖြစ်သည်။

ဤကား မော်စကိုမြို့မှ ထွက်မလာမီကပင် အရေးပေါ် အကူအညီလိုလျှင် တယ်လီဖုန်းဆက်သွယ်ရန် ကြိုတင် ပြုလုပ်ထားသည့် အစီအစဉ်ပင်ဖြစ်သည်။

ဗီရာသည် လက်ပတ်နာရီကို ကြည့်လိုက်ရာ နိုရာနှင့် နိုင်ငံခြား ကျောင်းသားအဖွဲ့ လာရန် မိနစ်နှစ်ဆယ် လိုသေးကြောင်း တွေ့ရသဖြင့် ကေ-ဂျီ-ဘီ အဖွဲ့မှ ပေးထားသော နံပါတ်သို့ တယ်လီဖုန်း ဆက်လိုက်လေသည်။ တဘက်မှလည်း လျှို့ဝှက်အစီအစဉ်အတိုင်း တယ်လီဖုန်း နံပါတ် မှားနေပါတယ်ဟု ပြန်ပြောသည်။ ဗီရာသည် နောက်တကြိမ် ထပ်ဆက်လိုက်ရာ ထိုနည်းတူစွာပင် နံပါတ်မှားနေကြောင်း တဘက်မှ ပြန်ပြောသည်။ ဤတွင် မိမိဘက်မှ တာဝန်ကုန်ပြီဟု ဗီရာက တယ်လီဖုန်း စကားပြောခွက်ကို ပြန်ချလိုက်သည်။

မိမိတို့ ကေ-ဂျီ-ဘီ အဖွဲ့မှ တယောက် လာဆက်သွယ်ရန်အထိ စောင့်နေရန်သာ ရှိတော့သည်။

ဤသမ္မတအိမ်တော်ကြီးအတွင်း မိမိတို့ဘက်က လူယုံတဦး ရှိနေပြီဟု သေချာသွားသဖြင့် သူမသည် အနည်းငယ် စိတ်ဓာတ် ပြန်တက်လာမိသည်။

မည်သူက မည်သည့်အချိန်တွင် မည်သို့ မည်ပုံ ဆက်သွယ်မည်ကိုကား သူမအနေဖြင့် မသိချေ။

အချိန်တန်၍ လာရောက်ဆက်သွယ်လျှင်ကား နောက်တနေ့ မီးယပ်သားဖွား အထူးကုဆရာဝန် ဒေါက်တာ ဆာဒက်နှင့် တွေ့သည့်အခါ မိမိက ဘာအချက်တွေ သိထားဖို့လိုပါသနည်းဟု မေးရန် စိတ်ကူးထားလေသည်။

ဗီရာသည် နိုရာနှင့် နိုင်ငံခြား ကျောင်းသားများအဖွဲ့ အလာကို စောင့်နေရင်း စိတ်ထဲမှာ ဂနာမငြိမ်သလို ဖြစ်နေသည်။ ဘာလုပ်ရမှန်းမသိ ဖြစ်နေစဉ်မှာပင် တယ်လီဖုန်း ခေါင်းလောင်းသံက စူးရှစွာ မြည်လာလေသည်။

ဗီရာလည်း ချက်ချင်း ထ၍ တယ်လီဖုန်းကို ကိုင်လိုက်သည်။

"ဟဲလို ဘယ်သူပါလဲ"

"မစ္စစ်ဘရက်ဖို့ဒ်ပါလားခင်ဗျား"

"ဟုတ်ပါတယ်၊ ကျွန်မပါပဲ"

"ကျွန်တော်က မီးဖိုခန်းက ထမင်းချက် မောရစ်ပါခင်ဗျ"

တဘက်မှ ဤသို့ ပြန်ပြောလိုက်လျှင် ဗီရာသည် ပြင်သစ်လူမျိုး ထမင်းချက် မောရစ်ဆိုသူကို မှတ်မိလေသည်။ ယခင်က လူချင်း နှစ်ကြိမ်တွေ့ဖူးခဲ့သည်။

"ဟုတ်ကဲ့ မောရစ်၊ ဘာကိစ္စများလဲ"

"ညစာအတွက် ဟင်းလျာအစီအစဉ်ကို ခဏလာပြီး တိုင်ပင်ဆွေးနွေးချင်ပါတယ်"

"ဒါက မလိုပါဘူးရှင်၊ ညစာကို သင့်လျော်သလို ရှင့်သဘောအတိုင်းသာ စီစဉ်ပါတော့"

ဗီရာက စိတ်မရှည်သလို ပြန်ပြောလိုက်သည်။

"မဟုတ်ဘူးခင်ဗျ၊ ကျွန်တော် နောက်တခု ပြောလိုတာက ဒစ္စနေလင်း အကြောင်းကိစ္စပါ"

ဤတွင် သူမသည် ချက်ချင်း သတိရမိလေသည်။ ဒစ္စနေလင်း ဆိုသည်မှာ

ကေ-ဂျီ-ဘီ လူယုံ ပြောရမည့် စကားဝှက်ပင်ဖြစ်သည်။

ပြင်သစ်လူမျိုး ထမင်းချက် မောရစ်သည် မိမိတို့ ကေ-ဂျီ-ဘီ ရုရှ ထောက်လှမ်းရေး၏ အတွင်းသူလျှို ဖြစ်နေပါကလား။

ဗီရာသည် တယ်လီဖုန်းထဲသို့

"ကောင်းပြီလေ၊ ညစာအစီအစဉ်ကို ကျွန်မနဲ့ ခဏလာထိုင်ပြီး တိုင်ပင်ရင် ကောင်းမယ်ထင်တယ်၊ ဒီတော့ ရှင် အခုပဲ လာခဲ့ပါ။ ကျွန်မက သမ္မတကြီးရဲ့ဧည့်ခန်းထဲမှာ ရှိနေပါမယ်"

ဟု ပြောရင်း စကားပြောခွက်ကို ပြန်ချလိုက်သည်။

ဗီရာသည် စိတ်တွေ အထူးလှုပ်ရှားနေမိလျက် အိပ်ခန်းတွင်းသို့ ဝင်ပြီး အဝတ်အစား လဲရင်း အိမ်ဖော်မိန်းကလေး ဆာရာအား နိုရာထံသို့ စေလွှတ်ပြီး မိနစ်အနည်းငယ် နောက်ကျမှ လာရန် ပြောခိုင်းလိုက်သည်။

မကြာမီ ပြင်သစ်လူမျိုး ထမင်းချက် မောရစ် ရောက်လာလေသည်။

ဗီရာသည် အခန်းတံခါးကို သေချာစွာပိတ်ပြီးမှ မောရစ်နှင့် လူချင်း နီးကပ်စွာ ထိုင်၍ ခပ်တိုးတိုး ပြောလေသည်။

"အကြီးအကျယ် ပြဿနာပေါ်နေပြီရှင့်"

"ဟုတ်ကဲ့ ပြောပါ၊ ကျွန်တော် နားထောင်ပါမယ်"

"နက်ဖြန်ညနေ လေးနာရီအချိန်မှာ ကျွန်မက မီးယပ်သားဖွား အထူးကု ဆရာဝန်ကြီး ဒေါက်တာ ဆာဒက်နဲ့ သွားတွေ့ဖို့ ရှိတယ်။ အဲဒါ ဘာကြောင့် သွားတွေ့ရတယ်ဆိုတာ ကျွန်မ ကြိုတင် သိထားမှ ဖြစ်မယ်။ ဒီလိုမှမဟုတ်ရင် ကျွန်မ ခြေလှမ်းမှားသွားနိုင်တယ်"

"ဟုတ်ကဲ့ နားလည်ပါပြီ"

မောရစ် ခပ်တည်တည်ပြန်ပြောလေသည်။

"ကျွန်မ အသေးစိတ်သိချင်တယ်ရှင့်"

"ကျွန်တော် သတင်းပို့ပါ့မယ်"

"နောက်တခုက ဒေါက်တာ ဆာဒက်ဟာ ကျွန်မကို အသေးစိတ် စစ်ဆေးကြည့်ဖို့ များတယ်။ ရှင်းရှင်းကတော့ ကျွန်မရဲ့မိန်းမကိုယ်အတွင်းကိုပါ

စစ်ဆေးချင် စစ်ဆေးမယ်။ သူဟာ သမ္မတ ကတော်ဘီလီရဲ့ကိုယ်ကိုလည်း အလားတူ စမ်းသပ်ကြည့်လိမ့်မယ်။ ဒီတော့ ကျွန်မကို စစ်ဆေး ကြည့်လိုက်ရင် ကိုယ်အတွင်းပိုင်းက ဟိုမိန်းမနဲ့ မတူတာကို တွေ့ချင် တွေ့သွားနိုင်တယ်။ စုံထောက်တွေက လက်ဗွေပုံစံကို ကြည့်ပြီး လူတယောက်နဲ့တယောက် ခြားနားချက်ကို သိသလို မီးယပ်သားဖွားအထူးကု ဆရာဝန်ဆိုတာလည်း မိန်းမကိုယ်အတွင်းဘက် စစ်ဆေးကြည့်လိုက်ရင် မတူတဲ့အချက် ရှိတာကို တွေ့သွားနိုင်တယ်။ ဒါနဲ့ပတ်သက်လို့ ကျွန်မအဖို့ အန္တရာယ်ရှိနိုင်တယ်။ ဒါကြောင့် ဖြစ်နိုင်ရင် ဒေါက်တာဆာဒက်က ကျွန်မကို အတွင်းကျကျ မစစ်ဆေးရင် အကောင်းဆုံးပဲ။ ရှင် သဘောပေါက်ရဲ့လားဟင်"

"ဟုတ်ကဲ့ သဘောပေါက်ပါတယ်၊ ဒီနေ့ည ကျွန်တော်က အားလုံး လိုအပ်တာတွေ လုပ်ထားပါမယ်။ နက်ဖြန်မနက်ကျတော့ အကြောင်းပြန်ပါမယ်။ ဘာမှ မစိုးရိမ်ပါနဲ့။ ဒီနေ့ ညစာကိုသာ စိတ်ချမ်းသာစွာနဲ့စားပါ"

ပြောပြောဆိုဆို ထမင်းချက် မောရစ်သည် ညစာဟင်းလျာ အစီအစဉ်စာရွက်ကို ယူ၍ ပြန်ထွက်သွားလေသည်။

ဗီရာလည်း ရင်ထဲမှာ အနည်းငယ် ပေါ့ပါးသွားလို ဖြစ်မိလေသည်။ ထိုနေ့ညဘက် အိပ်ခန်းထဲတွင် သမ္မတဘရက်ဖို့ဒ်နှင့် နှစ်ယောက်တည်းရှိစဉ် ဗီရာသည် နိုင်ငံရေးသတင်း နှိုက်ကြည့်ရန် ကြိုးစားလေသည်။

"ဘယ့်နှယ့်လဲရှင့်၊ ထိပ်သီးဆွေးနွေးပွဲမှာ ရုရှတွေကို ရင်ဆိုင်ဖို့ ရှင် အဆင်သင့်ဖြစ်နေပြီလား"

ဗီရာက အိပ်ရာပေါ်လှဲအိပ်ရင်း စကားစလိုက်သည်။

"အခုတော့ မဖြစ်သေးဘူး၊ ဒါပေမဲ့ ဆွေးနွေးပွဲမစခင် အဆင်သင့်ဖြစ်မှာပါပဲ"

"တဘက်နဲ့တဘက် ထိပ်တိုက်ပြောကြဆိုကြရမှာလား"

"ဒါလဲ အတိအကျ မပြောနိုင်သေးဘူး"

"ပြေလည် ချောမောအောင် စေ့စပ်ညှိနှိုင်းရဖို့ မျှော်လင့်ချက်များ ရှိလားဟင်"

"ရှိပါစေလို့ မျှော်လင့်ရတာပဲ"

ပြောရင်းနှင့် သမ္မတဘရက်ဖို့ဒ်သည် အိပ်ရာပေါ် တက်အိပ်ရင်း ဗီရာအား ပွေ့ဖက်နမ်းရှုပ်လေသည်။ သူ၏ လက်နှစ်ဘက်ကလည်း ဗီရာ၏ကိုယ်တွင် လျှောက်စမ်းနေသည်။

"နက်ဖြန်တွက် စိုးရိမ်နေပုံရတယ်"

သမ္မတက စကားစလိုက်ပြန်သည်။

"နည်းနည်းပါးပါး စိုးရိမ်တာပါ။ မီးယပ်သားဖွား အထူးကုဆရာဝန်နဲ့ သွားတွေ့ရမှာဆိုတော့ စိတ်ထဲက တမျိုးတော့ ဖြစ်တာပေါ့ရှင်"

"မဖြစ်ပါနဲ့ ဘီလီရယ်၊ အိုကေသွားမှာပါ။ ဘာမှမစိုးရိမ်ပါနဲ့။ ဆရာဝန်ကစစ်ဆေးပြီးရင် ဆုံးဖြတ်ချက် ပေးပါလိမ့်မယ်။ ဘာကြီးဖြစ်ဖြစ် စိတ်မပူပါနဲ့ကွယ်၊ ကဲ အိပ်တော့နော် ဂွတ်နိုက်"

"ဟုတ်ကဲ့ ဂွတ်နိုက်"

ဤသည်နှင့် စကားစပြတ်သွားကြလေသည်။

ဗီရာသည် ကေ-ဂျီ-ဘီနှင့် အဆက်အသွယ် ရပြီးကြောင်းကို တွေးမိပြီး စိတ်အားတက်လာမိ ပြန်သည်။

ယခုဆိုလျှင် မိမိသိလိုသောအချက်များကို ကေ-ဘီ-ဂျီ ထောက်လှမ်းရေးမှ လူများက စုံစမ်းနေပြီ ဖြစ်သည်။ မိမိအနေဖြင့် ဘာကြောင့် ဒေါက်တာ ဆာဒက်နှင့် သွားတွေ့ရသည်ဟူသော အကြောင်းကိုပါ ကေ-ဂျီ-ဘီ က စုံစမ်း၍ အကြောင်းပြန်မည်ဟု ဆိုထားသည်။ ကေ-ဂျီ-ဘီ ထောက်လှမ်းရေးအဖွဲ့အနေဖြင့် အစွမ်းထက်၍သာ ယခု မိမိအား သမ္မတကတော်အဖြစ် အမေရိကန် သမ္မတအိမ်တော်တွင် လူစားထိုးထားနိုင်ခဲ့သည် မဟုတ်ပါဘလား။

ထို့ကြောင့် ကေ-ဂျီ-ဘီ အဖွဲ့၏ အစွမ်းကို မည်သို့မျှ ယုံမှားသံသယ ဖြစ်စရာအကြောင်း မရှိချေ။

နက်ဖြန်နံနက်ဆိုလျှင် မိမိအနေဖြင့် အသေးစိတ် အချက်အလက်များကို မလွဲမသွေ သိရတော့မည် ဖြစ်ပေသည်။

မည်သို့မျှ စိုးရိမ်ကြောင့်ကြနေစရာလည်း မလိုချေ။ ဤသို့လျှင် စိတ်အားတက်စရာများကို စဉ်းစားရင်း ဗီရာသည် စိတ်ချလက်ချ အိပ်လိုက်လေသည်။

*

## အခန်း ( ၅ )

ညသန်းခေါင်ယံအချိန်ဖြစ်၍ ဝါရှင်တန်မြို့ ဒဖလမ်းရှိ ဆယ်ထပ်တိုက် အဆောက်အအုံကြီး တွင် စီးပွားကုန်သွယ်ရေး ကုမ္ပဏီကြီးများ၊ ရုံးခန်းများ၊ ရှေ့နေရုံးခန်းများ၊ အထူးကုဆရာဝန်ကြီးများ ၏ ဆေးကုခန်းများ ရှိသဖြင့် လူဝင်လူထွက် သွားလာ ရှုပ်ထွေးနေတတ်ပေသည်။ ထိုအဆောက်အအုံ၏ လေးထပ်တွင် မီးယပ်နှင့်သားဖွားအထူးကု ဆရာဝန်ကြီး ဒေါက်တာဆာဒက်၏ ဆေးကုခန်းရှိလေသည်။

တိုက်အဆောက်အအုံတံခါးဝ ဝင်ပေါက်တွင် ယူနီဖောင်းဝတ် အစောင့်တဦးသည် စားပွဲတလုံးနှင့် ထိုင်နေလေသည်။ ယခုလို ညအချိန်တွင် ဧည့်သည်များလည်း မရှိသဖြင့် လုံခြုံရေးအစောင့်သည် စိတ်အေးလက်အေး ထိုင်နေစဉ် သန့်ရှင်းရေး အလုပ်သမားဝတ်စုံနှင့် လူနှစ်ယောက်သည် ပစ္စည်းကိရိယာများဖြင့် ရောက်လာသဖြင့် အံ့ဩမိလေသည်။

လူနှစ်ယောက်အနက် တယောက်က လူငယ်ဖြစ်ပြီး ကျန်တယောက်က လူလတ်ပိုင်း ဖြစ်လေသည်။

"လေးထပ်က ရုံးခန်းတခန်းမှာ သန့်ရှင်းရေးလုပ်ဖို့ အရေးတကြီး ခေါ်ထားလို့ လာတာပါခင်ဗျ"

လူငယ်က ဤသို့ပြောရာ လုံခြုံရေးအစောင့်သည် သင်္ကာမကင်း ဖြစ်မိသဖြင့် သက်ဆိုင်ရာသို့ တယ်လီဖုန်း ဆက်မေးရန် ဆုံးဖြတ်လိုက်သည်။

သို့သော် သူ၏လက်က တယ်လီဖုန်း မကိုင်မိသေးခင် သန့်ရှင်းရေး အလုပ်သမား လူငယ်က ရုတ်တရက်ကြီး ခြောက်လုံးပြူး သေနတ်တလက်ဖြင့် ထုတ်ပြီး ချိန်ထားလိုက်သည်။

လုံခြုံရေး အစောင့်လည်း မျက်လုံးပြူးသွားကာ မတုန်မလှုပ် ရပ်ကြည့်နေမိလေသည်။

"ဒီမယ် ကျုပ်တို့ခိုင်းတာသာ ကောင်းကောင်းလိုက်နာရင် ခင်ဗျား ဘာမှ မဖြစ်စေရပါဘူး။ ကဲ လာ အပေါ်ထပ်ကို တက်ကြမယ်"

ပြောပြောဆိုဆို သူတို့သည် လုံခြုံရေးအစောင့်ကို သေနတ်ဖြင့်ချိန်၍ ဓာတ်လှေကားမှတဆင့် အဆောက်အအုံ၏ (၈) ထပ်သို့ ခေါ်သွားလေသည်။

အပေါ်ထပ်ရောက်သောအခါ အမျိုးသမီး အိမ်သာအခန်းတခန်းသို့ ဝင်၍ လုံခြုံရေးအစောင့်အား သေချာစွာ ကြိုးဖြင့် တုပ်နှောင်ပြီး ပါးစပ်တွင်လည်း မအော်နိုင်ရန် ပလာစတာတိတ်ဖြင့် ပိတ်ဆို့ ကပ်ထားလိုက်သည်။ မည်သို့မှ လှုပ်ရှားထွက်ပြေး၍ မရအောင် အိမ်သာခန်းထဲတွင် ကြိုးဖြင့် ခိုင်မာစွာ တုပ်နှောင်ထားလိုက်လေသည်။

ထို့နောက် လူနှစ်ယောက်သည် အဆောက်အအုံ လေးထပ်ရှိ အထူးကုဆရာဝန်ကြီး ဒေါက်တာ ဆာဒက်၏ ဆေးခန်းသို့ သွားကြလေသည်။

ထိုအခန်းမှာ သော့ခတ်ထားသော်လည်း လူလတ်ပိုင်းအရွယ် အလုပ်သမားက တစ်မိနစ်အတွင်း သော့တုဖြင့် ဖွင့်လိုက်လေသည်။

(မှတ်ချက်။ ။ ထိုနှစ်ဦးကား ကေ-ဂျီ-ဘီ ထောက်လှမ်းရေးမှ လူပင်ဖြစ်သည်။)

ဆေးကုခန်းအတွင်းရှိ ရုံးခန်းတွင်ကား လူနာများ၏ မှတ်တမ်းဖိုင်များရှိရာ ထိုလူနှစ်ယောက်သည် သမ္မတကတော်ဘီလီ၏ မှတ်တမ်းဖိုင်ကို ရှာဖွေ၍ ဖတ်ကြည့်ကြလေသည်။

ထိုဖိုင်ထဲ၌ နောက်တနေ့ ညနေလေးနာရီတွင် သမ္မတကတော်သည် ဆရာဝန်နှင့် လာတွေ့ရန် ချိန်းထားကြောင်း တွေ့ရလေသည်။ သူတို့သည် ထိုမှတ်တမ်းဖိုင်ကို သေချာစွာ ဖတ်ရှုလေ့လာကြ ပြီးနောက် အခြားအမျိုးသမီး လူနာခြောက်ဦးတို့၏ ဖိုင်များကိုလည်း ယူ၍ ကြည့်ပြန်သည်။

ထိုလူနာ ခြောက်ဦးအနက် ရောဂါ အရေးကြီးပုံရသော အမျိုးသမီး မဂ္ဂီဆိုသူဖိုင်ကို သေချာစွာ လေ့လာပြီးနောက် ဒေါက်တာ ဆာဒက်၏အိမ်သို့ တယ်လီဖုန်း လှမ်းဆက်လိုက်သည်။

အမျိုးသမီး၏ ခင်ပွန်း ဟန်ဆောင်ကာ မစ္စက်မဂ္ဂီသည် ရုတ်တရက် ပြင်းစွာ နာကျင်ကိုက်ခဲနေ၍ လူးလိမ့်နေကြောင်း၊ ဒေါက်တာကိုယ်တိုင် အမြန်လာကြည့်ပေးပါရန် တောင်းပန်လိုကြောင်း အရေးတကြီး ပြောလိုက်သည်။

တဘက်မှ ဒေါက်တာ ဆာဒက်သည် လူနာ မစ္စက်မဂ္ဂီကို သိနေသဖြင့် သူကိုယ်တိုင် လာကြည့်ပါမည် ဟု ကတိပေးလိုက်လေသည်။

တဖန် သူတို့သည် တယ်လီဖုန်းနံပါတ်တခုသို့ လှည့်လိုက်ပြန်သည်။

တဘက်မှ ပြန်ပြောသံကြားသည်နှင့်

"ကျုပ်တို့က ဂျီနဲ့အိုင်ဖြစ်ပါတယ်။ စစ်ဆင်ရေး အဆင့် (၂) ကို အသင့်

ပြင်ထားပေတော့"

"ဘယ်တော့လဲ"

"အခုပါပဲ၊ ဆရာဝန်က အရေးပေါ်လူနာ ကြည့်ဖို့ ထွက်လာလိမ့်မယ်၊ နောက် နာရီဝက်အတွင်း ရောက်လာလိမ့်မယ်လို့ ဆိုတယ်။ သူသွားကြည့်မယ့်လူနာရဲ့လိပ်စာကို အခုပြောပါမယ် မှတ်ထားပါ"

ဤသို့ပြောပြီး မှတ်တမ်းဖိုင်ထဲမှ မစ္စက်မဂ္ဂီဆိုသူ၏ လိပ်စာကို ပြောပြလိုက်သည်။

တဘက်မှလူက

"အိုကေ လိပ်စာကို ရပါပြီ။ စိတ်သာချ ကျုပ်တို့ ကြည့်လုပ်လိုက်မယ်" ဟု ပြောကာ စကားဖြတ်လိုက်သည်။

သန့်ရှင်းရေး အလုပ်သမား ဟန်ဆောင်လာသူ ကေ-ဂျီ-ဘီ အဖွဲ့ဝင် နှစ်ဦးသည် ဒေါက်တာ ဆာဒက်၏ ရုံးခန်းတွင် လက်ရာခြေရာ မပျက်ဘဲ ပြန်ထားလိုက်ပြီးနောက် အေးအေးဆေးဆေးပင် ပြန်ထွက်သွားကြလေသည်။

*

သမ္မတအိမ်တော်၏ အပေါ်ထပ်အခန်းတခန်းတွင် ဗီရာသည် ပြန်ကြားရေးမှူး နိုရာနှင့်အတူ လုပ်ရမည့် အစီအစဉ်များအကြောင်း ဆွေးနွေးနေကြသည်။ နိုရာက သမ္မတကတော်အနေဖြင့် ဘယ်အချိန် ဘာလုပ်ရမည် စသည်ဖြင့် စာရွက်ကို ကြည့်ပြီး ပြောပြနေလေသည်။

ဗီရာသည် ဟန်ဆောင်ပြီး နားထောင်နေရသော်လည်း စိတ်ထဲမှ စိုးရိမ်ပူပန်နေလေသည်။

ယခု မွန်းလွဲပိုင်း ဖြစ်နေ၍ နောက်တစ်နာရီခွဲခန့်ကြာလျှင် ဒေါက်တာ ဆာဒက်နှင့် သွားတွေ့ရတော့ မည် ဖြစ်သည်။ ယခုအချိန်အထိ သူမသိလိုသော အချက်ကို မသိရသေးသဖြင့် စိုးရိမ်ပူပန်နေခြင်း ဖြစ်သည်။

ပြင်သစ်လူမျိုး ထမင်းချက် မောရစ်ဆိုသူကလည်း ယခုအထိ လုံးဝ မဆက်သွယ်သေးသဖြင့် ခက်နေပေသည်။

ပြန်ကြားရေးမှူး နိုရာကတော့ လန်ဒန်မြို့ ရောက်သည့်အခါ လုပ်ရမည့် အစီအစဉ်များ အကြောင်း ဆက်ပြောနေလေသည်။

ထိုအခိုက် တယ်လီဖုန်းလာသဖြင့် နိုရာက ကောက်ဖြေမည် ပြုရာ ဗီရာက

"နေပါစေ နိုရာ။ ဒီဟာ စောစောကလာဖို့ရှိတဲ့ဖုန်းနဲ့ တူပါတယ်"

ဟု ပြောပြီး သူကိုယ်တိုင် တယ်လီဖုန်းကို ကောက်ကိုင်လိုက်သည်။

"ဟဲလို"

"သမ္မတကတော် မစ္စစ်ဘရက်ဖို့ဒ်ပါလား ခင်ဗျား"

တဘက်မှ ယောကျ်ားသံဖြင့် မေးလေသည်။

"ဟုတ်ပါတယ်၊ ကျွန်မ ဘီလီပါ"

"ဟုတ်ကဲ့၊ ကျွန်တော်က သံတမန်ရေးရာဌာနက ဖရက်ဝီလီဖြစ်ပါတယ်၊ လန်ဒန်သွားဖို့ကိစ္စနဲ့ ခဏလေး တွေ့ချင်လို့ပါ"

ဗီရာသည် သံတမန်ရေးရာဌာနမှ ဖရက်ဝီလီဆိုသူအား တကြိမ် နှစ်ကြိမ် မြင်ဖူး၍ သိနေသော်လည်း

"ကျွန်မ အလုပ်သိပ်များနေတယ်ရှင့်"

ဟု ပြန်ပြောလိုက်သည်။

သို့သော် တဘက်မှ ဖရက်ဝီလီက

"အခုချက်ချင်း မတွေ့လို့မဖြစ်ဘူးခင်ဗျ။ သိပ်အရေးကြီးလို့ပါ၊ ကျွန်တော် အောက်ထပ်က ဧည့်ခန်းမှာ စောင့်နေပါတယ်" ဟု ပြောပြန်သည်။

ပြောသည့်လေသံကလည်း သိပ်အရေးကြီးနေပုံရသဖြင့် ဗီရာက

"ကောင်းပြီလေ၊ ကျွန်မ ဆင်းလာခဲ့ပါမယ်" ဟု ကတိပေးလိုက်သည်။

သံတမန်ရေးရာဌာနမှ ဖရက်ဝီလီနှင့် တွေ့ဆုံသည်အထိ စိတ်ခတ်ကျနေဆဲပင်ဖြစ်လေသည်။ မိမိတို့ ကေ-ဂျီ-ဘီ ထောက်လှမ်းရေးအဖွဲ့က ဘာကြောင့် အခုအချိန်အထိ မဆက်သွယ်သေးသနည်းဟု တွေးပြီး စိတ်ခတ်ကျနေမိသည်။

သို့သော် ဖရက်ဝီလီက အနားသို့ကပ်၍

"ကျွန်တော် ပြောလိုတာက ဒစ္စနေလင်းကိစ္စပါပဲ" ဟု ခပ်တိုးတိုး ပြောလိုက်သောအခါမှ အံ့အားသင့်သွားလေသည်။

ကေ-ဂျီ-ဘီ အဖွဲ့၏ စကားဝှက်ကို ပြောလိုက်ခြင်းပင်ဖြစ်သည်။

သမ္မတအိမ်တော် သံတမန်ရေးရာဌာနမှ အရာရှိ ဖရက်ဝီလီသည်လည်း မိမိတို့ ကေ-ဂျီ-ဘီ အဖွဲ့၏ အတွင်းလူယုံတဦး ဖြစ်နေသည်မှာတကယ်ပင် အံ့ဩစရာကောင်းနေတော့သည်။

"ကျွန်မက ရှင်ဖြစ်လာမယ်လို့ မထင်မိဘူးရှင့်"

ဗီရာ ပြောလိုက်ပြီးနောက် ဖရက်ဝီလီသည် ခပ်တိုးတိုးပင် ဆက်လက်ပြောသည်။

"ခင်ဗျားသိချင်လို့ မေးထားတာတွေနဲ့ ပတ်သက်ပြီး စုံစမ်းကြည့်ပါတယ်။ ဘာရောဂါကြောင့် အထူးကု ဆရာဝန်ဆီ သွားရတယ်ဆိုတာတော့ စုံစမ်းလို့မရဘူး။ ဒါပေမဲ့ မစိုးရိမ်ပါနဲ့ ဒီနေ့ညနေ လေးနာရီမှာ ခင်ဗျားက ဆေးခန်းကို သွားရပေမယ့် ဒေါက်တာ ဆာဒက်နဲ့ တွေ့ရမှာ မဟုတ်ဘူး"

"ဟင် ဟုတ်လား၊ ဘာဖြစ်လို့လဲ"

"ဒေါက်တာဆာဒက်နဲ့ ပူးတွဲအလုပ်လုပ်တဲ့ အမျိုးသမီးဆရာဝန် ဒေါက်တာ ဒါလီဆိုတာက ခင်ဗျားကို စစ်ဆေးလိမ့်မယ်။ ဒေါက်တာ ဆာဒက်ဟာ မနေ့ညက အရေးပေါ်လူနာတဦးအိမ်ကို အသွားမှာ သူ့မော်တော်ကားကို တခြားကားတစီးက တရကြမ်း ဝင်တိုက်မိတယ်။ အဲဒီကားဟာ အတင်း မောင်းပြေးသွားတယ်။ ဒေါက်တာဆာဒက်မှာ ဒဏ်ရာ အကြီးအကျယ် ရသွားလို့ ဆေးရုံမှာ အတော်ကြာနေပြီး ကုသရလိမ့်မယ်။ ဒါကြောင့် တွဲဘက်ဆရာဝန် ဒေါက်တာ ဒါလီက ဒေါက်တာ ဆာဒက်ရဲ့လူနာတွေကို တာဝန်ယူပြီး ကြည့်ပေးပါလိမ့်မယ်"

(မှတ်ချက်။ ။ အမှန်က ဒေါက်တာဆာဒက်၏မော်တော်ကားကို အခြားကားတစီးက ဝင်တိုက်သွားခြင်းမှာ ကေ-ဂျီ-ဘီ ထောက်လှမ်းရေးအဖွဲ့၏လက်ချက် ဖြစ်ကြောင်းကို ဗီရာ မသိရှာချေ။)

"ဒါပေမဲ့ ကျွန်မဟာ ဆေးခန်းကျတော့ ဘာပြောရမှန်း သိမှာ မဟုတ်ဘူးရှင့်"

"ဒါအတွက်လည်း မပူပါနဲ့ ဟိုကျတော့မှ အခြေအနေအရ မီးစင် ကြည့်ကသွားရုံပါပဲ။ ဒေါက်တာ ဒါလီက သမ္မတကတော်ကို တခါမှ မစစ်ဆေးဖူးတော့ ပြဿနာ ပေါ်စရာ မရှိပါဘူး။ ဘာပဲဖြစ်ဖြစ် ခင်ဗျားဟာ ဖြတ်ထိုးဉာဏ်ကောင်းတဲ့ အမျိုးသမီးတဦး ဖြစ်တာမို့ ပြေလည် ချောမောသွားစရာ အကြောင်း ရှိပါတယ်"

ထို့မျှနှင့်ပင် ဖရက်ဝီလီသည် စကားဖြတ်၍ ထွက်သွားလေသည်။

*

လေးနာရီထိုးပြီး၍ ငါးမိနစ်အချိန်တွင် ဗီရာသည် ဒေါက်တာ ဆာဒက်၏ ဆေးကုခန်းသို့သွား၍ ဒေါက်တာ ဒါလီနှင့်တွေ့ဆုံလေသည်။

သမ္မတကတော်အဖြစ် သွားလေရာတွင် အမေရိကန်လုံခြုံရေး အစောင့်များက လိုက်ပါရသော်လည်း ဆရာဝန်၏ဆေးကုခန်းသို့ ဝင်ချိန်တွင်မူ လုံခြုံရေးအစောင့်များက အပြင်ဘက်မှသာ စောင့်ကြရလေ သည်။ ဒေါက်တာ ဒါလီဆိုသူ အမျိုးသမီးဆရာဝန်သည် မူလကပင် သမ္မတကတော် ဘီလီအား သိနေသူဖြစ်ရာ ယခု ဗီရာကိုမြင်လျှင် အထူးပင်ဖော် ရွေ့ရင်းနှီးစွာ ခရီးဦးကြိုပြု၍ စမ်းသပ်ဆေးခန်း အတွင်းသို့ ခေါ်သွားလေသည်။

သူမသည်လည်း မီးယပ်နှင့်သားဖွား အထူးကုဆရာဝန်တဦးဖြစ်၍ ဒေါက်တာဆာဒက်က ပြောပြထားချက်အရ သမ္မတကတော်၏အခြေအနေကို သိနေပုံရလေသည်။

"ဒါထက် မော်စကိုမြို့ကို ခရီးသွားတုန်းမှာ သွေးကျတာ ဘယ့်နှယ့်နေပါသလဲ"

ဒေါက်တာဒါလီက ဤသို့မေးလိုက်လျှင် ဗီရာသည် ချက်ချင်းပင် အဖြေမှန်ကို ရိပ်မိလေသည်။ သမ္မတကတော် ဘီလီသည် သွေးလွန်သည့်သဘော ဖြစ်နေ၍ အထူးကုဆရာဝန်နှင့် ကုသခဲ့ခြင်း ဖြစ်ရမည်။ ဆရာဝန်က လေလောဆယ် လင်ယောကျ်ားနှင့် အတူမအိပ်ရဟု တားမြစ်ခဲ့ခြင်းမှာလည်း ဤအကြောင်းကြောင့်ပင် ဖြစ်ရမည်ဟု တွေးမိလေသည်။

ထို့ကြောင့် ဗီရာသည် ဖြတ်ထိုးဉာဏ်သုံးလျက်

"လွန်ခဲ့တဲ့အပတ်ကစပြီး သွေးကျတာ လုံးလုံးရပ်သွားပြီရှင့်" ဟု ပြောလိုက်လေသည်။

ထို့နောက် ဒေါက်တာဒါလီသည် ဗီရာအား အဝတ်အစားများ ချွတ်စေပြီး တကိုယ်လုံးကို နှိုက်နှိုက်ချွတ်ချွတ် စမ်းသပ်စစ်ဆေးကြည့်လေသည်။

ဤတွင် သူမသည် အလွန် ကျေနပ်သဘောကျသွားဟန်ဖြင့် ပြုံးပြ ခေါင်းညိတ်လိုက်သည်။

"မစ္စက်ဘရက်ဖို့ဒ်က သိပ်ပြီး ကံကောင်းတယ်လို့ ဆိုရမယ်။ အခြေအနေက အံ့ဩစရာ ကောင်းလောက်အောင် တိုးတက် ကောင်းမွန်နေပါပြီ"

"ကျေးဇူးတင်ပါတယ် ဒေါက်တာ"

ကိစ္စပြီး၍ ဆေးခန်းမှ ပြန်ထွက်ခါနီး ဒေါက်တာဒါလီ ပြောလိုက်သော စကားကြောင့် ဗီရာသည် ရင်ထဲမှ ထိတ်ခနဲ ဖြစ်သွားရပြန်သည်။

"နောက်တချက်က ဒေါက်တာဆာဒက်က ယောက်ျားနဲ့ အတူမအိပ်နဲ့လို့ တားမြစ်ထားတာနဲ့ ပတ်သက်လို့ အခု နောက်ဆုံး အခြေအနေအရဆိုရင် မဆိုးတော့ဘူးရှင့်၊ နောက် ငါးရက်လောက် ကြာရင် ခင်ပွန်းသည်နဲ့ စိတ်ချလက်ချ အိပ်နိုင်ပါပြီ"

အိမ်တော်သို့ ပြန်ရောက်ပြီးနောက် ဗီရာသည် စိတ်ထဲမှ အထူးစိုးရိမ် ကြောင့်ကြမိလေသည်။

နောက်ငါးရက်မျှကြာလျှင် မိမိသည် သမ္မတ ဘရက်ဖို့ဒ်နှင့် လင်မယားဘဝ အတူအိပ်ရမည်ဟု ဆိုသဖြင့် စိုးရိမ်နေမိခြင်းပင်ဖြစ်သည်။ သမ္မတကိုယ်တိုင်လည်း ဒေါက်တာဒါလီထံ တယ်လီဖုန်းဆက် မေး၍ ထိုကိစ္စအကြောင်းကို သိနေမည်ဖြစ်ရာ ဗီရာအနေဖြင့် မည်သို့ ရင်ဆိုင်ရမည်ကို စဉ်းစား၍ မရအောင် ဖြစ်နေတော့သည်။

မိမိသည် သမ္မတကတော် ဘီလီအဖြစ် သရုပ်ဆောင်ခဲ့ရာတွင် ယခုအချိန်အထိ မည်သူကမှ မရိပ်မိအောင် ပိရိအောင်မြင်စွာ သရုပ်ဆောင်နိုင်ခဲ့သလောက် နောက်ငါးရက်ကြာလျှင် သမ္မတနှင့် အိပ်စက်သည့်အခါ အလိမ်ပေါ်သွားမည်လားဟု အထူးစိုးရိမ်မိလေသည်။ လင်မယား အတူ အိပ်သောအခါ တယောက်အကြောင်း တယောက် အသေးစိတ် သိကြမည်မှာ ဓမ္မတာပင် ဖြစ်သည်။ တယောက်အပြုအမူကို တယောက်က သိနေပေမည်။ ထို့အခါ မိမိ၏ အိပ်ရာထဲမှ အပြုအမူက သမ္မတကတော် အစစ် ဘီလီနှင့် မတူဘဲ ကွာခြားနေပါက သမ္မတ ဘရက်ဖို့ဒ်အနေဖြင့် သူ၏ ဇနီးအစစ် မဟုတ်ကြောင်း ရိပ်မိသွားလေမည်လား။

ဤကိစ္စနှင့် ပတ်သက်၍ မော်စကိုမြို့တွင် ကြိုတင်ပြင်ဆင်လေ့ကျင့်စဉ်က ရာဇင်ကိုယ်တိုင် ကြိုးစား စုံစမ်းကြည့်ခဲ့ပုံကိုလည်း ဗီရာက မှတ်မိနေသည်။ အသေးစိတ်အချက်အလက်များ မသိရသော်လည်း ဆရာဝန်၏ ညွှန်ကြားချက်အရ လောလောဆယ် လင်မယား အတူမအိပ်ရဟု ခိုင်လုံစွာ သိခဲ့ရသဖြင့် ပြဿနာဖြစ်စရာ မရှိဟု စိတ်အေးလက်အေး နေခဲ့ပေသည်။

ယခုတော့ အခြေအနေက တမျိုးဖြစ်လာလေပြီ။ မိမိအနေဖြင့် နောက်ငါးရက်ကြာလျှင် ရင်ဆိုင်ရမည့် ဤကိစ္စအတွက် ကြိုတင်ပြင်ဆင် လေ့လာရန် အထူးလိုအပ်နေပြီဖြစ်သည်။

အမျိုးမျိုး စဉ်းစားနေရင်း ဗီရာသည် စိတ်ကူးတမျိုး ရလာပြန်သည်။

မိမိတို့ ကေ-ဂျီ-ဘီ အကြီးအကဲအဖွဲ့မှ ပေးထားသည့် လျှို့ဝှက်တယ်လီဖုန်း ဆက်သွယ်နည်းဖြင့် အကူအညီ တောင်းရန်ပင် ဖြစ်သည်။ ထို့ကြောင့် သူမသည် လျှို့ဝှက်သင်္ကေတနည်းဖြင့် တယ်လီဖုန်း ဆက်လိုက်လေသည်။

ကေ-ဂျီ-ဘီအဖွဲ့၏ လျှို့ဝှက်ဆက်သွယ်နည်းကလည်း အလွန်ပိရိ ထိရောက်လေရာ ဗီရာက မေးမြန်း စုံစမ်းသည့်အကြောင်းသည် ချက်ချင်းပင် မော်စကိုမြို့ရှိ ကေ-ဂျီ-ဘီ ဌာနချုပ်သို့ ရောက်ရှိသွားလေ သည်။

ဗိုလ်ချုပ်ကြီးပီထရော့ဗ်သည် သူ၏လက်ထောက်အရာရှိ ရာဇင်အား ခေါ်၍ တွေ့ဆုံရင်း စိတ်ရှုပ်နေပုံရလေသည်။

"လင်မယားအိပ်တဲ့ အတွင်းရေးကိစ္စကို ကျုပ်တို့က ဘယ်လိုလုပ်ပြီး သိနိုင်မှာလဲ"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ဝါရှင်တန်မှ ရောက်ရှိလာသော လျှို့ဝှက်သင်္ကေတဖြင့် မေးသည့် မေးခွန်းကို ကြည့်ရင်း ညည်းညူသလို ပြောလိုက်လေသည်။

"ဒါကို ကျွန်တော်တို့က ကြိုတင်ပြီး မမျှော်လင့်ခဲ့ဘူး"

ရာဇင်က ပြန်ပြောနေစဉ် လူသုံးယောက် အခန်းတွင်းသို့ ဝင်လာလေသည်။ သူတို့မှာ ဗိုလ်မှူးကြီး ဇုစ်၊ ပေါ်လစ်ဗြူရိုအဖွဲ့ဝင် ဂါရာနင်နှင့် ကေ-ဂျီ-ဘီ စိတ်ရောဂါ အထူးကုဆရာဝန် ဒေါက်တာလန်း ဆိုသူတို့ပင် ဖြစ်သည်။

ဤတွင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ထိုလူသုံးဦးဘက်သို့ လှည့်ပြီး

"ပြဿနာတော့ပေါ်ပြီ၊ ဗီရာတယောက် ဝါရှင်တန်မှာ အကျပ်အတည်း တွေ့နေတယ်" ဟု ပြောလိုက်သည်။

"ပြဿနာမပေါ်အောင် အားလုံး ကြိုးစားကြိုတင်ပြီး ပြင်ဆင်ခဲ့တယ် မဟုတ်လား"

ပေါ်လစ်ဗျူရိုအဖွဲ့ဝင် ဂါရာနင်က ပြောလိုက်ရာ ဗီထရော့ဗ်က

"ဒါပေမဲ့ ကျုပ်ရဲ့ရဲဘော် ရာဇင်က တခုမေ့ကျန်သွားတယ်" ဟု ပြောလိုက်သည်။

"ဒါပေမဲ့ ကျွန်တော်တို့ ရရှိထားတဲ့ ထောက်လှမ်းရေးသတင်းအရ

အမေရိကန်သမ္မတ ဇနီးမောင်နှံဟာ ဆရာဝန်ညွှန်ကြားချက်အရ လောလောဆယ် အတူမအိပ်ရဘူးလို့ တားမြစ်ထားကြောင်း အခိုင်အမာ ဆိုထားပါတယ်"

ရာဇင်က သူ့အနေဖြင့် ချွတ်ယွင်းချက် ရှိကြောင်း လျှောက်လဲသလို ပြောလိုက်သည်။

"ဒါတော့ ဟိုက သတင်းပေးတာကို တထစ်ချ ယူဆလို့ ဘယ်ဖြစ်ပါ့မလဲ။ အခုဖြစ်ပုံက ဒီလိုပါ၊ သမ္မတကတော် ဘီလီ မော်စကိုမြို့ကို မလာခင်ကတည်း မီးယပ်သားဖွား အထူးကုဆရာဝန်နဲ့ ချိန်းထားခဲ့တယ်။ အခု အဲဒီချိန်းထားတာကို ဗီရာက ဆရာဝန်နဲ့ သွားတွေ့လိုက်တယ်။ စောစောက လင်မယား အတူမအိပ်ရဘူးဆိုတာက သမ္မတကတော်ဘီလီမှာ သွေးသွန်တဲ့ရောဂါရှိခဲ့လို့ပဲ။ ဗီရာဟာ ဘာပြဿနာမှ ရှိမှာမဟုတ်ဘူးဆိုပြီး ဗီရာဟာ အေးအေးဆေးဆေးပဲ နေခဲ့ပါတယ်။ အခုတော့ ဆရာဝန်က ဗီရာရဲ့ခန္ဓာကိုယ်ကို စစ်ဆေးပြီး ရောဂါ လုံးလုံးပျောက်ကင်းနေပြီ ဖြစ်တဲ့အတွက် ခင်ပွန်းသည် သမ္မတကြီးနဲ့ နောက်ငါးရက်ကြာရင် အတူအိပ်လို့ ရနိုင်ပါပြီလို့ ပြောလိုက်တယ်။ ဒီတော့ ဗီရာအနေနဲ့ ဘယ်လောက် စိုးရိမ်မလဲဆိုတာ စဉ်းစားသာကြည့်ပေတော့။ နောက်ငါးရက် ကြာရင် ဗီရာဟာ သမ္မတ ဘရက်ဖို့ဒ်နဲ့ အတူအိပ်ရတဲ့အခါ သူ့ခမျာ စက္ကင်းလေဒီအနေနဲ့ သမ္မတကတော်ဘီလီရဲ့အိပ်ခန်းထဲက အပြုအမူကို လုံးလုံးမသိတော့ အကြီးအကျယ် ပြဿနာ ဖြစ်လာနိုင်တယ်။

"ကျုပ်တို့ရဲ့အစီအစဉ်က လန်ဒန်မြို့ ထိပ်သီးဆွေးနွေးပွဲ လုပ်တဲ့အခါမှာသာ လူချင်းပြန်လဲလှယ်ဖို့ ရည်ရွယ်ထားတယ်။ အဲဒါ ဘယ်လို လုပ်ကြမလဲ"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ဤသို့ပြောပြီးနောက် ကျန်လူများကလည်း ဝင်၍ ဆွေးနွေးကြရာ မည်သို့မှ အဖြေမရနိုင်အောင် ဖြစ်နေလေသည်။

ယခု လိုအပ်နေသော အဓိကအချက်ကား သမ္မတကတော်ဘီလီသည် လင်ယောကျ်ားနှင့် အတူ အိပ်သည့်အခါ မည်သို့ ပြုမူလေ့ရှိသည်ဟူသော အချက်ပင်ဖြစ်သည်။

ယင်းအချက်ကို ဘီလီအား ခြိမ်းခြောက်မေးမြန်း၍လည်း မရနိုင်ကြောင်း စိတ်ရောဂါဆရာဝန်ကြီး ဒေါက်တာလန်းက ထောက်ပြလေသည်။

ထိုအချက်ကို အမြန်သိရှိရန်ကလည်း အရေးကြီးပေသည်။ သို့မှသာ မိမိတို့လူ ဗီရာထံ အချိန်မီ အကြောင်းကြားနိုင်မည် ဖြစ်သည်။ အတန်ကြာအောင် အချေအတင် ဆွေးနွေးပြီးနောက် ရာဇင်သည် ရုတ်တရက် စိတ်ကူးရလာဟန်ဖြင့်

"ဖြစ်နိုင်တဲ့တနည်းတော့ ရှိပါတယ်"

ဟု ပြောလိုက်သည်။

ထို့နောက် ရာဇင်က သူ၏အကြံကို ပြောပြရာ ကျန်လူအားလုံးသည် အလွန်အံ့သြလောက်အောင် စိတ်ဝင်စားစွာဖြင့် နားထောင်နေကြလေသည်။

သမ္မတကတော်ဘီလီ အလွန်ကောင်းမွန်သော အခန်းကြီးတခန်းတွင် နေရသော်လည်း စိတ်ထဲမှ အကျဉ်းထောင်ကြီးတခုထဲသို့ ရောက်နေသည်ဟု ယူဆကာ စိတ်ညစ်နေလေသည်။

ကျွေးမွေးသော အစားအသောက်များကိုလည်း သူမသည် စားချင်စိတ်မရှိဘဲ ခန္ဓာကိုယ် အားမယုတ်ရုံ အနည်းငယ်သာ စားနေလေသည်။

အထူးသဖြင့် တယောက်တည်း အခန်းထဲတွင် နေရသည်ကို အလွန်ငြီးငွေ့နေမိလေသည်။

သူမ၏ စိတ်ထဲတွင်ကား စိတ်ကူးယဉ်မျှော်လင့်ချက်တခု ထားမိလေသည်။ ထိုမျှော်လင့်ချက်ကား မိမိနေရာတွင် အစားထိုးဝင်ရောက်နေသူ သူလျှိုမ (စက္ကင်းလေဒီ) သည် တနေ့နေ့ တချိန်ချိန်တွင် ခြေလှမ်းမှားပြီး အလိမ်ပေါ်သွားလိမ့်မည်ဟူသော မျှော်လင့်ချက်ပင် ဖြစ်သည်။

ဖခင်ကြီး သို့မဟုတ် ခင်ပွန်းသည် သမ္မတဘရက်ဖို့ဒ်တို့သည် မိမိအကြောင်း အသေးစိတ်သိသူ ရင်းနှီးသူများဖြစ်၍ ရုရှ သူလျှိုမ၏ ချွတ်ယွင်းချက်တခုခုကို သတိပြုမိရာမှ မိမိ(ဘီလီ)အစစ် မဟုတ်ကြောင်း ရိပ်မိသွားနိုင်ပေသည်။ ထိုအခါ ရုရှထောက်လှမ်းရေး (ကေဂျီ-ဘီ) အကြီးအကဲ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် လက်မြှောက် အရှုံးပေးပြီး မိမိအား အမေရိကန်သို့ ပို့ပေးရမည်ဖြစ်သည်။

ဤသို့လျှင် ဘီလီသည် စိတ်ထဲမှ ကျိတ်၍ မျှော်လင့်နေမိသော်လည်း ရက်အနည်းငယ် ကြာသွားသည့်တိုင်အောင် မည်သို့မျှ သတင်းမထူးသဖြင့် စိတ်အားငယ်လာမိပြန်သည်။

စကားပြန်လုပ်သူ ရာဇင်ကတော့ မကြာခဏ သူမထံလာပြီး အမေရိကန်ပြည်ထုတ် သတင်းစာများ ဗီဒီယိုတိတ်ခွေများ ပေးရင်း ရည်မွန်စွာ စကားစမြည် ပြောတတ်လေသည်။

(မှတ်ချက်။ ။ ဘီလီသည် ရာဇင်အား (ကေ-ဂျီ-ဘီ) အရာရှိဟူ၍ မသိ။ အင်္ဂလိပ်စကားပြန် တယောက်အဖြစ်သာ သိလေသည်။)

တနေ့တွင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ဘီလီအခန်းသို့ လာ၍ အေးအေးဆေးဆေး ကော်ဖီ သောက်ရင်း စကားပြောလေသည်။

ဘီလီအနေဖြင့် ပီထရော့ဗ်အား အလိုလို မုန်းတီးစက်ဆုပ်မိလေသည်။

သို့သော် ပီထရော့ဗ်က ပြုံးဖြဲဖြဲနှင့် သူတို့၏အကြံအစည်များ မည်မျှ ချောမော အောင်မြင်နေကြောင်း ကြွားဝင့်ကာ ပြောလေသည်။

"ခင်ဗျားရဲ့ခင်ပွန်း သမ္မတဘရက်ဖို့ဒ်သာမက ခင်ဗျားရဲ့ဖခင်ကြီးကပါ ကျုပ်တို့ရဲ့ စက္ကင်းလေဒီကို လုံးလုံးသံသယမရှိဘဲ လက်ခံနေကြတယ်၊ အခု ကျုပ်လာတာက ခင်ဗျားကို မေးစရာရှိလို့ပါ။ အဲဒါကို ခင်ဗျားက ကောင်းကောင်းမွန်မွန် ဖြေရင် ခင်ဗျားသက်သာမယ်"

ဤသို့ပြောပြီးနောက် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ဘီလီအား ခင်ပွန်းသည် သမ္မတဘရက်ဖို့ဒ်နှင့်အတူ အိပ်သည့်အခါ မည်သို့ ပြုမူကြသနည်းဟု ခပ်ပြောင်ပြောင်ပင် မေးလိုက်လေသည်။

ဘီလီမှာ ရှက်လည်းရှက် ဒေါသလည်း ထွက်သဖြင့် ခပ်တင်းတင်းပင် ငြင်းလိုက်ရာ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်ကလည်း စိတ်ဆိုး၍ ခြိမ်းခြောက်လေသည်။

ဤတွင် စကားပြန် ရာဇင်က ဝင်ကာပြီး ဗိုလ်ချုပ်ကြီးအား ဖျောင်းဖျတောင်းပန်၍ ပြန်လွှတ်လိုက် လေသည်။

ဘီလီသည် ရာဇင်အား လူသားစိတ်ရှိသူတဦးအဖြစ် ကျေးဇူးတင်မိလေသည်။

ရာဇင်ကလည်း ဘီလီအား ချော့မော့နှစ်သိမ့်ရင်း ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် အလွန်ရက်စက် ကြမ်းကြုတ်သူဖြစ်၍ ကျေနပ်အောင် အဖြေတခုခု ပေးလိုက်သင့်ကြောင်း ပြောလေသည်။ သူကိုယ်တိုင်ကတော့ ဘီလီအား ကူညီရန် အသင့်ရှိကြောင်းကိုလည်း လိမ္မာစွာ စည်းရုံးလေသည်။ ဘီလီသည် ရာဇင်အပေါ် ယုံကြည်စိတ်ချလာသဖြင့် သူမ၏ခင်ပွန်း သမ္မတကြီးသည် ညအိပ်ရာ ဝင်သည့်အခါတွင် သာမန် လင်ယောက်ျားများလိုသာ ဆက်ဆံတတ်ကြောင်း ပြောပြလိုက်လေသည်။

သူမ၏စိတ်ထဲ၌ စကားပြန် ရာဇင်သည် မိမိအပေါ် တကယ်ပင် စိတ်ကောင်းစေတနာ ရှိသူဟု ယုံကြည်မိလေသည်။

*

# အခန်း (၆)

အဲယားဖို့စ်ဝမ်း ခေါ် အမေရိကန်သမ္မတ၏ အထူး ဂျက်လေယာဉ်ကြီးသည် စတင် ထွက်ခွာလာသည်မှာ နှစ်နာရီကျော်ရှိပြီဖြစ်၍ အတ္တလန္တိတ် သမုဒ္ဒရာရေပြင်ပေါ်မှ ဖြတ်သန်းကာ လန်ဒန်မြို့ဆီသို့ ဦးတည်လျက် ချောမောစွာ ပျံသန်းလျက် ရှိလေသည်။

လေယာဉ်ကြီးအတွင်းရှိ ဧည့်ခန်းတနေရာတွင် သမ္မတကတော် ဟန်ဆောင်နေသူ ဗီရာသည် သတင်းစာဆရာ ပါကာနှင့်အတူ ထိုင်၍ ကိုယ်ရေးအတ္ထုပ္ပတ္တိ စာအုပ်အတွက် ဆွေးနွေးပြောဆိုရင်း လိုက်ပါလာကြသည်။

ဗီရာက ပြောပြသည့် အချက်များကို ပါကာက မမေ့မပျောက်စေရန် တိပ်ရီကော်ဒါ အသံဖမ်းစက်ငယ် တလုံးဖွင့်၍ အသံဖမ်းယူထားလေသည်။

ထိုနေ့ကပြောသည့်အချက်များမှာ အပျိုဘဝက သမ္မတလောင်း ဘရက်ဖို့ဒ်နှင့် တွေ့ဆုံခဲ့ပုံ၊ ရည်ငံခဲ့ပုံ၊ နောက်ဆုံး ထိမ်းမြားလက်ထပ်ခဲ့ပုံများအကြောင်း အဓိက ပြောခြင်းဖြစ်သည်။

ထို့နောက် ပါကာက ဘီလီတို့ ဇနီးမောင်နှံ နှစ်ယောက်ချင်း ရင်းနှီးစွာ ဆက်ဆံပုံများကို မေးရာ ဗီရာသည် သိသိသာသာ မျက်နှာပျက်သွားသည်။

"အဲဒီအကြောင်းတွေပြောလို့ ဘယ်ဖြစ်မလဲရှင့်"

"ဒါပေမဲ့ ဘီလီ ဟိုတကြိမ်တုန်းက ပြောပြမယ်ဆိုလို့ပါ"

"ဘာပဲဖြစ်ဖြစ်ရှင် အခု ကျွန်မအနေနဲ့ မပြောချင်တော့ဘူး"

ဤသို့ ခပ်ပြတ်ပြတ် ပြန်ပြောသည်ကို ပါကာ၏ စိတ်ထဲမှာ ထူးဆန်းသည်ဟု ထင်မိလေသည်။

တဖန် အမေရိကန်သမ္မတ ဘရက်ဖို့ဒ်သည် တချိန်က (အိမ်ထောင်မကျမီ) ရုပ်ရှင် ဝါသနာပါ၍ ရုပ်ရှင်မင်းသမီးတယောက်နှင့် ရင်းနှီးစွာ တွဲခဲ့ဖူးသည့်အကြောင်းကို ပါကာက ဆက်မေးပြန်သည်။

ထိုရုပ်ရှင်မင်းသမီးနှင့် ဘီလီတို့သည် ဧည့်ခံပွဲတခု၌ ဆုံဖူးကြောင်းကိုလည်း ပါကာက သိထားလေသည်။

သို့သော် ယခု ထိုအကြောင်းကို စကားစပ်မေးသောအခါ ဗီရာက

"ကျွန်မနဲ့ လူချင်းတခါမှ မဆုံပါဘူးရှင့်"

ဟု ငြင်းလိုက်သဖြင့် ပါကာသည် အံ့အားသင့်သွားမိပြန်လေသည်။

ထို့နောက် ဗီရာသည် ပင်ပန်းလာသည်ဟုဆိုကာ ခဏအနားယူဦးမည်ဟုဆိုကာ စကားဖြတ်လိုက် လေသည်။

သတင်းစာဆရာပါကာသည် စိတ်ထဲ၌ မကျေမချမ်း ဖြစ်နေသဖြင့် လေယာဉ်တဘက်ခန်းတွင် ထိုင်စာရေးနေသူ ပြန်ကြားရေးမှူး နိုရာအနီးသို့ သွားလေသည်။

နိုရာက သူ၏မျက်နှာအမူအရာကို ကြည့်ပြီး

"ရှင် ဘယ်လိုဖြစ်နေတာလဲ၊ ရှင့်ကြည့်ရတာ ခေါင်းရှုပ်နေသလိုပါပဲ"

ဟု မေးလိုက်သည်။

"ဟုတ်တယ်၊ အကြီးအကျယ် ခေါင်းရှုပ်နေပြီ။ သမ္မတကတော်နဲ့ စကားပြောရတာ တမျိုးကြီးပဲ"

ဤသို့ အစချီကာ ပါကာသည် သူသည် သမ္မတကတော်၏ ပြောဆိုပြုမူပုံများက ထူးဆန်းနေသဖြင့် နားမလည်နိုင်အောင် ဖြစ်နေမိကြောင်း၊ လွန်ခဲ့သောနှစ်လက သူနှင့် ပြောဆိုဆွေးနွေးခဲ့စဉ်ကတမျိုး၊ ယခုတော့ ပြောပုံဆိုပုံတွေက ဆန့်ကျင်ဘက်ဖြစ်နေကြောင်း စသည်ဖြင့် ပြောပြရင်း

"အဲဒါ မထူးဆန်းဘူးလား"

ဟု စကားကို အဆုံးသတ်လိုက်လေသည်။

"ဒါက ဘာထူးဆန်းလို့လဲ၊ လူတယောက်ဟာ နှစ်လအတွင်း စိတ်ပြောင်းသွားနိုင်တာပဲ"

နိုရာက ပြန်ပြောသည်ကို ပါကာသည် ကျေနပ်ပုံမရချေ။

"မဟုတ်ဘူး နိုရာ ကျုပ်စိတ်ထဲမှာ ဘဝင်မကျဖြစ်နေတယ်။ သမ္မတကတော်ဘီလီဟာ မော်စကိုမြို့က ပြန်လာတဲ့အချိန်ကစပြီး အယင်ကနဲ့ မတူတဲ့ အခြားလူတယောက်လို ဖြစ်နေတယ်"

"သြော် ရှင်ကလည်း အတွေးခေါင်နေပြန်ပါပြီ။ ဘီလီဟာ မော်စကိုမြို့ကိုသွားပြီး ပင်ပန်းပြီး စိတ်နွမ်းနယ်လာတာလဲ ဖြစ်နိုင်ပါတယ်"

"ကျုပ်စိတ်ထဲမှာတော့ တမျိုးကြီးပဲ ဖြစ်နေတယ်။ သမ္မတကတော်ဘီလီဟာ အတွေးအခေါ် အယူအဆတွေ ပြောင်းလဲလာအောင် တယောက်ယောက်က သဘောတရားရေးရာ သင်တန်းတမျိုး ပို့ချပေးတာ ခံရသလိုပဲ"

"တော်စမ်းပါရှင်၊ ဒါနဲ့ပတ်သက်လို့ ရှင်က အတွေးခေါင်လွန်းပါတယ်။ ရှင့်တာဝန်က ဘီလီ ပြောတာတွေကိုသာ မှတ်ပြီး စာအုပ်ဖြစ်မြောက်လာအောင် ကူညီဖို့ပဲ မဟုတ်လား။ အဲဒါသာ အာရုံစိုက်ပြီးလုပ်စမ်းပါ။ စာအုပ် ဖြစ်လာတော့လည်း ကျွန်မကိုယ်တိုင် ဝယ်ဖတ်ပါ့မယ် ဟဲ ဟဲ"

နိုရာက ရယ်သွမ်းသွေး၍ စကားဖြတ်လိုက်သည်။

*

ဗီရာသည် လန်ဒန်မြို့သို့ တကြိမ်မှ မရောက်ဖူးသော်လည်း မော်စကိုမြို့တွင် ရှိစဉ်က ရာဇင်ကိုယ်တိုင်က လန်ဒန်မြို့အကြောင်းနှင့်တကွ မည်သို့နေထိုင် ပြုမူရမည်ကို အသေးစိတ် သင်ကြား ပို့ချပေးလိုက်ခဲ့ပေသည်။

ထို့ကြောင့် လန်ဒန်မြို့ပြင်ဘက် နေ့သ်တို့ လေဆိပ်သို့ သူတို့လေယာဉ်ကြီးဆိုက်ချိန်တွင် တခမ်းတနား ခရီးဦးကြိုပြုကြသောအခါ ဗီရာသည် ဣန္ဒြေမပျက်ဟန်ဆောင် လှုပ်ရှားကား အမေရိကန် သမ္မတကတော် အစစ်အသွင်ဖြင့် ကောင်းစွာ သရုပ်ဆောင်နိုင်ခဲ့ပေသည်။

ဗြိတိသျှအစိုးရ၏အစီအစဉ်ဖြင့် အမေရိကန်သမ္မတ ဇနီးမောင်နှံမှာ လန်ဒန်မြို့ရှိ နာမည်ကြီး ကလဲရစ်ဂျစ် ဟိုတယ်ကြီးတွင်လည်း တည်းခို ကြရလေသည်။

ဟိုတယ်မန်နေဂျာက သမ္မတကြီးနှင့် ဇနီးတို့အတွက် အထူးတလည် ဖန်တီး စီမံထားသော အခန်းကြီးများကို စိတ်ရှည်လက်ရှည် လျှောက်ပြလေသည်။ ဟိုတယ်ခန်းဆိုသော်လည်း ဧည့်ခန်း အိပ်ခန်းအပြင် အလုပ်လုပ်ရန် ရုံးခန်းများပါ စီစဉ်ပေးထားလေသည်။

ဗီရာသည် စိတ်ဝင်စားဟန်ဆောင်ပြီး လျှောက်ကြည့်နေရသော်လည်း စိတ်ထဲတွင်ကား နောက်ထပ် သုံးရက်ကြာလျှင် သမ္မတဘရက်ဖို့ဒ်နှင့် အတူအိပ်ရတော့မည်အရေးကိုသာ တွေးပြီး စိုးရိမ်နေလေ သည်။

ထိုအတောအတွင်း မိမိတို့၏ ကေ-ဂျီ-ဘီ အဖွဲ့မှ လျှို့ဝှက်ဆက်သွယ်ပြီး ညွှန်ကြားချက် ပို့မှသာလျှင် သူမအနေဖြင့် ဘာလုပ်ရမည်ကိုသာ သိနိုင်မည်ဖြစ်ပေသည်။

ဟိုတယ်မန်နေဂျာက သူတို့၏အိပ်ခန်းကြီးကို လိုက်ပြပြီးနောက် ပြန်ထွက်သွားသောအခါ သမ္မတ ဘရက်ဖို့ဒ်ကလည်း သူ၏ ရုံးအဖွဲ့ဝင်များအတွက် နေရာထိုင်ခင်းကို ကြည့်ဦးမည်ဟု ဆိုကာ အခန်းထဲမှ ထွက်သွားလေသည်။

ဗီရာလည်း အိပ်ခန်းထဲတွင် အိမ်ဖော်ဆာရာ၏ အကူအညီဖြင့် အဝတ်အစားသေတ္တာများကို အသီးသီး အပြင်ဘက်ထုတ်၍ နေရာချထားလိုက်သည်။

ထိုနေ့ညဘက်တွင် အမေရိကန်သမ္မတနှင့် ရုရှဝန်ကြီးချုပ်တို့အား ဗြိတိသျှအစိုးရက တည်ခင်း ဧည့်ခံသော ဂုဏ်ပြုညစာစားပွဲကြီးသို့ တက်ရောက်ရလေသည်။ ဗီရာအား ဗြိတိသျှ နိုင်ငံခြားရေးဝန်ကြီး အန်ဆလို ဆိုသူလာရောက် ကြိုဆိုပြီး ညစာစားပွဲသို့အသွား လန်ဒန်မြို့ ရှုခင်းများကိုပါ ပြသသွားလေသည်။ ဗီရာသည် တကြိမ်တခါမှ မရောက်ဖူးသောနေရာသို့ ရောက်နေသော်လည်း တတ်နိုင်သလောက် ဟန်ဆောင်လျက် ဣန္ဒြေမပျက် နေနိုင်ခဲ့လေသည်။

ဂုဏ်ပြုညစာစားပွဲ ကျင်းပရာ ခန်းမဆောင်ကြီးသို့ အရောက်တွင် ထုံးစံအတိုင်း ရုပ်မြင်သံကြားနှင့် သတင်းစာဆရာများက အမေရိကန် သမ္မတ ဇနီးမောင်နှံအား ဓာတ်ပုံတွေ တဖျပ်ဖျပ် ရိုက်ယူကြလေ သည်။

ညစာစားပွဲတွင် အိမ်ရှင်အဖြစ် တာဝန်ယူ ဧည့်ခံမှုအား ဗြိတိသျှဝန်ကြီးချုပ် ဟီတန်နှင့် ဇနီးတို့ ဖြစ်ကြလေသည်။

ဗီရာသည် နည်းပြဆရာ ရာဇင် သင်ကြား ပို့ချလိုက်သည့်အတိုင်း ချွတ်ယွင်းချက် တစ်စုံတရာ မရှိအောင် ပြေလည်ချောမောစွာပင် နှုတ်ဆက် စကားပြောနိုင်လေသည်။

ရုရှဝန်ကြီးချုပ် ကီရင်ချင်ကိုနှင့် ဇနီးမောင်နှံကိုလည်း ဗီရာက ကောင်းမွန်စွာပင် နှုတ်ဆက်စကား ပြောရလေသည်။ ဧည့်ခံပွဲတွင် လူပေါင်း သုံးရာကျော်ရှိရာ မကြာမီဧည့်သည်များ အချင်းချင်း ကိုယ့်အတွဲနှင့်ကိုယ် စကားပြောနေကြရင်း သမ္မတဘရက်ဖို့ဒ်က ဗြိတိသျှခေါင်းဆောင်အချို့နှင့် စကားသွားပြောနေခိုက် ဗီရာသည် ခေတ္တမျှ တယောက်တည်း ဖြစ်နေသည်။ ထိုအချိန်၌ ရုရှဝန်ကြီးချုပ်ကတော်သည်လည်း တနေရာတွင် တယောက်တည်း ရပ်နေသည်ကို မြင်ရသဖြင့် ဗီရာသည် ရုတ်တရက် အကြံတခုကို ရမိလေသည်။

ရုရှဝန်ကြီးချုပ်ကတော်အား မိမိ၏ အခက်အခဲ ပြဿနာကို တိုးတိုးတိတ်တိတ် ပြောပြလိုက်လျှင် ဝန်ကြီးချုပ်က အမြန်ကူညီလိမ့်မည်ဟု မျှော်လင့်မိသဖြင့် ဝန်ကြီးချုပ်ကတော်အား ပြောရန် ဆုံးဖြတ်လိုက်လေသည်။

သို့ရာတွင် ဗီရာက ချဉ်းကပ်သွားပြီး ရုရှဘာသာစကားဖြင့် စကားစပြောလိုက်လျှင် ရုရှဝန်ကြီးချုပ် ကတော်သည် ချက်ချင်းပင် စိုးရိမ် တုန်လှုပ်သွားပုံရသည်။

"ရုရှလို မပြောပါနဲ့ အလွန်အန္တရာယ်ရှိတယ်"

ထိုမျှသာ ပြောပြီး ရုရှဝန်ကြီးချုပ်ကတော်သည် အမျိုးပရိသတ်များရှိရာသို့ ရှောင်ထွက်သွားလေ သည်။

ဗီရာသည် စိတ်ပျက်အားငယ်စွာဖြင့် အားငယ်နေမိပြန်သည်။ တကယ်တော့ ရုရှဝန်ကြီးချုပ်၏ အပြုအမူက မှန်ပေသည်။ မိမိက အစိုးရိမ်လွန်ပြီး သွားစကားပြောခြင်းသည် အလွန်မှားယွင်းသော အပြုအမူဖြစ်သည်။

ထိုအခိုက် မလှမ်းမကမ်းတွင် ရှိနေသူ သမ္မတဘာရက်ဖို့ဒ်က လှမ်းခေါ်ဖြင့် ဗီရာလည်း လျှောက်သွားလေသည်။ သမ္မတနှင့်အတူ ဘိုအင်ဒီ နိုင်ငံသမ္မတ ကီဘန်ဂူလည်း ရှိနေပေသည်။ သမ္မတဘာရက်ဖို့ဒ်သည် သူ၏ဇနီးနှင့် ရုရှဝန်ကြီးချုပ်ကတော်တို့ ခေတ္တစကားပြောနေခဲ့သည်ကို သတိပြုမိပုံရလေသည်။

"ရုရှဝန်ကြီးချုပ်ကတော်နဲ့ အမေရိကန်သမ္မတကတော်တို့ နှစ်ယောက်သား ဘာတွေ ပြောနေကြတာ လဲကွယ့်"

သမ္မတဘာရက်ဖို့က ရယ်ကာမောကာဖြင့် မေးလိုက်သည်။

"ဘာပြောမှန်းမသိပါဘူးရှင်၊ သူက အင်္ဂလိပ်လို ကောင်းကောင်း မတတ်တော့ ကျွန်မလည်း ရုရှလို နားမလည်နဲ့ စကားပြောရတာ နားမလည်ပါဘူးရှင်"

ဗီရာကပြောလိုက်ရာ သမ္မတက ရယ်မောလိုက်လေသည်။

"ကိစ္စမရှိပါဘူး သူဘာပြောတယ်ဆိုတာ သိနိုင်တဲ့နည်းရှိပါတယ်၊ ဒီညေ့ခံပွဲမှာ ရုရှဘက်က အေးဂျင်း (သူလျှို) တွေ ရှိသလို တို့ဘက်က ထောက်လှမ်းရေးသူလျှိုတွေလည်း ရှိနေပါတယ်၊ ဒါဟာ ထုံးစံပါပဲ"

ထိုစကားပြောလိုက်လျှင်ပင် ဗီရာသည် အံ့အားသင့်သွားမိလေသည်။

"ဟင် ဟုတ်လား၊ သူတို့ ရုရှတွေထဲမှာ ကျွန်မတို့ ဘက်သားတွေ ရှိနေတယ်လား ယုံနိုင်စရာတောင် မရှိဘူး"

"ဟုတ်တယ် ဟောဟိုမယ် ကြည့်လိုက်စမ်း ရုရှဝန်ကြီးချုပ်ကတော်နဲ့ စကားပြောနေတဲ့ နှာခေါင်းကြီးကြီးနဲ့ ရုရှတယောက် မြင်ရဲ့မဟုတ်လား၊ အဲဒါ

ဗြိတိသျှထောက်လှမ်းရေး (အမ်အိုင် ၁၆) က သူတို့ထဲမှာ သွင်းထားတဲ့ ကျုပ်တို့ဘက်သား သူလျှိုပဲ အဲဒီအစီအစဉ် လုပ်ထားတာ ကြာလှပြီ၊ ကဲ ဒါတွေ အသာမေ့ထားလိုက်စမ်းပါ လာ ညစာစားဖို့ ဟိုဘက် သွားကြစို့ရဲ့"

ပြောပြောဆိုဆိုနှင့်ပင် စကားပြောရင်း သမ္မတဘာရက်ဖို့ဒ်သည် ဗီရာအား ထမင်းစားခန်းကြီးဆီသို့ ခေါ်သွားလေသည်။

ဗီရာမှာ မိမိ၏အမှားများကြောင့် စိတ်ထဲ စိုးရိမ်ပူပန်နေမိလေသည်။

သမ္မတကြီးပြောသည့်အတိုင်း ဆိုလျှင် ရုရှဝန်ကြီးချုပ်ကတော်၏ ဘေးနားတွင်ရှိနေသော ရုရှလူမျိုးသည် ဗြိတိသျှထောက်လှမ်းရေး သူလျှိုတဦး ဖြစ်နေရာ မိမိဗီရာသည် ရုရှဘာသာစကား မတတ်ကျွမ်းပါဘဲလျက် ဝန်ကြီးချုပ်ကတော် အား ရုရှလို ပြောလိုက်ခြင်းကို ထိုလူကြားသွားပါက မိမိအတွက် မည်မျှပင် အန္တရာယ်များကြောင်း တွေးမိပြီး စိုးရိမ်ပူပန်နေခြင်း ဖြစ်လေသည်။

သူမသည် အမှတ်မဲ့ လှမ်းကြည့်လိုက်ရာ ထိုရုရှလူကြီး (ယဉ်ကိုဗစ်ချ်) ဆိုသူသည် ဝန်ကြီးချုပ် ကတော်၏ ဘေးနားမှ ထွက်ခွာသွားသည်ကို မြင်ရလေသည်။

ထမင်းစားပွဲကို ရောက်သောအခါ သမ္မတဘာရက်ဖို့ဒ်က ဗီရာ ထိုင်ရမည့်နေရာကို ပြပေးလေသည်။ ထိုနေရာမှာ အိမ်ရှင် ဗြိတိသျှဝန်ကြီးချုပ် ဟီတန်၏ လက်ယာဘက်ရှိ ထိုင်ခုံဖြစ်လေသည်။ သူ၏ လက်ဝဲဘက်တွင်ကား သမ္မတဘာရက်ဖို့ဒ်က ထိုင်ပြီး ဘိုအင်ဒီသမ္မတ ကီဘန်ဂူက လက်ယာဘက်တွင် ထိုင်နေလေသည်။ သူတို့နှစ်ဦးသည် စကားလက်ဆုံကျနေကြပြီး ဗီရာကိုပင် ဂရုမစိုက်နိုင်ကြချေ။ ဗီရာသည် မည်သို့ ပြုလုပ်ရပါမည်နည်း။ အကြံအမျိုးမျိုး ထုတ်နေလေသည်။

အတန်ကြာမှ ရုတ်တရက် အကြံတခု ပေါ်လာလေသည်။

ညှော်ခံပွဲ၌ သူမအနေဖြင့် ကောင်းစွာ မှတ်မိနိုင်သော လူတယောက်ကို သတိပြုမိရာမှ ဗီရာ အကြံပေါ်လာခြင်း ဖြစ်လေသည်။

ထိုလူကား ကေ-ဂျီ-ဘီ ထောက်လှမ်းရေး အကြီးအကဲ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်၏ ညာလက်ရုံး ဗိုလ်မှူးကြီး ဇုစ်ဆိုသူပင် ဖြစ်လေသည်။

ဗီရာသည် တပိုတပါးသွားလိုဟန်မျိုးဖြင့် အမှတ်မဲ့ စားပွဲမှထ၍ တဘက်ခန်းသို့လိုက်ပြီး ဗိုလ်မှူးကြီး ဇုစ်အား မသိမသာ မျက်ရိပ်ပြကာ မည်သူမှမသိရှိသော ချောင်တချောင်သို့ ခေါ်သွားပြီး ခပ်တိုးတိုး ပြောလိုက်လေသည်။

"ဒီမယ် ဝန်ကြီးချုပ် ကတော်ဘေးနားက ယဉ်ကိုဇစ်ချ်ကို သိတယ်မဟုတ်လား၊ သူဟာ ဗြိတိသျှ သူလျှိုတယောက် ဖြစ်နေတယ်ရှင့်"

ဗိုလ်မှူးကြီးဇုစ်သည် အံ့အားသင့်သွားလေသည်။

"ဟုတ်ရဲ့လား သေချာရဲ့လား"

"သေချာပါတယ်ရှင့် သမ္မတကြီးကိုယ်တိုင်က ကျွန်မကို ပြောတာပါရှင်"

"ဒါဖြင့် မင်းထမင်းစားခန်းကို ဣန္ဒြေမပျက် ပြန်သွားနေလိုက်ပါ၊ ကျုပ်ဟာကျုပ် ကြည့်လုပ်လိုက်မယ်"

ဤသို့ ပြောပြီး ဗိုလ်မှူးကြီးဇုစ်သည် လျင်မြန်စွာ ထွက်ခွာသွားလေသည်။

ဗီရာလည်း ထမင်းစားခန်းသို့ ပြန်သွားလေသည်။ ညစာစားပွဲက အချိန်ကြာလေရာ အားလုံးပြီးစီး၍ ဟိုတယ်သို့ ပြန်ရောက်သောအခါ အချိန်မှာ တစ်နာရီကျော်လေပြီ ဖြစ်သည်။ ထိုအချိန်၌ သမ္မတ ဘရက်ဖို့ဒ်သည် စိတ်တိုနေပုံရလေသည်။

"ဒီမယ် ဘီလီ ညစာစားပွဲတုန်းက ရုတ်တရက် မင်းထွက်သွားတာဟာ လုံးဝ မသင့်တော်ဘူး၊ အလွန်ရိုင်းရာကျလှတယ်"

"ကျွန်မက မအောင့်နိုင်လို့ အိမ်သာကို သွားတာပါရှင့်"

"ဘာပဲဖြစ်ဖြစ် အောင့်နေဖို့ ကောင်းတာပေါ့၊ ဒီလို ဂုဏ်ပြုညှော့ခံပွဲမှာ ထွက်သွားတာမျိုး မလုပ်သင့်ဘူး"

"ကျွန်မ တောင်းပန်ပါတယ်ရှင်၊ နောက်ကို သတိထားပါ့မယ်"

"အေး သတိထားပါ၊ ကဲ မင်း အိပ်ပေတော့"

ဤမျှနှင့် စကားပြတ်သွားပြီးနောက် ဗီရာလည်း အိပ်ဆေးတပြား သောက်ပြီး အိပ်လိုက်လေသည်။

သူတို့အခန်းတွင်းမှ တယ်လီဖုန်းသံက စူးရှကျယ်လောင်စွာ မြည်လာသောအချိန်မှာ မနက်သုံးနာရီ ကျော်နေပြီ ဖြစ်သည်။

သမ္မတ၏ ရုံးအဖွဲ့ဝင်တဦးက ဆက်လိုက်ခြင်းဖြစ်သည်။

ဗြိတိသျှဝန်ကြီးချုပ် ဟီတန်က သမ္မတဘရက်ဖို့ဒ်နှင့် သီးသန့် တယ်လီဖုန်းတခုမှ အရေးတကြီး စကားပြောလိုကြောင်း ဆက်လိုက်ခြင်းဖြစ် သည်။

သမ္မတဘဘက်ဖို့ဒ်လည်း ချက်ချင်းပင် ထ၍ သီးသန့် တယ်လီဖုန်းရှိရာ အခန်းသို့ ထွက်သွားလေ သည်။

ဗီရာသည်လည်း နိုးနေပြီဖြစ်၍ စိတ်ထဲမှ စိုးရိမ်နေမိလေသည်။

အချိန်မတော် နံနက်သုံးနာရီသာသာတွင် ဗြိတိသျှဝန်ကြီးချုပ်က အမေရိကန်သမ္မတထံသို့ ဘာကြောင့် တယ်လီဖုန်းဆက်ရသနည်း။

ဆယ်မိနစ်ခန့်ကြာလျှင် သမ္မတဘရက်ဖို့ဒ်သည် အိပ်ခန်းတွင်းသို့ ပြန်ဝင်လာသဖြင့် ဗီရာက

"အရေးပေါ် ကိစ္စတခုခုများ ဖြစ်လို့လားရှင်"

ဟု မရဲတရဲ မေးလိုက်သည်။

"ဟုတ်တယ်၊ ရုရှအဖွဲ့ထဲက ငါတို့ရဲ့ အကောင်းဆုံး သူလျှိုတဦး သေသွားပြီ"

သမ္မတဘရက်ဖို့ဒ်က ပြန်ပြောလိုက်ရာ ဗီရာသည် အံ့အားသင့်တုန်လှုပ်သွားမိလေသည်။

"ဟင် သေသွားပြီ ဟုတ်လား"

"ဟုတ်တယ် ရိုးရိုးသေတာ မဟုတ်ဘူး။ အသတ်ခံရတာ လွန်ခဲ့တဲ့ နာရီဝက်လောက်က ဗြိတိသျှ ထောက်လှမ်းရေးက သူ့အလောင်းကို မြစ်ထဲမှာတွေ့တယ်။ ဓားနဲ့ အချက်ပေါင်းများစွာ ထိုးသတ်ထားတာတွေ့ရတယ်"

"လူဆိုးတွေက လုချင်ယက်ချင်လို့များ သတ်သလားရှင်"

ဗီရာက ဟန်ဆောင်၍ ပြန်မေးလိုက်သည်။

"မဟုတ်ဘူး၊ သူ့အိတ်ထဲမှာရှိတဲ့ ပိုက်ဆံအိတ်ကိုလည်း ယူမသွားဘူး၊ အခုဟာ နိုင်ငံရေး လူသတ်မှုပဲ"

"ဒီလူက ကျွန်မတို့ရဲ့အတွင်းသူလျှို (အေးဂျင်း) ဟုတ်ရဲ့လားရှင်"

"ဗြိတိသျှ ထောက်လှမ်းရေးကဆိုတော့ ငါတို့ဘက်သားပဲ ဆိုပါတော့၊ သူဟာ တခြားမဟုတ်ဘူး၊ ထမင်းစားပွဲတုန်းကတောင် မင်းကို ငါညွှန်ပြခဲ့သေးတယ်လေ၊ ရုရှဝန်ကြီးချုပ်ကတော်နားမှာ တာဝန်ကျတဲ့ ယဉ်ကိုဗစ်ချီ ဆိုတဲ့လူပဲ၊ ဒီလူ့အကြောင်းကို ဘယ်သူများ တဘက်ကို သတင်းပေးလိုက် ပါလိမ့်၊ ကိုင်း ရှိပါစေတော့လေ၊ မင်းလည်း အိပ်တော့ ဂွတ်နိုက် ဘီလီ"

"ဂွတ်နိုက်"

စကား ဖြတ်လိုက်ကြပြီးနောက် သမ္မတဘာရက်ဖို့သည် အိပ်ရာဝင်လိုက်ရာ မကြာမီ အိပ်ပျော်သွား လေသည်။

ဗီရာကသာ ယဉ်ကိုဗစ်ချီ ဘာကြောင့် အသတ်ခံရသည်ကို သိနေသဖြင့် ရုတ်တရက် အိပ်မပျော်နိုင်ဘဲ ဖြစ်နေသည်။

ယခုအတိုင်းဆိုလျှင် ကေ-ဂျီ-ဘီ အဖွဲ့ကြီးက မိမိဘက်မှ ဝင်ရောက်ကူညီကာကွယ် လိုက်ခြင်းပင် ဖြစ်ရာ အရေးရှိလျှင် ကေ-ဂျီ-ဘီ သည် တကယ်အားကိုးရပါတကားဟု စိတ်ထဲမှ အားတက်မိလေသည်။

*

အမေရိကန်သမ္မတဇနီးမောင်နှံက လန်ဒန်မြို့၌ ရောက်ရှိနေစဉ်အတွင်း ဝါရှင်တန်မြို့ သမ္မတအိမ်တော်တွင် ဆရာဝန်ဒေါက်တာ ကင်းမင်း၏ သူနာပြု ဆရာမလေး အီဆိုဘယ်မှာ ပြဿနာတခုနှင့် ရင်ဆိုင်နေရလေသည်။

ညနေဘက် အလုပ်ပြီး၍ မိတ်ဆွေနှစ်ဦးနှင့် ညစာ အတူစားရန် ချိန်းထားပြီး အိမ်မှ ထွက်တော့မည့် ဆဲဆဲတွင် ယခင်က တကြိမ် သူမထံသို့ လာရောက်ဖူးသော ကေ-ဂျီ-ဘီ ထောက်လှမ်းရေးသမား ဂရီရှင် ဆိုသူက လာရောက်ခြိမ်းခြောက်ပြန်လေသည်။

သူမ၏အတွင်းရေးကိစ္စကို သိထားသူအနေဖြင့် ခြိမ်းခြောက်ရင်း အီဆိုဘယ်အား မေးခွန်းတခု မေးလေသည်။

မေးခွန်းကလည်း အမေရိကန် သမ္မတဘာရက်ဖို့ဒ်က ဇနီးနှင့် ညအိပ်သည့်အခါ မည်သို့ ပြုမူသည် ဟူသော မေးခွန်းဖြစ်လေသည်။

"ကျုပ်မေးတာကို မှန်မှန်ဖြေရင် မင်း ဘာမှ အန္တရာယ် မရှိစေရဘူး၊ မေးရတာဟာလဲ အလွန်အရေးကြီးလို့ မေးတာပါ"

ဂရီရှင်က လေသံအေးအေးဖြင့် ခြိမ်းခြောက်မေးသဖြင့် အီဆိုဘယ်မှာလည်း မည်သို့မျှ မတတ်သာဘဲ မေးသည့်မေးခွန်းကို ပြန်ဖြေလိုက်ရလေသည်။

သူမ၏ဖြေလိုက်ပုံ အတိုချုပ်ကတော့ သမ္မတဘာရက်ဖို့ဒ်သည် ညအိပ်ရာဝင်သည့်အခါ မိန်းမနှင့် ဆက်ဆံရာတွင် ထူးထွေ ဆန်းပြားခြင်း မရှိဘဲ သာမန်လင်ယောကျ်ားများ ဆက်ဆံပုံမျိုး ရိုးရိုးပင် ဆက်ဆံတတ်သူ ဟူ၍ပင်တည်း။

*

မော်စကိုမြို့ ကရင်မလင်နန်းတော်တနေရာရှိ သူမ၏အိပ်ခန်းတွင် သမ္မတကတော်အစစ် ဘီလီသည် နာမည်ကြီး စာရေးဆရာ ဂျက်လန်ဒန်၏ စာအုပ်တအုပ်ကို ဖတ်နေလေသည်။ အမှန်တော့ သူမသည် စာအုပ်ကို စိတ်မဝင်စားဘဲ ဖတ်နေခြင်း ဖြစ်သည်။ ညစာမစားခင် အချိန်အတွင်း အချိန်ဖြုန်းသည့် သဘောနှင့် ဖတ်နေခြင်းသည် ဖြစ်လေသည်။

ထိုအခိုက် ရာဇင်သည် နောက်ဆုံးထုတ် သတင်းစာများကို ယူ၍ လာပေးရင်း သူမအတွက် ဝီစကီတခွက် ထည့်ပေးလေသည်။ ဘီလီ၏စိတ်ထဲတွင် ရုရှစကားပြန် ရာဇင်ဆိုသူအား ရန်သူအုပ်စုထဲတွင် ရည်ရည်မွန်မွန်ရှိသူ သဘောကောင်းသူတဦးဟု သတ်မှတ် သဘောထားမိလေ သည်။ စကားပြောရာတွင် ယဉ်ကျေး သိမ်မွေ့ပြီး ကိုယ်ချင်းစာနာစိတ် ရှိပုံရသည်ဟုလည်း အကဲဖြတ်မိလေသည်။

ထို့ကြောင့် ဘီလီသည် ရာဇင်အား ကောင်းမွန်စွာပင် လက်ခံစကား ပြောလေသည်။

"ဘယ်လိုလဲ တယောက်တည်းနေရတာ ပျင်းနေပြီလား"

ရာဇင်က ပြုံး၍မေးလေသည်။

"ပျင်းရုံတင်ဘယ်ကမလဲရှင့် အလွန်ကို စိတ်ပျက်နေမိပါတယ်။ တယ်လီဖေးရှင်းသတင်းကို ကြည့်လိုက်တော့ လန်ဒန်မြို့မှာ ရောက်နေတဲ့ ကျွန်မရဲ့ခင်ပွန်း သမ္မတကြီးရဲ့သတင်းတွေ ကြည့်ရတာ ကျွန်မစိတ်ထဲ ဘယ်လိုနေမလဲဆိုတာ စဉ်းစားသာကြည့်ပေတော့၊ ရှင်တို့ရဲ့ ပြဇာတ်မင်းသမီးက ကျွန်မ လန်ဒန်မြို့ရောက်ရင် ဝတ်ဖို့ အထူးချုပ်ထားတဲ့ ဝတ်စုံတွေကို ကြော့နေအောင် ဝတ်ထားတယ်ရှင့်၊ အခုအတိုင်းဆိုရင် ကျွန်မဟာ အမေရိကန်ကတော်လည်း မဟုတ်တော့ဘူး၊ ဘာမှလည်း မဟုတ်တော့ဘူး"

ပြောရင်းဖြင့် ဘီလီသည် ဝမ်းနည်းဟန်ဖြင့် မျက်ရည်များ ဝိုင်းလာလေသည်။

ရာဇင်သည် ကရုဏာဖြစ်လာပြီး လက်တဘက်ဖြင့် ဘီလီ၏ပခုံးကို အသာကိုင်ပြီး နှစ်သိမ့် အားပေးလိုဟန်ဖြင့်

"ခင်ဗျားရဲ့ခံစားချက်ကို နားလည်ပါတယ်၊ ကျွန်တော်လည်း စိတ်မကောင်းပါဘူး၊ ကိုင်း ရော့ပါ ဒါလေးတော့ သောက်လိုက်ပါဦး"

ဟု ပြောပြောဆိုဆို ရာဇင်က ဝီစကီဖန်ခွက်ကို ယူပေးလိုက်သည်။

ဘီလီသည် ရာဇင်၏အပြုအမူကို ကျေးဇူးတင်ပြီး စိတ်ထဲမှ သာယာသလိုလည်း ဖြစ်မိလေသည်။

ရာဇင်ကပင် စကားကိုဆက်၍ပြောလေသည်။

"ကျွန်တော်က ခင်ဗျားအတွက် စိုးရိမ်နေပါတယ်"

"ဘာဖြစ်လို့လဲရှင့်"

"ကေ-ဂျီ-ဘီက သိချင်တဲ့ ခင်ဗျားတို့လင်မယား အတွင်းရေးကိစ္စ ဆက်ဆံတာနဲ့ ပတ်သက်လို့ အဖြေပေးလိုက်တယ် မဟုတ်လား၊ အဲဒါကို သူတို့ မကျေနပ်ဘူး၊ ခင်ဗျားက အမှန်ကို ပြောတာ မဟုတ်ဘူးလို့ သူတို့က ယူဆထားတယ်၊ အခု သူတို့က ခင်ဗျားကို အမှန်ပြောအောင် နှိပ်စက် ညှဉ်းပန်းပြီး စစ်မေးဖို့ ကြံနေကြတယ်"

"ဟင် ဟုတ်လား၊ သူတို့က ကျွန်မလို မိန်းမတယောက်ကို ညှဉ်းပန်းနှိပ်စက်မှာလား"

"ဟုတ်ပါတယ်၊ ကေ-ဂျီ-ဘီအဖွဲ့က ရက်စက်စရာရှိရင် ဘယ်သူ့ကိုမှ မညှာဘူး၊ ခင်ဗျားတို့ လင်မယား အိပ်ခန်းထဲ ဆက်ဆံပုံကို မရရအောင် မေးလိမ့်မယ်"

"နေပါဦး ရှင်က ဘာဖြစ်လို့ ဒါတွေကို ကျွန်မကို လာပြောနေရတာလဲ"

"ဒီလိုပြောတာဟာ ကျွန်တော့်အတွက် အန္တရာယ် အများကြီးရှိပါတယ်၊ ဒါပေမဲ့ ကျွန်တော်က ခင်ဗျားကို ကူညီချင်လို့ပါပဲ"

ဤတွင် ဘီလီသည် ကျေးဇူးတင်ရာမှ စိတ်လှုပ်ရှားလာပြီး ရာဇင်အား လှမ်းဖက်လိုက်ပြီး ပါးပြင်ကို နမ်းရှုပ်လိုက်လေသည်။

"ကျွန်တော်ကတော့ ဆုံးဖြတ်ပြီးပါပြီ၊ အန္တရာယ်ရှိပေမယ့် ခင်ဗျားကို ကူညီပါမယ်၊ ကျွန်တော့်မှာ အကြံတခုရှိပါတယ်၊ နက်ဖြန် ဒီအချိန်လောက်ကျရင် အဆင်သင့် ပြင်ထားပါ။ အဝတ်အစား ခပ်နွမ်းနွမ်းတွေပဲ ဝတ်ထားပါ။ ဖိနပ်ကိုလည်း ခြေသံမကြားအောင် ဒေါက်မြင့်ဖိနပ်ကို မစီးပါနဲ့၊ ကျွန်တော်လာခဲ့မယ်၊ ခင်ဗျားအနေနဲ့ စွန့်စားဖို့သာ ပြင်ထားပေတော့"

ရာဇင်သည် ဤသို့ပြောလိုက်လျှင် ဘီလီသည် အလွန်အံ့အားသင့်မိလေသည်။ ရာဇင်ကိုလည်း ယုံကြည်အားကိုးမိလေသည်။

"ဒါထက် ရှင်က ဘာကြောင့် ကျွန်မကို အခုလို ကူညီရတာလဲဟင်"

"ဘာကြောင့်လဲဆိုတော့ ကျွန်တော်က ခင်ဗျားကို ချစ်နေမိလို့ပါပဲဗျာ" ပြောပြောဆိုဆို ရာဇင်သည် ထွက်သွားလေတော့သည်။

ဗြိတိသျှသတင်းစာဆရာများအား ဖိတ်ကြား၍ သတင်းစာ ကွန်ဖရင့် လုပ်မည့်နေရာကား လန်ဒန်မြို့ ကလဲရစ်ဂျစ်ဟိုတယ်ခန်းမဆောင်ကြီးတွင် ဖြစ်လေသည်။

သမ္မတကတော်၏ ပြန်ကြားရေးမှူးနိုရာသည် အင်္ဂလန်ပြည်ရှိ ထိပ်သီးသတင်းစာ အယ်ဒီတာများ၊ ဆောင်းပါးရှင်များ၊ သတင်းထောက်များအနက် နှစ်ဆယ့်လေးဦးကို ရွေးချယ်ဖိတ်ကြားထားရာ အားလုံးကပင် စုံညီစွာ တက်ရောက်ကြလေသည်။

ဗြိတိသျှ သတင်းစာဆရာများအနေဖြင့် အမေရိကန်သမ္မတကတော် (ဖတ်စ်လေဒီ) အား အထူးစိတ်ဝင်စားကြသဖြင့် တက်ရောက်ကြခြင်း ဖြစ်လေသည်။

ပြန်ကြားရေးမှူးနိုရာသည် သတင်းစာကွန်ဖရင့်တွင် မေးမြန်းသည့် မေးခွန်းများကို ပြေလည် ချောမောစွာ ဖြေနိုင်ရန်အတွက် ဗီရာအား ကြိုတင်ပို့ချသင်ကြားထားပြီးဖြစ်လေသည်။

ထို့ကြောင့် သမ္မတကတော်အတု ဗီရာသည် သတင်းစာကွန်ဖရင့်၌ မေးခွန်းများကို လုံးဝ အထစ်အငေါ့ မရှိဘဲ ကောင်းမွန်စွာ ဖြေကြားနိုင်လေသည်။

သို့ရာတွင် သတင်းစာကွန်ဖရင့်ကြီး ဆုံးခါနီးတွင် ပြဿနာတခု ဖြစ်ပေါ်လာလေသည်။

နာမည်ကြီး အော့ဗ်ဇာဗာ သတင်းစာမှ အယ်ဒီတာကထ၍

"မစ္စက်ဘရက်ဖို့ဒ်ခင်ဗျား ကိုယ်ရေးကိုယ်တာ မေးခွန်းလေးတခု မေးပါရစေ။ ဂျက်နက်ဖာလေးဆိုတဲ့ အမျိုးသမီးနဲ့ ပတ်သက်လို့ ဘယ်လို သဘောထားပါသလဲ"

ဤတွင် ဗီရာက ပြုံး၍ ပြန်ဖြေလေသည်။

"ဂျက်နက်ဖာလေးကတော့ ကျွန်မရဲ့အချစ်ဆုံးမိတ်ဆွေပါပဲရှင့်။ ကျွန်မတို့ အိမ်ထောင်စုထဲက မိသားစုနဲ့ မခြားပါဘူး၊ ဒါကြောင့် ရှေ့အပတ်ကျရင် သူ့ကို သွားတွေ့ဖို့ ရည်ရွယ်ထားပါတယ်"

ထိုစကားကိုကြားလျှင် နိုရာသည် အထူးပင်တုန်လှုပ်သွားမိလေသည်။

အမျိုးသမီး သတင်းထောက်တဦးကထ၍

"သမ္ဗတကတော် ပြောတာကိုများ နားကြားလွဲသလားတော့ မပြောတတ်ပါဘူး။ ရှေ့အပတ်ကျရင် ဂျက်နက်ဖာလေးကို သွားတွေ့မယ်လို့ ပြောသွားတယ် မဟုတ်လားရှင့်၊ အမှန်တော့ ဂျက်နက် ဖာလေးဟာ လွန်ခဲ့တဲ့ နှစ်ပတ်လောက်ကပဲ ကင်ဆာရောဂါနဲ့ ကွယ်လွန်သွားပြီဆိုတာကို သတင်း မကြားမိလို့များလား"

ဟု မေးလိုက်သည်။

(ဤကား ဗီရာအနေဖြင့် အကြီးအကျယ် မှားယွင်းချက်တခုပင် ဖြစ်လေသည်။ သမ္ဗတကတော် ဘီလီနှင့် အလွန်ခင်မင်ရင်းနှီးသူ ဂျက်နက် ဖာလေး ကွယ်လွန်သွားပြီး ဖြစ်ကြောင်းကို မသိဘဲ ရမ်းပြောလိုက်ခြင်း ဖြစ်ကြောင်း ထင်ရှားသည်။)

သို့သော် ဗီရာသည် ပြဇာတ်မင်းသမီးပီပီ ဟန်ဆောင်လျက်

"ကျွန်မက ဂျက်နက်ကို အလွန်ချစ်တာမို့ သူကွယ်လွန်သွားတာကို စိတ်ထဲက လက်မခံချင်လောက် အောင် ဖြစ်မိလို့ပါ"

ဟု ချော်လဲရောထိုင်သလို ပြောလိုက်လေသည်။ တဖန် ပို၍ ဆိုးသွားသည်ကား ဗီရာက ဆက်၍

"ဘာပဲဖြစ်ဖြစ် ကျွန်မတော့ သူ့ရဲ့ သင်္ချိုင်းဂူကို သွားကြည့်ပါဦးမယ်"

ဟု ပြောလိုက်ခြင်းဖြစ်သည်။ သတင်းထောက်တဦးက ထ၍

"သမ္ဗတကတော်ခင်ဗျား သူ့သင်္ချိုင်းဂူ မရှိပါဘူး။ ဂျက်နက်ဖာလေးရဲ့ ရုပ်ကလာပ်ကို မီးသင်္ဂြိုဟ် လိုက်ပြီ ဖြစ်ပါတယ်" ဟု ပြောလိုက်လေသည်။

ပြန်ကြားရေးမှူးနိုရာသည် အခြေအနေမဟန်တော့ဟု ဆုံးဖြတ်လျက် သတင်းစာကွန်ဖရင့်ကို ခပ်မြန်မြန်ပင် ရုပ်သိမ်းလိုက်လေသည်။

သူမ၏စိတ်ထဲတွင်ကား သမ္ဗတကတော်၏ မှားယွင်းစွာ ဖြေကြားပုံကို အလွန်အံ့ဩ၍ မဆုံးအောင် ဖြစ်နေသည်။

တဖန် သူတို့နှစ်ယောက်တည်း အခန်းထဲတွင် ပြန်ဆုံသောအခါ ဗီရာက သူသည် ဗြိတိသျှသတင်းစာ ဆရာများကို သဘောမကျသဖြင့် နောက်ထပ် သတင်းစာကွန်ဖရင့် မပြုလုပ်ရန် ပြောပြန်လေသည်။

"ပြီးတော့ ဒီနေ့ညနေဘက် မစ္စတာပါကာနဲ့ ဆွေးနွေးဖို့ အစီအစဉ်ကိုလည်း ဖျက်လိုက်ပါ၊ အခု တော်တော်ကြာရင် ဟဲရော့ကုမ္ပဏီမှာ ဈေးဝယ်သွားမယ်၊

လုံခြုံရေးအဖွဲ့ကိုသာ အကြောင်းကြား လိုက်ပါ"

ဤသို့ ပြောနေစဉ် ဗီရာ၏မျက်နှာထားသည်(ယခင် နိုရာမြင်နေကျ ဘီလီ၏မျက်နှာထားမျိုး မဟုတ်ဘဲ) မသိမသာ တင်းမာနေသည်ကိုလည်း သတိပြုမိလေသည်။

ထို့ကြောင့် နိုရာသည် သတင်းစာဆရာပါကာ၏အခန်းသို့ သွားသောအခါ သိသိသာသာ မျက်နှာပျက်နေရှာလေသည်။

"ဒီနေ့ညနေ ရှင်နဲ့ စာအုပ်ကိစ္စ ဆွေးနွေးဖို့ အစီအစဉ်ကို ဖတ်စ်လေဒီက ဖျက်လိုက်ပြီရှင့်၊ ဒါကြောင့် ရှင်နဲ့ ကျွန်မ အေးအေးဆေးဆေး စကားပြောရအောင် အောက်ထပ်မှာ တခုခုသွားသောက်ကြမယ်"

နိုရာ ပြောသဖြင့် ပါကာလည်း ဟိုတယ်အောက်ထပ် လူရှင်းသောနေရာတွင် ယမကာတခွက်စီ မှာသောက်ရင်း ထိုင်စကားပြောကြလေသည်။

နိုရာအနေဖြင့် မျက်နှာပျက်နေသည်ကို ပါကာက သတိပြုမိလေသည်။

"ဒီမယ်နိုရာ မင်းကြည့်ရတာ တမျိုးပဲ၊ ဘာဖြစ်နေတာလဲ"

"ကျွန်မက ရှင့်ကို မေးခွန်းတခု မေးပါရစေ၊ ရှင်တခါက ပြောဖူးတယ်မဟုတ်လား၊ မော်စကိုက ပြန်လာပြီးတဲ့နောက်ပိုင်း ဖတ်စ်လေဒီဟာ တမျိုးဖြစ်လာတယ်လို့ အဲဒါ ရှင် ဘာကြောင့် ပြောတာလဲ"

"ဒါကို မင်းကပါ စိတ်ဝင်စားလာပြီလား"

"စောစောကတော့ စိတ်မဝင်စားမိပါဘူး၊ အခုတော့ ကျွန်မလည်း စိတ်မဝင်စားဘဲ မနေနိုင်ဘဲနဲ့ ဖြစ်လာမိတယ်ရှင့်"

"မင်း တကယ်သိချင်သလား"

"သိချင်လို့ မေးတာပေါ့ရှင့်"

"ကဲ ဒါဖြင့် သေသေချာချာ နားထောင်ပေတော့"

ဤသို့ အစချီကာ ပါကာသည် သူ၏ဒိုင်ယာရီမှတ်စုစာအုပ်တွင် ရေးသားထားသည့် အကြောင်းများကို ပြောပြလိုက်လေသည်။ အထူးသဖြင့် လော့စ်အိန်ဂျယ်လိစ်မြို့၌ ဖြစ်ပျက်ခဲ့ပုံများ၊ ဘီလီနှင့် အလွန်ရင်းနှီးခဲ့သော အနက်ဂက်ဆိုသူ အမျိုးသမီးအား မမှတ်မိဘဲ လူမှားခဲ့ပုံ၊ ဘီလီ၏ ခွေးကလေးက ရန်သူ လူစိမ်းတယောက်ကို ဟောင်ခဲ့ပုံ စသည်တို့ ကို ပြောပြလိုက်သည်။

နိုရာကလည်း သတင်းစာကွန်ဖရင့်၌ ဂျက်နက်ဖာလေး သေဆုံးသွားကြောင်း ဘီလီက မသိသယောင် ပြောခဲ့ပုံကို ပြောသောအခါ ပါကာ ကိုယ်တိုင် အထူး အံ့ဩမိလေသည်။

သူတို့နှစ်ဦးစလုံး၏စိတ်ထဲတွင် အမေရိကန်သမ္မတကတော် ဘီလီသည် မော်စကိုမြို့မှ ပြန်လာပြီး ချိန်မှစ၍ တမျိုးဖြစ်လာသည်မှာ သေချာသည်ဟု အခိုင်အမာ ကောက်ချက်ချလိုက်မိသည်။ သို့သော် မည်သူ့ကိုမှ မပြောဘဲ လျှို့ဝှက်ထားပြီး ဆက်လက် စောင့်ကြည့်ရန် ဆုံးဖြတ်လိုက်ကြသည်။

ဤသို့ ရင်းနှီးစွာ ပြောဆိုဆွေးနွေးကြပြီးနောက် ပါကာ၏အခန်းသို့ပြန်သွားကြလေသည်။

နိုရာသည် စိတ်ထိခိုက်လှုပ်ရှားနေရာမှ ပါကာအား ရင်းနှီးစွာ အားကိုးလိုစိတ် ဖြစ်လာရုံမက ထိုအချိန်မှစ၍ သူတို့နှစ်ဦးသည် အချင်းချင်း သစ္စာတိုင်ကာ ချစ်သူများဖြစ်သွားကြလေတော့သည်။

*

## အခန်း (၇)

သမ္မတကတော် ဘီလီသည် မော်စကိုမြို့ရှိ သူမ၏အခန်းအလယ်တွင် ငြိမ်သက်စွာ မတ်တတ်ရပ် နေပြီး ရာဇင်၏ အဝတ်အစားများကို သေချာစွာ အကဲခတ်ကြည့်ရှုနေလေသည်။

ဝတ်စားထားပုံက ထည်ထည်ဝါဝါ မဟုတ်ဘဲ သာမန် တိုးရစ်ခရီးသည် အမျိုးသမီးတဦးအသွင်မျိုးဖြင့် ခပ်နွမ်းနွမ်း အဝတ်အစားများကိုသာ ဝတ်ဆင်ထားလေသည်။

"ဘယ့်နှယ်လဲရှင့်၊ ကျွန်မ ဝတ်စားထားပုံက ဟုတ်ရဲ့လား"

ဘီလီက မေးလိုက်ရာ ရာဇင်က ကျေနပ်ဟန်ဖြင့် ခေါင်းညိတ်လိုက်လေသည်။

"အိုကေပါပဲ၊ ဘာမှ ပြောစရာမရှိပါဘူး။ အခုပုံအတိုင်းဆိုရင် နေ့စဉ် မော်စကိုမြို့မှာ တွေ့နေရတဲ့ နိုင်ငံခြားသား ခရီးသည် အမျိုးသမီးတဦးနဲ့ တူနေတယ်။ နေ့စဉ်နဲ့အမျှ တိုးရစ်ခရီးသည်တွေဟာ မော်စကိုမြို့က လီနင်ရဲ့သင်္ချိုင်းဂူနဲ့ စိန့်ဘာဘီ ဘုရားရှိခိုးကျောင်းမှာ ဓာတ်ပုံတွေ တဖျပ်ဖျပ် ရိုက်နေကြတယ်။ ဒါကြောင့် ဒီလို ဝတ်စားပြီးသာ သွားလိုက်ရင် ခင်ဗျားဟာ လွတ်အောင် ပြေးနိုင်ဖို့ ငါးဆယ်ရာခိုင်နှုန်း သေချာတယ်လို့ ဆိုရမယ်"

"ကျန်တဲ့ ငါးဆယ်ရာခိုင်နှုန်းကကောရှင့်"

"ဒါတော့ ခင်ဗျားရဲ့ကုသိုလ်ကံပဲ၊ ကံကောင်းရင် ခင်ဗျား လုံးလုံးလွတ်မြောက် သွားပါလိမ့်မယ်"

"ရှင်က ဘယ်လိုသဘောရသလဲ၊ ကျွန်မ ထွက်ပြေးရင် လွတ်နိုင်မယ်လို့ ထင်သလား"

"ဖြစ်နိုင်ပါတယ်။ ကိုင်း အစီအစဉ်ကို ထပ်ပြီး ပြောကြဦးစို့။ ခင်ဗျားက ဒီအဆောက်အအုံက ထွက်သွားပြီး စပါစကီပေါက်က တဆင့် သွားရမယ်။ ပြီးတော့ ဂျီ-ယူ-အမ် ကုန်ပဒေသာတိုက်ရှေ့က ခပ်မှန်မှန် ဖြတ်လျှောက်ပြီး ဗော့ဒ်ကာ စားသောက်ဆိုင်ကို သွားရမယ်။ အဲဒီအစီအစဉ်အတွက် အချိန် ဆယ့်ငါးမိနစ်လောက် ကြာမယ်၊ ဟိုရောက်တော့ အဖျော်ယမကာတခွက် ဝယ်သောက်ရမယ်။ သောက်ဖို့ ပိုက်ဆံအကြွေကိုပါ ပေးလိုက်မယ်။ အဲဒီဆိုင်မှာ ခင်ဗျားက စောင့်ပြီး

လူတယောက်ကို စောင့်ကြည့်ရမယ်။ ဒီလူက အပြာရောင် လက်ဆွဲသေတ္တာတလုံးကို ဆွဲကိုင်လာလိမ့်မယ်။ သူကလည်း ခင်ဗျားကို သတိထားကြည့်နေလိမ့်မယ်။ အဲဒီလူကို တွေ့တာနဲ့ ခင်ဗျားက သူ့ဆီကို ချဉ်းကပ်သွားရုံပဲ။ ဒီလူဟာ ခင်ဗျားကို အမေရိကန်သံရုံးကို တိုက်ရိုက် ခေါ်သွားလိမ့်မယ်။ ဟို ရောက်ရင်တော့ ခင်ဗျားဟာ ခင်ဗျားစခန်းဆက်သွားရုံပဲ"

"ရှင်ပြောပုံက ဒီကထွက်ပြေးဖို့ရာ လွယ်လွယ်ကလေး ဖြစ်နေပါလား"

"ဒါတော့ လွယ်ချင်လည်း လွယ်မယ်မလွယ်ဘဲ ခက်ချင်လည်း ခက်နိုင်တယ်၊ ကြည့်ကြသေးတာပေါ့"

ပြောရင်းနှင့် ရာဇင်သည် သူ၏အင်္ကျီအိတ်ထဲမှ ရှုရှုပိုက်ဆံအကြွေများ ထုတ်ယူပြီး ဘီလီအား ပေးလိုက်သည်။ ထို့နောက် သူ၏ လက်ပတ်နာရီကို ကြည့်လိုက်သည်။

"ကဲ အချိန်က သိပ်မရှိဘူး၊ ခင်ဗျား ထွက်ဖို့လမ်းကို သေချာအောင် ကျွန်တော်က မြေပုံတခု ဆွဲပြပြီး အသေးစိတ် ထပ်ပြောပြပါ့မယ်။ အဲဒါ ဆယ့်ငါးမိနစ်လောက် ကြာမယ်။ နောက်ထပ် ဆယ်မိနစ်လောက် ကြာရင် ခင်ဗျားက စပြီး ထွက်ရလိမ့်မယ်"

"နေပါဦးရှင့်၊ ကျွန်မ အခုရောက်နေတဲ့ နေရာကိုက ဘယ်မှာလဲ၊ ဘယ်လိုလုပ်ပြီး စထွက်ရမှာလဲ" ဘီလီက ပြန်မေးလိုက်သည်။

"အခု ခင်ဗျားရောက်နေတာဟာ ဆူပရင်း ဆိုဗီယက်အဆောက်အအုံလို့ခေါ်တယ်။ လူနေဖို့ အခန်းတွေ ဖန်တီးထားတယ် ဆိုပါတော့။ အခု ကျွန်တော်နဲ့ လိုက်ခဲ့ပါ၊ ဘယ်က စထွက်ရမယ်ဆိုတာ ပြပေးပါ့မယ်"

ပြောပြောဆိုဆို ရာဇင်သည် ဘီလီအား မီးဖိုခန်းအတွင်းသို့ ခေါ်သွားလေသည်။

ထိုအခန်းတွင်းရှိ ပန်းကန်များ ဆေးကြောသည့် ကြွေခွက်အလွန်နားသို့ရောက်လျှင် ရာဇင်သည် ကြမ်းပြင်တွင် ဒူးထောက် ထိုင်ချလိုက်သည်။

ကြမ်းပြင်တွင် ခင်းထားသော ဖယောင်းပုဆိုး အခင်းတနေရာကို ညွှန်ပြရင်း ရာဇင်က ဆက်လက် ရှင်းပြလေသည်။

"ဒီနေရာမှာ နဂိုကတည်းကရှိတဲ့ အံဖုံးတံခါးပေါင်းတခု ရှိတယ်။ ဒါကို

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က သတိပြုမိပုံ မရဘူး။ အံဖုံးတံခါးကို ဖွင့်ဖို့ကလည်း လွယ်လွယ်လေးပါ။ ဟောဒီဘေးနှစ်ဘက်ကို အသာ ကိုင် မ လိုက်ရုံပဲ"

ရာဇင်က ပြောရင်းနှင့် အံဖုံးတံခါး ဖွင့်ပုံကိုပါ ပြသလေသည်။

"ပြီးတော့ ကျွန်မက ဘာလုပ်ရမှာလဲ"

"အံဖုံးတံခါးအတွင်းမှာ လှေကားတခုရှိတယ်။ အဲဒီလှေကားအတိုင်း ဆင်းသွားပါ။ ဒီအောက်ခန်းက ရှေးခေတ် တချိန်တုန်းက ပစ္စည်းသိုလှောင်တဲ့စတိုခန်းအဖြစ် အသုံးပြုခဲ့ကြတယ်။ တဘက်နံရံနားမှာ နောက်ထပ် လှေကားတခု တွေ့လိမ့်မယ်။ လှေကားအတိုင်း တက်သွားရင် နောက်ထပ် စတိုခန်းတခု ရှိတယ်။ ဒါပေမဲ့ ကျွန်တော်က ကြိုတင်ဖွင့်ထားလိုက်ပြီးပြီ။ ခင်ဗျားက အဲဒီတံခါးက ထွက်လိုက်ရင် ကရင်မလင် နန်းတော်ရဲ့ပြင်ဘက်လမ်းမကို ရောက်သွားလိမ့်မယ်။ ဒါတွေ ခင်ဗျား ပိုပြီး ရှင်းရှင်းလင်းလင်း သိအောင် မြေပုံနဲ့ ရှင်းပြပါဦးမယ်"

ဤသို့ပြောပြီး ရာဇင်သည် သူ၏ အင်္ကျီအိတ်ထဲမှ မြေပုံကြမ်းတခုကို ဆွဲထုတ်ယူပြသရင်း ဘီလီအား အသေးစိတ် ထပ်မံ ရှင်းပြလေသည်။

"ဒီပတ်ဝန်းကျင်ရဲ့အနေအထားကို ခင်ဗျားသိထားဖို့ လိုလိမ့်မယ်၊ ကရင်မလင်နန်းတော်ရဲ့ အကျယ်အဝန်းဟာ ဘယ်လောက်ကြီးသလဲဆိုရင် စုစုပေါင်း ၆၉ ဧကေ ရှိတယ်။ ဒါကြောင့် ခင်ဗျားအခုဖြတ်သွားရမယ့်နေရာဟာ ကျွန်တော် ခဲတံနဲ့ ဆွဲပြထားတယ် ဟောဒီမှာ ကြက်ခြေ ပြထားတဲ့ စကြံအတိုင်း ခင်ဗျားလျှောက်သွားရင် အပြင်ဘက်ထွက်တဲ့ တံခါးပေါက်ဝကို ရောက်သွားမယ်၊ ခု ပြောတာတွေဟာ ရှင်းပါရဲ့လား"

"ဟုတ်ကဲ့ ရှင်းပါတယ်"

ဤတွင် ရာဇင်သည် မြေပုံကိုထောက်၍ ဆက်ပြောပြန်လေသည်။

"ဟောဒီလမ်းအတိုင်း ခင်ဗျား ထွက်သွားရင် စပါစကီတံခါးကို ရောက်သွားမယ်၊ အဲဒီမှာ အစောင့် တဦးတော့ရှိတယ်။ သူက ခင်ဗျားကို တိုးရစ်ခရီးသည်မှတ်ပြီး မေးချင်မှမေးမယ်၊ တကယ်လို့ မေးရင်လည်း ခင်ဗျားက တိုးရစ်ခရီးသည် အဖော်တွေနဲ့ ကွဲသွားလို့ပါလို့ ဖြေလိုက်ရုံပါပဲ၊ ခင်ဗျားက ကရင်မလင်နန်းတော်ကို လာလေ့လာတာပါလို့လဲ ပြောနိုင်တာပဲ၊ ကုန်ပဒေသာတိုက်ကြီးကိုသာ လက်ညှိုးထိုးပြလိုက်ပါ၊ တံခါးစောင့်က အင်္ဂလိပ်စကားလည်း တတ်မှာမဟုတ်ပါဘူး၊ ကုန်ပဒေသာ တိုက်ကိုတော့ သွားချင်တယ်ဆိုတာ သဘောပေါက်ပါလိမ့်မယ်၊ ပြီးတော့ ခင်ဗျားရဲ့

ဝတ်စားထားပုံက သာမန် အမေရိကန်တိုးရစ်ခရီးသည် တယောက်ပဲလို့ ထင်မှာပဲ"

"ဒီလိုသာ ဖြစ်ရင်တော့ ကောင်းတာပေါ့ရှင်"

"ဖြစ်မှာပါပဲ၊ အိုကေ ခင်ဗျား ဆက်သွားရင် ဥယျာဉ်နီဆိုတာကို ဖြတ်သွားရမယ်၊ ကုန်ပဒေသာတိုက် ကိုလည်း ကျော်သွားရမယ်၊ ပြီးတော့မှ ဖော့ဒ်ကာဆိုတဲ့ဆိုင်ကို ရောက်မယ်၊ အဲဒီမှာ ခင်ဗျားက အဖျော်ယမကာ တခွက် ဝယ်သောက်ရင်း အပြာရောင်လက်ဆွဲသေတ္တာနဲ့လူကို စောင့်နေရုံပဲ၊ ရှင်းရဲ့ မဟုတ်လား"

"ဟုတ်ကဲ့ရှင်းပါတယ်"

"ဘာပဲဖြစ်ဖြစ် မရှင်းတာဆိုရင် မေးနိုင်ပါတယ်၊ အခုအချိန်ဟာ မေးဖို့ အကောင်းဆုံး အချိန်ပါပဲ"

ဤတွင် ဘီလီသည် စဉ်းစားရသမျှမေးခွန်းများကို မေးလေသည်။ ရာဇင်ကလည်း စိတ်ရှည်လက်ရှည် ပြန်ဖြေလေသည်။

ထို့နောက် ရာဇင်သည် သူ၏အင်္ကျီအိတ်ထဲမှ စာရွက်အလွတ်တရွက်နှင့် ခဲတံတချောင်းကို ဘီလီအား ပေးလေသည်။

"အဲဒီစာရွက်မှာ ခင်ဗျားလက်ရေးနဲ့ မြေပုံကို ကူးယူလိုက်ပါ၊ မူရင်း ကျွန်တော့်မြေပုံကိုတော့ ဖျောက်ဖျက်ပစ်ရမယ်၊ ကျွန်တော့်လက်ရေးနဲ့ စာရွက်စာတမ်းတခု ခင်ဗျားဆီမှာရှိနေရင် ကျွန်တော့်အဖို့ အလွန် အန္တရာယ်များပါတယ်"

ရာဇင်က ပြောသဖြင့် ဘီလီလည်း စာရွက်အလွတ်ပေါ်တွင် မြေပုံကို လျင်မြန်စွာ ကူးယူလိုက်လေ သည်။

ထို့နောက် စာရွက်ကိုသူမ၏အင်္ကျီအိတ်ထဲသို့ ထည့်ထားလိုက်လေသည်။

ရာဇင်သည် မူရင်းစာရွက်ကို အစိတ်စိတ်အမြွာမြွာဖြစ်အောင် ဆွဲဖြဲပြီးနောက် ရေချိုးခန်းထဲသို့ဝင်၍ အိမ်သာ ကြွေအိုးထဲသို့ ထည့်ကာ ရေဆွဲချလိုက်လေသည်။

"ကျွန်မဖြင့် ရှင့်ကို ကျေးဇူးတင်လို့ မဆုံးပါဘူး"

ဘီလီသည် ရာဇင်၏လက်နှစ်ဘက်ကို ရင်းနှီးစွာ ဆုပ်ကိုင်ရင်း တကယ်ကျေးဇူးတင်ဟန်ဖြင့် ပြောကြားလိုက်လေသည်။

"ကိစ္စမရှိပါဘူး၊ ကဲ အချိန်မရှိတော့ပါဘူး ကျွန်တော်က ပြန်ထွက်သွားရတော့မယ်၊ အရေးကြီးတာ ခင်ဗျားသွားရမယ့်လမ်းကို အလွတ်မှတ်မိနေဖို့ပဲ၊ အချိန်က ဆယ်မိနစ်သောက် ရှိတယ်။ ပြီးတော့ ခင်ဗျား အမြန်ဆုံး ထွက်သွားပေတော့"

"ကျွန်မ ရှင့်ကို ကျေးဇူး မမေ့ပါဘူး တကယ်ပြောတာပါ၊ အမေရိကန်ကို ပြန်ရောက်ရင် ကျွန်မ ရှင့်ကို ကူညီပါ့မယ်၊ ကျွန်မအဖို့ ဒီမှာ နေရတုန်း ရှင့်ကြောင့်သာ အသင့်အတင့် စိတ်သက်သာရာ ရပါတယ်"

"ကျွန်တော်ကတော့ ခင်ဗျား လွတ်မြောက်အောင် ထွက်သွားတဲ့အထိ ဒီမှာပဲနေရမယ်၊ တကယ်လို့ တပ်လှန့်နှိုးတဲ့ ခေါင်းလောင်းသံ မမြည်ရင် ခင်ဗျား လွတ်မြောက်သွားပြီလို့ ကျွန်တော် တွက်လို့ ရမှာပဲ"

"ကျေးဇူး အထူးတင်ပါတယ်ရှင်"

ပြောပြောဆိုဆို ဘီလီသည် ရာဇင်အား ဖက်၍ နမ်းရှုပ်လိုက်လေသည်။

ရာဇင်သည် သူမအား ရှွန်းရွှန်းစာစားကြည့်ရင်း တစုံတခု ပြောမည်လုပ်ပြီးကာမှ မပြောတော့ဘဲ လျင်မြန်စွာ ထွက်သွားလေတော့သည်။

တယောက်တည်း ကျန်ရစ်သောအခါ ဘီလီသည် အင်္ကျီအိတ်ထဲမှ မြေပုံကြမ်းကို ဆွဲထုတ်၍ အသေးစိတ် လေ့လာကြည့်နေလေသည်။

တကယ်တော့လည်း သည်နေရာမှ လွတ်မြောက်အောင် ထွက်ပြေးရန်မှာ မလွယ်မှန်း သူမ သိထားပေသည်။ အခက်အခဲ အနှောင့်အယှက် အမျိုးမျိုး ရင်ဆိုင်ရမည်ဖြစ်ပေသည်။ သို့ရာတွင် ခင်ပွန်းဖြစ်သူ သမ္မတ ဘရက်ဖို့ဒ်နှင့် လန်ဒန်မြို့တွင် ပြန်လည် တွေ့ဆုံရမည့်အရေးကို စိတ်ကူးယဉ်ကာ သူ့ကိုယ်သူ စိတ်ဓာတ် မကျအောင် ပြန်အားပေးလိုက်ရလေသည်။

ထို့ကြောင့် မြေပုံစာရွက်ကို ကောင်းစွာ မှတ်မိအောင် အထပ်ထပ် လေ့လာမှတ်သားပြီးနောက် နာရီကို ကြည့်လိုက်ရာ ကိုးမိနစ် အချိန်ကုန်သွားပြီဖြစ်သဖြင့် ဘီလီသည် မီးဖိုခန်းဘက်သို့ ထွက်ခဲ့လေသည်။

စိတ်လှုပ်ရှားမှုကြောင့် သူမ၏ ရင်ထဲတွင်ကား တထိတ်ထိတ် ဖြစ်နေမိလေသည်။ မီးဖိုခန်းသို့ ရောက်သောအခါ စိတ်ကိုတင်း၍ ရာဇင် ပြောပြသည့်အတိုင်း အံဖုံးတံခါးကို ဖွင့်လိုက်ရာ အလွယ်တကူပင် ပွင့်သွားလေသည်။

အံဖုံး၏ အတွင်း၌ လှေကားတခု တွေ့ရသဖြင့် အသာဆင်းသွားသောအခါ ပစ္စည်းသိုလှောင်သော စတိုခန်းသို့ ရောက်သွားလေသည်။ ထိုအခန်းအတွင်း၌

ပရိဘောဂ ပစ္စည်းအဟောင်းများ စုပုံထားသည်ကို တွေ့ရလေသည်။

အခန်း၏ တဘက်အစွန်းတွင် လှေကားတခု တွေ့ရပြန်လေသည်။ ဘီလီသည် ထိုလှေကားမှ တက်သွားရာ တံခါးတခု တွေ့ရပြန်လေသည်။ ထိုတံခါးကို သော့ခတ်ပိတ်ထားမည် မဟုတ်ဟု ရာဇင်ကတော့ ပြောခဲ့လေသည်။ တံခါးမှ ထွက်လိုက်လျှင် စင်္ကြံတခုသို့ ရောက်သွားလေသည်။ ထို့နောက် ဘာဆက်လုပ်ရမည်ကို မေ့သွားပြန်သဖြင့် အင်္ကျီအိတ်ထဲမှ မြေပုံကို ဆွဲထုတ်ယူလိုက် သည်။ သို့သော် ချက်ချင်းပင် သတိရလာသဖြင့် မြေပုံကို ပြန်သိမ်းလိုက်သည်။

စင်္ကြံသို့ရောက်လျှင် မျက်နှာချင်းဆိုင်ဘက်၌ တံခါးပေါက်တခု ရှိသည်။ ထိုတံခါးမှ ထွက်လိုက်ပါက အုပ်ချုပ်ရေးရုံး အဆောက်အအုံကို တွေ့ရပြီး ထိုမှတဆင့် သူမသည် ရက်ဒ်စကွဲယားခေါ် ဥယျာဉ်နီသို့ ဆက်သွားရမည်ဖြစ်ပေသည်။

ဘီလီသည် သူမအား ရာဇင်က ဆယ်မိနစ် အချိန်ပေးခဲ့သည်မှာ လုံလောက်ပါ၏လောဟူ၍ စိုးရိမ်မိပြန်လေသည်။ နေ့စဉ် စားသောက်ချိန်ရောက်တိုင်း ကေ-ဂျီ-ဘီ အစောင့်များက သူမ၏ အခန်းသို့လာ၍ အခန်းထဲတွင် မိမိမရှိကြောင်း သိရသည်နှင့် အစောင့်များက သက်ဆိုင်ရာသို့ တပ်လှန့်နှိုးလိုက်မည်မှာ သေချာသည်။ ဤသို့ တွေးပြီး စိုးရိမ်မိသဖြင့် ဘီလီသည် အမြန်ဆုံး အပြင်ဘက်သို့ ရောက်အောင် ထွက်ရန် ဆုံးဖြတ်လိုက်လေသည်။

စေ့ထားသောတံခါးမှ ထွက်လိုက်သောအခါ ရာဇင်ပြောသည့်အတိုင်း လူသွားစင်္ကြံတခုသို့ ရောက်သွားလေသည်။ ထိုမှတဆင့် အုပ်ချုပ်ရေးရုံး အဆောက်အအုံအနီးသို့ ရောက်သွားသည်။

မလှမ်းမကမ်းတွင် မြင်နေရသော လီနင်၏သင်္ချိုင်းဂူဗိမာန်ကြီးအနီးသို့ ရောက်သောအခါတွင် ရုရှတပ်နီတော်မှ တပ်သားလေးဦးတို့ စကား ပြောနေကြလေသည်။

ဘီလီသည် စကားပြန် ရာဇင် ညွှန်ကြားသည့်အတိုင်း ပြေးသွားခြင်း မပြုဘဲ နိုင်ငံခြား တိုးရစ် ခရီးသည်တဦးပမာ ခပ်မှန်မှန်ပင် ဣန္ဒြေမပျက် လျှောက်ထွက်သွားလေသည်။

ထိုအခိုက် အတော်အလှမ်းဝေးသောနေရာဆီမှ ဝိုင်ယာလက်ကားများ အသုံးပြုသည့် ဥသြဆွဲသံ လိုလို အသံတခုကို ခပ်သဲ့သဲ့ ကြားလိုက်လေရာ ဘီလီသည် မျက်လုံးပြူးသွားမိလေသည်။

သူမ၏အခန်းမှ ပျောက်နေခြင်းကို သက်ဆိုင်ရာမှ သိသွား၍ လိုက်လံ ရှာဖွေဖမ်းဆီးရန် တပ်လှန့် နှိုးလိုက်ခြင်းပေလော။ မိမိအခန်းသို့ ပြန်သွားရန်ကလည်း အချိန်မရှိတော့သဖြင့် ဘီလီမှာ အကျပ်တွေ့နေတော့သည်။ ထိုအတောအတွင်း စပါစကီ တံခါးမှ ရိုင်ဖယ်သေနတ်ကိုင် ရုရှစစ်သားတစု လမ်းမပေါ်သို့ ပြေးထွက်သွားသည်ကို လှမ်းမြင်လိုက်ရလေသည်။

ဤအခြေအနေတွင် ဘီလီသည် ခြေကုန်သုတ် ပြေးရုံမှတပါး အခြားနည်းလမ်း မရှိတော့သဖြင့် တအားထွက်ပြေးလေသည်။ သူမ၏နောက်မှ စစ်သားများက ရုရှဘာသာဖြင့် ဟစ်အော်သံတွေကို လည်း ကြားနေရသည်။

ဘီလီသည် ခြေဦးတည့်ရာသို့ ပြေးသွားရင်း အဆောက်အအုံတခု အနီးသို့ ရောက်သွားသဖြင့် ထိုအဆောက်အုံတွင်းသို့ ပြေးဝင်လိုက်လေသည်။

ခပ်ကျယ်ကျယ် အခန်းတခန်းသို့ ရောက်သွားပြီး လှည့်ပတ်ကြည့်လိုက်ရာ အမျိုးသမီး ဝဝတဦးကို တွေ့ရလေသည်။

ဘီလီသည် ထိုမိန်းမကြီးနားသို့ ချဉ်းကပ်သွားသဖြင့်

"ရှင်... ရှင် အင်္ဂလိပ်စကား ပြောတတ်ပါသလား" ဟု မေးလိုက်ရာ အမျိုးသမီးကြီးက ခေါင်းညိတ် ပြလေသည်။

"ကျွန်မဟာ အမေရိကန်လူမျိုးပါ။ တက္ကဆပ်စ်နယ်က ဖြစ်ပါတယ်"

ဤတွင် ဘီလီ အားတက်သွားမိလေသည်။

"အခု ကျွန်မရောက်နေတာ ဘာအဆောက်အအုံပါလဲရှင်"

"ဒီနေရာဟာ ယဉ်ကျေးမှုဌာနဝန်ကြီးရဲ့ဧည့်ခန်းဆောင်ဖြစ်ပါတယ်"

"အစ်မကြီးက အမေရိကန်လူမျိုး ဟုတ်ပါတယ်နော်"

"ဟုတ်ပါတယ်၊ ကျွန်မက အမေရိကန်နိုင်ငံ တက္ကဆပ်စ်ပြည်နယ်က အနုပညာပြတိုက်မှာ အလုပ်လုပ်တဲ့ မစ္စက်ဝှိုက် ဖြစ်ပါတယ်"

"ဒါဖြင့် ရှင် ကျွန်မကို တဆိတ်ကူညီစမ်းပါလားရှင်"

"ကျွန်မ ဘယ်လိုကူညီရမှာလဲ"

မစ္စက်ဝှိုက်က နားမလည်ဟန်ဖြင့် ပြန်မေးရာ ဘီလီသည် အမျိုးသမီးကြီး၏ပခုံးကို လျင်မြန်စွာ ကိုင်လိုက်သည်။

"ကျွန်မ ပြောသလိုသာ လုပ်စမ်းပါရှင်"

"ဘာလုပ်ရမှာလဲရှင့်"

"ဒီကထွက်သွားတာနဲ့ အမေရိကန်သံရုံးကို ချက်ချင်းသွားလိုက်ပါ၊ သံအမတ်ကြီး ယန်ဒယ်လ်ဆိုတာ ကျွန်မရဲ့မိတ်ဆွေဖြစ်ပါတယ်။ သံအမတ်ကြီးကိုတွေ့ရင် ကျွန်မကို ကရင်မလင်နန်းတော်ထဲမှာ ဖမ်းထားပါတယ်လို့ ပြောပြလိုက်ပါ။ ပြီးတော့ အခြားမိန်းမတယောက်က ကျွန်မ ဟန်ဆောင်နေတယ်ဆိုတာကိုလည်း ပြောပြလိုက်ပါ"

"ရှင်ပြောတာ ကျွန်မ နားမလည်ပါလား၊ ရှင်က ဘယ်သူလဲ"

မစ္စက်ဝှိုက်က တကယ်ပင် နားမလည်ဟန်ဖြင့် မေးလိုက်လေသည်။

"ရှင် ကျွန်မကို သေသေချာချာကြည့်စမ်းပါ။ ကျွန်မရုပ်ကို ရှင်မမှတ်ဘူးလားဟင်"

"ဩော် မှတ်မိသလိုတော့ ရှိတယ်လေ ရှင်က"

"ဟုတ်ပါတယ်၊ ကျွန်မဟာ သမ္မတကြီးဘရက်ဖို့ဒ်ရဲ့ ဇနီးဘီလီဖြစ်ပါတယ်"

"ဒါဖြင့် ရှင်က ဘာကြောင့် အခု ဒီကို ရောက်နေတာလဲရှင့်"

"ကျွန်မ ရှင်းပြပါ့မယ် ကျွန်မက"

ဘီလီ၏ စကားမဆုံးမီ ရုံးခန်းအတွင်းသို့ ဝင်သည့် တံခါးတခု ပွင့်လာလေသည်။

မစ္စဝှိုက် ဆိုသူလည်း ထိုင်ရာမှ ထလိုက်သည်။

"ကျွန်မ ယဉ်ကျေးမှုဝန်ကြီးနဲ့ တွေ့ဖို့ ချိန်းထားတာ၊ ကျွန်မအလှည့် ရောက်ပြီနဲ့ တူတယ်"

ထိုအချိန်၌ အတွင်းရုံးခန်းသို့ ဝင်သည့် တံခါးက ပွင့်စပြုနေပြီ ဖြစ်သော်လည်း ဝန်ကြီး၏ ကိုယ်ရေးအရာရှိက ပြင်ဘက်သို့ မရောက်လာသေးချေ။ ဘီလီသည် သူ့အား ထိုလူမြင်သွားမည်ကို စိုးရိမ်သဖြင့် မစ္စက်ဝှိုက်အား တောင်းပန်တိုးလျှိုးဟန်ဖြင့် တချက် လှမ်းကြည့်ပြီးနောက် အခန်းပြင်ဘက်သို့ ထွက်ပြေးလေသည်။

သို့သော် တံခါးပေါက်ဝတွင်ပင် ကေ-ဂျီ- ဘီ အစောင့်နှစ်ဦးနှင့် ပက်ပင်းတိုးလေသည်။

ဘီလီသည် ကြောက်အားလန့်အားနှင့်

"ကျွန်မကို မသတ်ကြပါနဲ့ရှင်"

ဟု ဟစ်အော်တောင်းပန်လိုက်လေသည်။

အစောင့်နှစ်ဦးက သူမအား ခပ်ကြမ်းကြမ်းပင် ဖမ်းဆွဲလိုက်ချိန်တွင်မူ ဘီလီသည် သတိမေ့သွားလေ တော့သည်။

သတိပြန်ရလာသောအခါ ဘီလီသည် သူမ မူလနေထိုင်သည့် အခန်းတွင်းသို့ ပြန်ရောက်နေလေ သည်။

ကုလားထိုင်တလုံးတွင် ထိုင်လျက် ဖြစ်နေသော်လည်း လုံးဝ လှုပ်ရှားလို့မရဘဲ ဖြစ်နေသည်။ အကြောင်းမူကား သူမ၏ခြေနှင့် လက်များကို ကုလားထိုင်တွင် ကြိုးဖြင့် တုပ်နှောင်ထားသော ကြောင့်ပင်တည်း။ လက်နှစ်ဖက်ကို ကျောဘက်သို့ နောက်ပစ်ပြီး ခပ်တင်းတင်း ချည်နှောင်ထား သည့်အပြင် ခြေကျင်းဝတ် နေရာတွင်လည်း သားရေကြိုးများဖြင့် တုပ်နှောင်ထားလေသည်။

မလှမ်းကမ်းတွင်ကား ကေ-ဂျီ-ဘီ ထောက်လှမ်းရေး ယူနီဖောင်းဝတ် ဗလကောင်းကောင်း လူနှစ်ယောက် ရှိနေကြပြီး တဦးက တယ်လီဖုန်း စကားပြောနေလေသည်။ သူ့ကိုယ်သူ ကပ္ပတိန် မာစကီ ဆိုသူဖြစ်ကြောင်း တယ်လီဖုန်းထဲသို့ ပြောနေသည်ကိုလည်း ကြားရသည်။

သူ၏အဖော်က ကပ္ပတိန်ဒိုဂလ်ဆိုသူဖြစ်ကြောင်းကိုလည်း ပြောနေလေသည်။

တဘက်မှပြောသည်ကို နားစိုက်ထောင်နေပြီးနောက် တယ်လီဖုန်းကို ပြန်ချလိုက်သည်။

ထို့နောက် ကပ္ပတိန်မာစကီဆိုသူသည် သူ၏ အဖော်ဘက်သို့ ခေါင်းညိတ်ပြလိုက်ပြီးနောက် ဘီလီ၏အနီးသို့ ချဉ်းကပ်လာလေသည်။

"ခင်ဗျား သတိရလာပြီကိုး၊ ကျုပ် အင်္ဂလိပ် စကားပြောတာကို မကျွမ်းကျင်ပေမယ့် ခင်ဗျားက ကျုပ်ပြောတာကို နားလည်ပါလိမ့်မယ်၊ ခင်ဗျားဟာ ဒီကထွက်ပြေးဖို့ ကြိုးစားခဲ့တယ် ဒါကို ကျုပ်တို့က ခင်ဗျားကို အပြစ် မဆိုပါဘူး၊ သို့သော်လဲ ခင်ဗျားက ဘယ်ပုံဘယ်နည်းနဲ့ ထွက်ပြေးဖို့ ကြံစည်ခဲ့တယ်ဆိုတာကိုတော့ ကျုပ်တို့ သိရမှဖြစ်မယ်"

ဘီလီသည် ဘာမှ ပြန်မပြောဘဲ ဆိတ်ဆိတ်နေရာမှ အကြီးအကျယ် စိတ်ခတ်ကျနေမိ လေသည်။

သူမအနေဖြင့် ထွက်ပြေးလွတ်မြောက်အောင် ကြိုးစားခဲ့သော်လည်း မအောင်မြင်ဘဲ ယခု ပြန်အမိခံလိုက်ရပြီးဖြစ်ရာ ယင်းသို့ မအောင်မြင်ခဲ့ခြင်းကိုပင် တွေးပြီး အလွန်စိတ်ပျက် အားလျော့နေမိလေသည်။

ကပ္ပတိန်မာစကီသည် ရှေ့သို့တိုးလာပြီး ဆက်မေးပြန်ပါသည်။

"ကျုပ် ခင်ဗျားကို မေးခွန်းတွေ မေးစရာရှိတယ်၊ မေးခွန်းရဲ့အဖြေကို ရမှလဲ ဖြစ်မယ်၊ ခင်ဗျားဟာ ကျုပ်မေးတာကို ဖြေရမယ်"

ဘီလီက ဘာမှ ပြန်မပြောသောအခါ မာစကီကပင် ဆက်ပြောလေသည်။

"ခင်ဗျား အခုထွက်ပြေးဖို့ကြံတာဟာ ဘယ်သူ့အကူအညီနဲ့ ကြံတာလဲဆိုတာ ကျုပ်တို့သိဖို့လိုတယ်၊ မီးဖိုခန်းထဲက ခင်ဗျား ဆင်းပြေးခဲ့တဲ့ အံဖုံးတံခါးကို ကျုပ်တို့တွေ့တယ်၊ ခင်ဗျားကိုယ်တိုင် ရေးဆွဲထားတဲ့ မြေပုံကိုလည်း ကျုပ်တို့ ရရှိထားပြီးပြီ၊ ဒီလို ပြေးဖို့လမ်းကို ဘယ်သူက ပြပေးတာလဲ၊ ဒီ ကရင်မလင်နန်းတော်ထဲမှာ ခင်ဗျားတို့ အမေရိကန် (စီအိုင်အေ) သူလျှိုများ ရှိနေသလား၊ ကဲ ပြောစမ်း၊ ခင်ဗျားထွက်ပြေးဖို့ ဘယ်သူက ကူညီခဲ့တာလဲ"

ဘီလီက ပြန်မပြောဘဲ ခေါင်းခါပြလိုက်သည်။

"ခင်ဗျား မဖြေရင် ကျုပ်တို့ကလဲ မသွားဘဲ နေပြီး ကျုပ်တို့မေးတာကိုသာ ပြန်ဖြေရင် ကျုပ်တို့ ပြန်ထွက်သွားမယ်"

ဤတွင်လည်း ဘီလီက လုံးဝ ပြန်မဖြေဘဲ နေလိုက်ပြန်သည်။

ထိုအခါ ကပ္ပတိန်မာစကီသည် ခြိမ်းခြောက်စကား ပြောလာသည်။

"ခင်ဗျားဟာ လူကြီးလူကောင်းတယောက်ဆိုတာ ကျုပ်သိပါတယ်၊ ဒါပေမဲ့ ကျုပ်တို့က ဂရုမစိုက်ဘူး၊ မေးတာကို မဖြေရင် ကျုပ်တို့က ရတဲ့နည်းနဲ့ကို ဖြေအောင် လုပ်ယူရမယ်၊ ခင်ဗျားကို ဘယ်သူ ကူညီတာလဲ"

"ဘယ်သူကမှ မကူညီခဲ့ဘူး"

ဘီလီက ခပ်တည်တည်ပင် ပြန်ပြောလိုက်ရာ မာစကီသည် စိတ်တိုလာဟန်ဖြင့် လက်သီးဆုပ်လိုက် လေသည်။

"ဒါ ခင်ဗျားလိမ်ပြောတာပဲ၊ ကိုင်း ခင်ဗျားကို ကျုပ်နောက်ဆုံးအကြိမ် မေးမယ်၊ ဘယ်သူက ကူညီခဲ့တာလဲ"

"ဘယ်သူမှ မကူညီခဲ့ဘူး"

ဘီလီက ဤသို့ ထပ်မံ၍ ပြောလိုက်ရာ ကပ္ပတိန်မာစကီသည် သူ၏ ညာဘက်လက်ဖြင့် ဘီလီ၏ ပါးပြင်ကို တအားလွှဲ၍ လက်ပြန်ရိုက်လိုက်လေသည်။

ဘီလီမှာ ပြင်းထန်စွာ နာကျင်လွန်းသဖြင့် ဟစ်အော်ညည်းညူလိုက်မိသည်။ မျက်ရည်များလည်း ကျလာသလို ပါးစပ်မှ သွေးများလည်း ယိုစီးကျလာလေသည်။

ထိုအချိန်၌ အခန်းတံခါးပွင့်လာပြီး ရာဇင် ရောက်လာလေသည်။

ကပ္ပတိန်မာစကီသည် ဘီလီအား နောက်တချက်ရိုက်ရန် လက်ကို ကြွမြောက်လိုက်စဉ် ရာဇင်က ရုရှဘာသာဖြင့် တစုံတခု အော်ပြောလိုက်သဖြင့် မာစကီလည်း ချာခနဲ ပြန်လှည့်ကြည့်လိုက်သည်။

ရာဇင်က ပြေးဝင်လာပြီး မာစကီအား ခပ်ကြမ်းကြမ်းပင် တွန်းဖယ်ပစ်လိုက်ရာက

"ဟေ့ ဒီမှာ ဘာတွေဖြစ်နေတာလဲကွ"

ဟု ခပ်ထန်ထန် မေးလိုက်သည်။

"သူက ထွက်ပြေးဖို့ကြိုးစားတယ်၊ ကျွန်တော်က အထက်က အမိန့်ပေးလိုက်တဲ့အတိုင်း"

မာစကီသည် စကားမဆုံးမီ ရာဇင်သည် ဒေါသထွက်ဟန်နှင့်

"ဒီနေရာမှာ အမိန့်ပေးနိုင်တဲ့လူက ကျုပ်တယောက်တည်းသာ ဖြစ်တယ်၊ ကျုပ်က ဒီကိစ္စမှာ တာဝန်ခံ အရာရှိပဲ၊ အခြားဘယ်သူမှ မရှိဘူး၊ ကဲ အခုချက်ချင်း အမျိုးသမီးကို ကြိုးတွေ ဖြေပေးလိုက်စမ်း"

ဟု အမိန့်ပေးလိုက်လေသည်။

"ဒါပေမဲ့ခင်ဗျ..."

ကပ္ပတိန် မာစကီသည် ပြန်ပြောမည်ပြုရာ ရာဇင်သည် ပို၍ဒေါသထွက်လာဟန်ဖြင့် ငေါက်လိုက်သည်။

"ဟေ့လူ ကျုပ်ပြောနေတာ မကြားဘူးလား၊ ဘာလဲ အခု ကျုပ်ကိုယ်တိုင် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်ကို ဖုန်းဆက်ပြောလိုက်ရမလား၊ အခုချက်ချင်း ဒီအမျိုးသမီးကို ကြိုးဖြေလွှတ်လိုက်စမ်း"

သည်တော့မှ မာစကီသည် အောင့်သက်သက် ဖြစ်လျက်နှင့်ပင် ဘီလီအား တုပ်နှောင်ထားသော ကြိုးခွေများကို ဖြေပေးလိုက်လေသည်။

ဘီလီသည် သူ့ကိုယ်သူ မဟန်နိုင်ဘဲ ကုလားထိုင်ပေါ်မှ ရှေ့သို့ ငိုက်ကျလာသဖြင့် ရာဇင်ကပင် ဆီး၍ပွေ့ထားလိုက်လေသည်။

"ကိုင်း ခင်ဗျားတို့ ထွက်သွားကြပေတော့"

ရာဇင်က မာစကီနှင့် သူ၏အဖော် ကပ္ပတိန်ဒိုဂလ်ဆိုသူကိုပါ လှည့်ပြောလိုက်လေသည်။

"ဒါပေမဲ့ ကရင်မလင်နန်းတော်စောင့်တပ်မှူးက ကျွန်တော်တို့ကို အမိန့်ပေးလိုက်တာက"

"စကား ရှည်မနေစမ်းနဲ့၊ ထွက်သွားဆို ထွက်သွားစမ်း"

ရာဇင်က ထပ်မံ၍ ငေါက်လိုက်တော့မှ ကေ-ဂျီ-ဘီ ကပ္ပတိန်နှစ်ဦးတို့သည် အခန်းတွင်းမှ ထွက်သွားကြလေတော့သည်။

ဘီလီ၏ မျက်နှာမှ ထိခိုက်ဒဏ်ရာများကို ရာဇင်သည် သေချာစွာ စစ်ဆေးကြည့်လေသည်။ ပါးစပ်မှ သွေးအနည်းငယ် ယိုစီးကျလျက်ပင် ရှိသေးသည်။

ရာဇင်သည် ဘီလီ၏ နှုတ်ခမ်း အနည်းငယ် ကွဲနေသည်ကို တွေ့ရသဖြင့် ရေချိုးခန်းထဲမှ အရက်ပြန်ပုလင်းနှင့် ဂွမ်းအနည်းငယ် ယူလာပြီး ဒဏ်ရာကို အရက်ပြန်နှင့် ဆေးကြောကာ ဂွမ်းနှင့် သိပ်ပြီး သွေးတိတ်အောင် ပြုလုပ်ပေးလိုက်လေသည်။

ထို့နောက် ဘီလီအား ယုယစွာ တွဲပွေ့ခေါ်ပြီး ခုတင်ပေါ်သို့ အသာ တင်ပေးလိုက်လေသည်။

ဘီလီသည် မျက်လုံးမှိတ်ထားရာမှ ဖွင့်ကြည့်လေသည်။

"ဘယ့်နှယ့်လဲ ဘီလီ၊ နေသာထိုင်သာ ရှိရဲ့လား"

ရာဇင်က ကြင်နာယုယစွာဖြင့် မေးလိုက်သည်။

"ဟုတ်ကဲ့ သက်သာပါပြီ၊ ရှင့်ကျေးဇူးကြောင့်သာပေါ့၊ ဟိုလူတွေက ကျွန်မကို နှိပ်စက်နေတာရှင့်"

"ဒါတွေပြီးပါပြီး ဘီလီရယ်၊ နောက်ကို ဘာမှကြောက်စရာမ ရှိပါဘူး၊ ကျွန်တော် တယောက်လုံး ရှိနေပါတယ်"

ဘီလီသည် ကျေးဇူးတင်လွန်းသဖြင့် သူမ၏လက်နှစ်ဘက်ဖြင့် ရာဇင်အား လှမ်းဖက်ထားလိုက်သည်။

"ရှင်သာ ရောက်မလာရင် ကျွန်မတော့ ဘာဖြစ်မယ်မသိဘူး၊ ကျွန်မ ထွက်ပြေးဖို့ ကြိုးစားတာဟာ လွတ်ခါနီးမှ ပြန်ဖမ်းမိသွားတယ်"

"ကျွန်တော်လည်း ကြားပါတယ်၊ ဒါကြောင့် ချက်ချင်း ပြေးလာခဲ့တာပေါ့၊ နောက်ကို ဘယ်သူကမှ ခင်ဗျားကို လက်ဖျားနဲ့ မထိစေရပါဘူး"

"ရှင် တကယ်ပြောတာလား ဟင်"

"တကယ်ပြောတာပါ ဘီလီရယ်"

ဤတွင် ဘီလီသည် စိတ်ထဲမှ ကျေးဇူးတင်ခြင်း ကြည်နူးခြင်းတို့ ဖြစ်ပေါ်လာရာမှ ရာဇင်အား တင်းကျပ်စွာ ပွေ့ဖက်လိုက်ရင်း နှုတ်ခမ်းကို နမ်းရှုပ်လိုက်မိလေသည်။ ရာဇင်ကလည်း သူမအား ယုယစွာပင် နမ်းလိုက်သည်။

အမှန်တွင် ယောက်ျားနှင့် မိန်းမ ဆိတ်ကွယ်ရာတွင် နီးကပ်စွာ ထိတွေ့မှုကို ဘီလီသည် သာယာမိနေခြင်းဖြစ်သည်။

ရန်သူတွေ ဝိုင်းဝိုင်းလည်နေသည့်ကြားမှ မိမိအပေါ် ကြင်နာယုယပြီး စေတနာ တကယ်ရှိပုံရသူ ရာဇင်အား ကျေးဇူးတင်ရာမှ သံယောဇဉ် ဖြစ်လာမိသည့် သဘောလည်းဖြစ်သည်။ ထို့ကြောင့် သူမသည် ရာဇင်၏ ပြန်လည် ပွေ့ဖက် နမ်းလိုက်ခြင်းကို မငြင်းဆန်ဘဲ ငြိမ်၍ သာယာမှုကို ခံစားနေမိခြင်း ဖြစ်လေသည်။

သို့ရာတွင် ရာဇင်က သူမ၏ မျက်နှာနားသို့ ကပ်၍

"ကျွန်တော် ခင်ဗျားကို သိပ်ချစ်နေပြီ ဘီလီ"

"ဒီလိုတော့ မလုပ်ပါနဲ့ရှင်၊ ကျွန်မက ရှင့်ကို သိပ်ပြီး ကျေးဇူးတင်ပါတယ်၊ ဒါပေမဲ့ ဒီလို မလုပ်ဖို့တော့ တောင်းပန်ပါရစေ"

ဘီလီက ဤသို့ပြောလိုက်သောအခါ ရာဇင်လည်း နားလည်မှုရှိဟန်ဖြင့် သူ၏လက်ကို ရုပ်သိမ်းလိုက်သည်။

"ကျွန်တော် တောင်းပန်ပါတယ်၊ ဘယ်လိုမှ မအောက်မေ့ပါနဲ့၊ ဒါထက် ခင်ဗျား ယမကာ တစ်ခုခုသောက်လိုက်ပါဦးလား"

"ဟင့်အင်း ဘာမှ မသောက်ချင်ပါဘူး၊ ကျေးဇူးတင်ပါတယ်"

"ဒါဖြင့် ကျွန်တော် တာဝန်ခံအရာရှိဆီ ခဏသွားတွေ့လိုက်ဦးမယ်"

"ပြီးတော့မှ ပြန်လာခဲ့ပါမယ်"

ပြောပြောဆိုဆို ရာဇင်သည် အခန်းတွင်းမှထွက်သွားလေသည်။ တယောက်တည်း ကျန်ရစ်သောအခါ ဘီလီသည် ခေတ္တထိုင်၍ စဉ်းစားနေမိလေသည်။

အထူးသဖြင့် မိမိနှင့် ရာဇင်တို့ ပွေ့ဖက် နမ်းရှုပ်မိလေသည်အထိ အခြေအနေ ဖြစ်သွားခဲ့ပုံကို ပြန်လည် စဉ်းစားသုံးသပ်နေမိသည်။ မိမိအနေဖြင့် ရာဇင်အား ကျေးဇူးတင်လွန်း၍ ရင်းနှီးစွာ ပွေ့ဖက်လိုက်ခြင်းဖြစ်သည်။ သူ၏ ကျေးဇူးကလည်း တကယ်ရှိသဖြင့် တနည်းနည်းဖြင့် တုံ့ပြန်ရန် တာဝန်ရှိပေသည်။ ထို့ကြောင့် ရင်းနှီးမှုကို ပြလိုက်ခြင်းဖြစ်လေသည်။ ရာဇင်အနေဖြင့်ကား သွေးနှင့်ကိုယ် သားနှင့်ကိုယ်ရှိသူ ယောကျ်ားတယောက်ဖြစ်၍ လက်လွန်ခြေလွန် ချစ်တင်းနှီးနှော သည့် အဆင့်အထိဖြစ်အောင် ဆန္ဒ ဖြစ်ပေါ်လာမည်မှာလည်း လူသားတို့ သဘာဝဓမ္မတာ မဟုတ်ပါလား။

သို့ဖြင့်လင့်ကစား မိမိသည် ကာမပိုင် လင်ယောကျ်ားရှိသူဖြစ်၍ တပါးသော ယောကျ်ားတဦးအား မိမိခန္ဓာနှင့် ကိုယ်ကို လုံးဝ အပ်နှင်းရန် မသင့်လျော်သောကြောင့် အချိန်မီ တားဆီးလိုက်ရပေသည်။

တဖန် သူမသည် ရာဇင်အကြောင်း ဆက်လက် စဉ်းစားကြည့်ပြန်၏။ သူသည် ရည်ရည်မွန်မွန်ရှိသူ၊ စိတ်စေတနာကောင်းသူတဦး ဖြစ်ကြောင်း ထင်ရှားသည်။ ထောက်ထားစာနာသည့် စိတ်ထားလည်း ရှိသည်။ ထို့ကြောင့်သာလျှင် မိမိအား အနိုင်မကျင့်ဘဲ ကိုယ်ထိလက်ရောက် မပြုခဲ့ခြင်း ဖြစ်ဟန် တူသည်။

ဤသို့ စဉ်းစားယင်းက ဘီလီသည် ရာဇင်အကြောင်းကို ရှုထောင့် အမျိုးမျိုးမှ တွေးကြည့်မိပြန်လေ သည်။ သူသည် သာမန်စကားပြန်တဦး ဖြစ်သည်ဟု ဆိုသော်လည်း ကေ-ဂျီ-ဘီအရာရှိ ကပ္ပတိန် နှစ်ဦးအပေါ် ဩဇာညောင်းပုံက ထူးဆန်းနေသည်။ သူသာလျှင် အမိန့်ပေးပိုင်ခွင့် ရှိသည်ဟု ခပ်ထန်ထန် ပြောခဲ့သည်။ ဗိုလ်ချုပ်ကြီး ပီထရော့ကို တယ်လီဖုန်း ဆက်လိုက်ရမည်လားဟု ခြိမ်းခြောက်ပြောဆိုခဲ့သည်။

ဤအတိုင်းဆိုလျှင် ရာဇင်သည် ရိုးရိုးစကားပြန်တဦးမှ ဟုတ်မှဟုတ်ပါလေစ။ မည်သည့် ရာထူးအဆင့်ရှိသော အရာရှိတဦး ဖြစ်နေလေသနည်း။

ဩဇာအာဏာရှိသူတဦးဖြစ်ကြောင်းကတော့ ထင်ရှားနေသဖြင့် သူမသည် ရာဇင်အကြောင်း အမှန်ကို စုံစမ်းဖို့ လိုလာပြီကို စိတ်ထဲမှ ဖြစ်ပေါ်လာမိလေသည်။

ဤသို့ စဉ်းစားရင်းက ဘီလီသည် ရာဇင် ပြင်ပသို့ ထွက်သွားစဉ်

ချွတ်ထားပစ်ခဲ့သော ကုတ်အင်္ကျီကို မြင်မိလေသည်။ ကုတ်အင်္ကျီအတွင်းအိတ်များထဲ ရှာဖွေကြည့်လျှင် ရာဇင်၏ ရာထူးအဆင့်စသော အချက်အလက်များ ပါရှိနိုင်သော စာရွက်စာတမ်းများ သို့မဟုတ် စိစစ်ရေးကတ်ပြားများ ရှိနိုင်ကြောင်း တွေးမိသဖြင့် ရာဇင်၏ကုတ်အင်္ကျီကို ယူကာ အိတ်များ အတွင်းသို့နှိုက်၍ ရှာဖွေကြည့်မိလေသည်။

စီးကရက်ဗူး၊ မီးခြစ်၊ ခေါင်းဖြီးသည့် ဘီးတချောင်း စသည့်တို့ကို ယောကျ်ားအသုံးအဆောင်များ အဖြစ် တွေ့ရသည်။ အတွင်းအိတ်တခုထဲမှမူ ပိုက်ဆံထည့်သော သားရေအိတ်တခု တွေ့ရလေသည်။

ပိုက်ဆံအိတ်ကို ဖွင့်ကြည့်လိုက်သောအခါ ရုရှနိုင်ငံသုံး ရူဘီစက္ကူများနှင့် ငွေအကြွေ တချို့ကို တွေ့ရလေသည်။ ထို့ပြင် ပလက်စတစ်အိတ်နှင့် ထည့်ထားသော ကတ်ပြားလေးငါးခြောက်ခုလည်း တွေ့ရသည်။ တဖန် ဓာတ်ပုံတပုံကိုပါ တွေ့ရသဖြင့် အလွန်အံ့သြသွားမိသည်။ ဓာတ်ပုံက မိမိ (ဘီလီ) ၏ဓာတ်ပုံ ဖြစ်နေလေသည်။ သို့သော် ဝတ်ထားသည့် ဘလောက်စ်အင်္ကျီက မိမိ၏အင်္ကျီ မဟုတ်ကြောင်း သတိပြုမိသည်။ သေသေချာချာ ထပ်မံကြည့်လိုက်တော့မှ ဘီလီသည် အမှန်ကို သဘောပေါက်မိလေသည်။ ဓာတ်ပုံသည် မိမိ(ဘီလီ)၏ ဓာတ်ပုံမဟုတ်။ မိမိနှင့် ရုပ်ချင်းအလွန်တူပြီး ယခု လောလောဆယ် မိမိနေရာတွင် လူစားထိုး ဝင်ရောက်ဟန်ဆောင်နေသော ရုရှသူလျှိုမ၏ ပုံသာလျှင် ဖြစ်ရပေမည်။ နောက်တချက်က ထိုအမျိုးသမီးသည် ရာဇင်၏ ချစ်သူလည်း ဖြစ်နိုင်သည်။ ထို့ကြောင့်သာ ရာဇင်သည် သူမ၏ဓာတ်ပုံကို အမြတ်တနိုး ဆောင်ထားခြင်း ဖြစ်ရပေမည်။ ထို့ပြင် ရာဇင်သည် မိမိအား ပွေ့ဖက် နမ်းရှုပ်ရင်း ကာယကံမြောက် ကျူးလွန်ရန် ကြိုးစားကြည့်ခြင်းသည် သူ၏ချစ်သူနှင့်တူသဖြင့် အစားထိုး စိတ်ဖြေသည့်သဘောလည်း ဖြစ်နိုင်ပေသည်။

ထို့နောက် ဘီလီသည် ရာဇင်၏ ကတ်ပြားများကို တခုစီ လှေ့လာကြည့်ရာ ကတ်ပြားတခု၌ ရာဇင်၏ ရာထူးအဆင့်နှင့် တာဝန် အတိအကျ ဖော်ပြထားသည်ကို တွေ့ရလေသည်။ ဤတွင် သူမသည် အလွန် တုန်လှုပ်သွားမိလေသည်။

ရာဇင်ကား သူပြောသလို သာမန်စကားပြန် တယောက်မဟုတ်ဘဲ ကေ-ဂျီ-ဘီ ထောက်လှမ်းရေး အဖွဲ့၌ အရေးပါသော အရာရှိတဦး ဖြစ်နေပါသည်တကား။

ဤအတိုင်းဆိုလျှင် ရာဇင်သည် မိမိအား အမှန်ကို မပြောဘဲ လှည့်စားနေခဲ့ကြောင်း ထင်ရှားနေပြီ ဖြစ်ရာ စိတ်ထဲမှ ခံပြင်းသည်နှင့်အမျှ နာကျည်းလာမိလေသည်။ မိမိအပေါ် စေတနာ ကောင်းသယောင် ပြောဆို ပြုမူနေခြင်းမှာလည်း ဟန်ဆောင်ခြင်းများသာ ဖြစ်ရပေမည်။

ဘီလီသည် ပိုက်ဆံအိတ်ထဲသို့ ပစ္စည်းများ နေရာတကျပြန်ထည့်ပြီး ကျန်ပစ္စည်းများကိုလည်း ကုတ်အင်္ကျီအိတ်ထဲသို့ လက်ရာမပျက်

ပြန်ထည့်ထားလိုက်သည်။ ထို့နောက် ခုတင်ဘေးတွင် ထိုင်ကာ စီးကရက်တလိပ် မီးညှိသောက်နေရင်း စဉ်းစားနေမိလေသည်။

သူမအနေဖြင့် စိတ်တွေ ဂနာမငြိမ်ဘဲ လှုပ်ရှားနေမိသည်။ အထူးသဖြင့် ရာဇင်သည် မည်သူမည်ဝါ ဖြစ်ကြောင်းကို သိရသဖြင့် အံ့သြ တုန်လှုပ်ခြင်းက အတော် ပြင်းထန်လှပေသည်။

တဖန် ရာဇင်၏အပြုအမူများကို ပြန်လည်သုံးသပ်ကြည့်မိပြန်သည်။

မိမိ ထွက်ပြေးလွတ်မြောက်ရေး အတွက် ရာဇင်က တကယ်ပင် ကူညီခဲ့သည်။ ထို့နောက် ပြန်ဖမ်းမိသွားပြီး ကေ-ဂျီ-ဘီ ကပ္ပတိန် နှစ်ဦးက နှိပ်စက်ညှဉ်းပန်းနေစဉ် ရာဇင်ကပင် လာရောက်ကူညီ ကယ်ဆယ်ခဲ့သည်။ ဤသည်တို့ကား ရိုးရိုးသားသား မဟုတ်ဘဲ တမင်တကာ လုပ်ကြံ အကွက်ဆင်ချက်များ ဖြစ်လေသလော။

ဘီလီသည် ရုပ်ရှင်ဇာတ်ကားများ၊ လျှို့ဝှက်သဲဖို စုံထောက်များဝတ္ထုများထဲမှ အလားတူ အကွက်ဆင် ဖန်တီးပြထားပုံများကိုလည်း သတိရမိလေသည်။ ရန်သူအား သူ၏အကျိုးကို လိုလားသယောင် အကူအညီပေး၍ ယုံကြည်လာစေရန် လုပ်ကြံအကွက်ဆင်နည်းမျိုးတွေက တကယ်ပင် ရှိတတ်သည် မဟုတ်ပါလော။

ဤသို့ဆိုလျှင် ရာဇင်သည် မိမိအား ခင်မင်ကြင်နာသယောင် ကူညီချင်သယောင် ဟန်ဆောင်ပြီး ဆက်ဆံခဲ့ခြင်း ဖြစ်ရပေမည်။

သို့သော် စဉ်းစားရခက်နေပြန်သည်ကား ဘာကြောင့် ထိုသို့ မိမိအား ယုံကြည်အောင် အကွက်ဆင် စည်းရုံးခြင်း ဖြစ်လေသနည်းဟု ဆိုသောပြဿနာပင်ဖြစ်သည်။ မည်သို့သော ရည်ရွက်ချက်ဖြင့် ရာဇင်က မိမိအား ကပ်ပေါင်းခြင်း ပြုခဲ့လေသနည်း။

သူတို့အနေဖြင့် ရည်မှန်းချက် တခုခုတော့ ရှိရပေမည်။ ဘီလီသည် မည်သို့သော ရည်ရွယ်ချက် ဖြစ်နိုင်သနည်းဟု ဆက်လက် စဉ်းစားကြည့်ပြန်လေသည်။

ဤတွင် အချက်အလက်များထဲမှ အချက်တချက်ကို သူမက ပေါက်ပေါက်ရှာရှာ တွေးမိလေသည်။

ယခုဆိုလျှင် မိမိနေရာ လူစားထိုးဝင်၍ သမ္မတကတော် ဟန်ဆောင်နေသူ ရုရှသူလျှိုမသည် လန်ဒန်မြို့သို့ ရောက်ရှိနေမည်ဖြစ်ရာ အဆိုပါ သူလျှိုမ သို့မဟုတ် စက္ကင်းလေဒီအနေဖြင့် ပြဿနာ အခက်အခဲတခု ရှိနေနိုင်သည်။ ရုရှသူလျှိုမသည် အချိန်ယူ၍ အသေးစိတ် လေ့လာပြင်ဆင်ခဲ့သဖြင့် သမ္မတကတော်အဖြစ်

ပိရိသေသပ်စွာ သရုပ်ဆောင်နိုင်သော်လည်း လုံးဝ မသိသော ကိစ္စတခုက ရှိနေသည်။ ယင်းကား သမ္မတ ဘရက်ဖို့ဒ်နှင့် လင်မယားအဖြစ် ညအိပ်ရာဝင်သည့်အခါ မည်သို့ ပြုမူဆက်ဆံရမည်ဟူသော လျှို့ဝှက်ကိစ္စပင်ဖြစ်သည်။

မိမိ(ဘီလီ)၏ အထူးကုဆရာဝန်က နောက်ဆုံးစစ်ဆေးချက်အရ လင်မယားဘဝ မူလအတိုင်း ပုံမှန်ဆက်ဆံနိုင်ပြီဟုလည်း ပြောထားသည်ကို သိရသည်။

ဤနေရာတွင် စက္ကင်းလေဒီ သို့မဟုတ် သမ္မတကတော်အတုအနေဖြင့် လျှို့ဝှက်ကိစ္စတခု၌ ဆက်ဆံပုံ တချက်မှားသွားရုံနှင့် သမ္မတ ဘရက်ဖို့ဒ်က ချက်ချင်း သင်္ကာမကင်းဖြစ်လာကာ ကေ-ဂျီ-ဘီ ထောက်လှမ်းရေး၏လုပ်ကြံမှုကြီးသည် ဗူးပေါ်သလို ပေါ်သွားနိုင်သည်။ ထို့ကြောင့် ရုရှ ထောက်လှမ်းရေးက သူတို့၏ သူလျှိုမအား လျှို့ဝှက်ကိစ္စနှင့် ပတ်သက်၍ အချိန်မီ သတင်းပို့ပေးရန် အလွန်အရေးကြီးနေပေလိမ့်မည်။

ယခု ရာဇင်က မိမိအား ချစ်မြတ်နိုးပါသည်ဟုဆိုကာ ကြင်နာ ယုယသယောင်နှင့် ကာယကံမြောက် ချစ်တင်း နှီးနှောရန် ကြံခြင်းသည် ကေ-ဂျီ-ဘီ ထောက်လှမ်းရေးအနေဖြင့် မိမိတို့၏ ဇနီးမောင်နှံ အတွင်းရေး လျှို့ဝှက်ကိစ္စကို လက်တွေ့ စုံစမ်းရန် ဖြစ်လေသလော။

ဤသို့လျှင် မိမိကတော့ မည်သည့်နည်းနှင့်မျှ အမှန်ကို အသိမပေးဟု ဆုံးဖြတ်လိုက်သည်။

သို့မှသာလျှင် သမ္မတကတော်အတု ရုရှသူလျှိုမသည် ခြေလှမ်းမှားသွားနိုင်မည် ဖြစ်လေသည်။

ဘီလီသည် စဉ်းစားရင်း ထွက်ပြေးရန် ကြိုးစားခဲ့စဉ်က ယဉ်ကျေးမှု ဝန်ကြီးရုံးတွင် ဆုံခဲ့သော အမေရိကန်အမျိုးသမီး မစ္စက်ဝှိုက်ဆိုသူကို သတိရမိပြန်သည်။ မိမိက အမေရိကန် သံအမတ်ကြီးထံသို့ သွားပြောပေးပါဟု တောင်းပန်ခဲ့သလို သွားလိုက်လျှင် မျှော်လင့်ချက်တမျိုး ရှိနိုင်ပေသည်။

သို့သော် မစ္စက်ဝှိုက်က အမေရိကန် သံရုံးသို့ သွားပါမည်လော။

*

မော်စကိုမြို့၏ ရာသီဥတုမှာ မွန်းလွဲပိုင်းတွင် အတော်ပူအိုက်လျက် ရှိနေလေသည်။

မစ္စက်ပိုက်အမည်ရှိ အမျိုးသမီးသည် လမ်းလျှောက်လာရင်း ချွေးများ ပြန်လျက်ရှိလေသည်။ သူမသည် အနုပညာ အလွန်ဝါသနာပါသူဖြစ်၍ ဆိုဗီယက်ယူနီယံရှိ ရှေးဟောင်းအနုပညာ လက်ရာ များကို လေ့လာကြည့်ရှုရန် မိမိကဲ့သို့ ဝါသနာပါသူ တစုနှင့်အတူ လာခဲ့ခြင်းဖြစ်သည်။ သူမတို့ အဖွဲ့သည် လီနင်ဂရက်မြို့ရှိ ကမ္ဘာကျော် အနုပညာပြတိုက်ကြီးသို့ ဆက်လက် ထွက်ခွာလာခဲ့ခြင်း ဖြစ်သည်။ မော်စကိုမြို့သို့ လာခြင်း၏ အဓိကရည်ရွယ်ချက်မှာ သူမသည် ယဉ်ကျေးမှုဌာနဝန်ကြီးနှင့် တွေ့ဆုံပြီး ရှေးဟောင်း ပြင်သစ်ပန်းချီလက်ရာ သုံးဆယ်ကို ခေတ္တငှားယူ၍ ပြပွဲ၌ ခင်းကျင်း ပြသရန်အတွက် ဆွေးနွေးရန်ပင်ဖြစ်သည်။

ဆိုဗီယက်ယဉ်ကျေးမှုဝန်ကြီးကလည်း ဖော်ရွေစွာ လက်ခံတွေ့ဆုံပြီး အဆိုပါကိစ္စကို မိမိတို့ အချင်းချင်း ညှိနှိုင်းတိုင်ပင်ရန် တင်ပြ၍ အကြောင်းပြန်ပါမည်ဟု ပြောခဲ့သည်။

သူမအဖို့ ထိုနေ့က တခုတည်းသော စိတ်အနှောင့်အယှက်ဖြစ်စရာကား ဝန်ကြီးရုံးပြင်ဘက် ဧည့်ခန်းတွင် ရုတ်တရက် ဝင်လာပြီး သူ့ကိုယ်သူ အမေရိကန်သမ္မတကတော် (ဖတ်စ်လေဒီ) ဖြစ်ပါသည်ဟု ပြောခဲ့သည့် မိန်းမအကြောင်းပင်ဖြစ်သည်။

မစ္စက်ပိုက်သည် ကရင်မလင်နန်းတော်မှ ပြန်ထွက်ခဲ့ချိန်တွင် ထိုမိန်းမအကြောင်း မေ့ပစ်လိုက်ရန် ဆုံးဖြတ်လိုက်ပြီး ဖြစ်သည်။ သို့ရာတွင် မြို့တွင်းသို့ရောက်၍ ရှုခင်းများကို လှည့်ပတ်ကြည့်နေရင်း ထိုမိန်းမအကြောင်းကို သတိရနေမိပြန်လေသည်။

သေချာစွာ စဉ်းစားကြည့်လိုက်တော့လည်း ထိုမိန်းမသည် သမ္မတ ကတော်ဘီလီနှင့် အလွန် ရုပ်ချင်းတူကြောင်း သတိရမိလေသည်။ ထိုအမျိုးသမီးက မော်စကိုမြို့ရှိ အမေရိကန်သံရုံးမှ သံအမတ်ကြီး မစ္စတာယန်ဒါလ်ထံသို့ သွားရောက် အကြောင်းကြားပေးပါဟု တောင်းပန် ပြောဆိုခဲ့ သည်။ ထိုအမျိုးသမီးသည် စိတ်မမှန်ဘဲ ရူးနေ၍ ပြောခြင်း ဖြစ်ကောင်းဖြစ်မည်။ သို့ဖြစ်လင့်ကစား မိမိ၏အတွေ့အကြုံကို အမေရိကန် သံအမတ်ကြီးအား အသိပေး အစီရင်ခံသင့်သည်ဟု မစ္စက်ပိုက်က နောက်ဆုံးတွင် ဆုံးဖြတ်လိုက်လေသည်။

ထို့ကြောင့် သူမသည် တယ်လီဖုန်းဖြင့် ကြိုတင်ဆက်သွယ်ပြီး အမေရိကန် သံရုံးအဆောက်အအုံသို့ သွားလိုက်လေသည်။

သံရုံးဂိတ်ဝတွင် ရုရှ (ကေ-ဂျီ-ဘီ) လက်နက်ကိုင် အစောင့်နှစ်ဦးရှိရာ မစ္စက်ပိုက်က သူမ၏ အမေရိကန် နိုင်ငံကူးလက်မှတ် (ပတ်စ်ပို့) ကို ထုတ်ပြလိုက်သောအခါ ဝင်ခွင့်ပြုလိုက်လေသည်။

သံရုံးတွင်းသို့ ရောက်သောအခါ အရပ်မြင့်မြင့် လူငယ်တဦးက ခရီးဦးကြိုပြုပြီး သူသည် သံရုံးဦးစီးအရာရှိ မစ္စတာ ဟယ်လာဆိုသူဖြစ်ကြောင်း မိတ်ဆက်ပြောကြားလေသည်။ မစ္စက်ပ်ိုက်က စတင်၍ တယ်လီဖုန်းဖြင့် ဆက်သွယ်စဉ်က စကားပြောခဲ့သူပင် ဖြစ်ကြောင်း ပြောပြလိုက်လေသည်။

ထိုအရာရှိက သံအမတ်ကြီးနှင့် တွေ့ဆုံရန် အရေးကြီးသည့်ကိစ္စ ရှိသည်ဆိုလျှင် ရှေးဦးစွာ စတင်ဆွေးနွေးရန် ပြောရာ မစ္စက်ပ်ိုက်က ခပ်တည်တည် ငြင်းလိုက်သည်။

"ကျွန်မ သံအမတ်ကြီး ကိုယ်တိုင်နဲ့ တွေ့မှ ပြောလို့ဖြစ်မယ်ရှင့်"

"ဒါတော့ မလွယ်ဘူးထင်ပါတယ်၊ သံအမတ်ကြီးက အလွန်အလုပ်များနေလို့ပါ"

"ကျွန်မ သူ့ကို ပြောရမယ့်ကိစ္စက အလွန် အရေးကြီးပါတယ်"

"ဒါပေမဲ့ သံအမတ်ကြီးက အလွန် အလုပ်များနေပါတယ်"

"ဒါဖြင့် ကျွန်မ စောင့်နေမယ်လေ"

"မစ္စက်ပ်ိုက် ခင်ဗျား၊ သံအမတ်ကြီးနဲ့ ပြောချင်တဲ့ကိစ္စအကြောင်းကို ကျွန်တော့်ကို ပြောပြရင် ကျွန်တော်က တဆင့် သံအမတ်ကြီးကို တင်ပြပေးပါ့မယ်"

"ဒီလိုလည်း မဖြစ်ဘူးရှင့်"

ဤသို့ဆိုလျှင် မစ္စက်ပ်ိုက်သည် လုံးဝ အလျှော့မပေးဘဲ သံအမတ်ကြီးနှင့် တွေ့ဆုံခွင့်ကိုသာ ဇွတ်တောင်းဆိုလေသည်။ သူမသည် ပင်ကိုအားဖြင့် စိတ်ဓာတ် တောင့်တင်းခိုင်မာပြီး အလျှော့ပေးတတ်သူ မဟုတ်သောကြောင့် ခပ်တင်းတင်းပင် ပြောနေခြင်းဖြစ်သည်။

နောက်ဆုံးတွင် မစ္စတာဟယ်လာဆိုသူသည် မတတ်သာတော့ဘဲ သံအမတ်ကြီး၏ ရုံးခန်းသို့ဝင်၍ အကြောင်းကြားပြီး၍ ပြန်ထွက်လာသောအခါ သံအမတ်ကြီးက ခေတ္တတွေ့ဆုံ၍ စကားလက်ခံ ပြောဆိုပါမည်ဟု ပြောလေသည်။

သို့နှင့်ပင် မစ္စက်ပ်ိုက်သည် ရုရှပြည်ဆိုင်ရာ အမေရိကန်သံအမတ်ကြီး ယန်ဒါလ်၏ ရှေ့သို့ ရောက်သွားလေသည်။

"ကိုင်း ဆိုစမ်းပါဦး မစ္စက်ပ်ိုက် ဘာအကြောင်းကိစ္စများ ရှိလို့လဲ"

သံအမတ်ကြီးက စတင်ပြောရာ မစ္စက်ပ်ိုက်သည် ရုံးခန်းတွင်းသို့

မသက်ာဟန်ဖြင့် လှည့်ပတ်ကြည့် လိုက်သည်။

"သံအမတ်ကြီးရှင့်၊ ဒီအခန်းထဲမှာ ကျွန်မတို့ နှစ်ယောက်တည်း ရှိတာဟုတ်ပါတယ်နော်"

"ဟုတ်ပါတယ်၊ ကျုပ်တို့ နှစ်ယောက်တည်းပဲ ရှိပါတယ်"

"ကျွန်မဆိုလိုတာက ဒီအခန်းထဲမှာ ပြောတဲ့စကားတွေကို လျှို့ဝှက် အသံဖမ်း ကိရိယာ တပ်ဆင် ထား မထား သိချင်လို့ပါ"

ဤတွင် သံအမတ်ကြီးက ပြုံးလိုက်သည်။

"ဒီအခန်းထဲမှာ ရုရှတွေက လျှို့ဝှက် အသံဖမ်းကိရိယာ တပ်ထားသလားလို့ မေးတာ မဟုတ်လား၊ ကျုပ်တို့ တယ်ပြီး မထင်ပါဘူး၊ ဒါပေမဲ့ မော်စကိုမြို့လို နေရာမှာတော့ တထစ်ချ မပြောနိုင်ဘူးပေါ့"

"ဒါဖြင့် ကျွန်မ ရှင့်ကို စကားပြောလို့ဖြစ်မယ် မထင်ဘူး"

မစ္စက်ပိုက်က ဤသို့ ပြောလိုက်သောအခါ သံအမတ်ယန်ဒါလ်သည် သီးသန့် အခန်းတခန်းသို့ ခေါ်သွားရလေသည်။

သည်တော့မှ မစ္စက်ပိုက်သည် ယဉ်ကျေးမှုဌာန ဝန်ကြီးရုံး ဧည့်ခန်း၌ တွေ့ကြုံခဲ့ရပုံကို သံအမတ်ကြီးအား ပြောပြလိုက်လေသည်။

"တကယ်တော့ ယုံနိုင်စရာ မရှိအောင် အံ့သြစရာပါပဲရှင်၊ ဒီမိန်းမက အင်္ဂလိပ်စကားကို ကောင်းစွာ ပြောတတ်ပါတယ်၊ သူက ကျွန်မကို အမေရိကန်သံအမတ်ကြီးထံသို့ အကြောင်းကြားပေးဖို့ တောင်းပန်ပါတယ်၊ သူ့ကို မမှတ်မိဘူးလားတဲ့၊ သူဟာ အမေရိကန်သမ္မတကတော် ဘီလီ ဖြစ်ပါတယ်တဲ့၊ သံအမတ်ကြီးနဲ့တွေ့ရင် တခြားမိန်းမ တယောက်က သူ့နေရာ လူစားဝင်ပြီး ဟန်ဆောင်နေတာပါဆိုတာကိုလည်း ပြောခိုင်းပါတယ်။ ကျွန်မလည်း ရုတ်တရက် အံ့သြနေပြီး သူ့ကို အသေးစိတ် ဆက်မေးကြည့်မယ် ကြံနေတုန်းမှာ ကျွန်မနဲ့ ဝန်ကြီး တွေ့ဆုံဖို့ အချိန်ကျရောက် လာတာနဲ့ မမေးလိုက်ရပါဘူး။ ကျွန်မ ပြန်လာပြီး အမျိုးမျိုး စဉ်းစားကြည့်တော့ ဘာပဲဖြစ်ဖြစ် သံအမတ်ကြီးကိုတော့ သတင်းပို့ အစီရင်ခံဖို့ တာဝန်ရှိတယ်လို့ ယူဆမိတာနဲ့ အခု လာပြောတာပါပဲ"

သံအမတ်ကြီး ယန်ဒါလ်သည် ခေတ္တမျှ စဉ်းစားနေပြီးမှ ပြန်၍ မေးခွန်းထုတ်လေသည်။

"အလွန် အံ့သြစရာတော့ ကောင်းပါတယ်။ မစ္စက်ပိုက်နဲ့ အဲဒီအမျိုးသမီးနဲ့ တွေ့ဆုံခဲ့တဲ့အချိန်ဟာ ဘယ်အချိန်ကပါလဲ"

"ဒီနေ့ မွန်းလွဲပိုင်း နှစ်နာရီလောက်က ဖြစ်ပါတယ်"

ဒီအမျိုးသမီးဟာ အမေရိကန် သမ္မတကတော် (ဖတ်စ်လေဒီ) လို့ပဲ ခင်ဗျား ထင်သလား"

"သူကိုယ်တိုင်က သူဟာ သမ္မတကတော်ပါလို့ ပြောတယ်ရှင့်"

"ဒါတော့ ဘယ်သူမဆို ဒီလိုပြောရင် ဖြစ်တာပဲ၊ ဥပမာ စိတ်နောက်ရူးသွပ်နေတဲ့ လူတယောက်က ပြောတာမျိုး၊ နောက်ပြောင်ပြောတာမျိုး ဖြစ်နိုင်တယ်"

"သံအမတ်ကြီး ပြောတာလဲ ဟုတ်နိုင်ပါတယ်၊ ဒါပေမဲ့ ဒီအမျိုးသမီးက သမ္မတကြီးကတော်နဲ့ ရုပ်ချင်း အလွန်တူတာတော့ အမှန်ပဲရှင့်"

"ခင်ဗျားက သမ္မတကတော်နဲ့ တွေ့ဖူးပါသလား"

"ရုပ်မြင်သံကြားမှာပဲ မြင်ဖူးပါတယ်။ ကျွန်မပြောတာ ယုံနိုင်စရာ မရှိဘူးဆိုရင်လဲ နားလည်ပါတယ်။ ဒါပေမဲ့ ကျွန်မနဲ့ ဒီအမျိုးသမီးတို့ ရင်ဆိုင်တွေ့ခဲ့ရတာတော့ အမှန်ပါပဲ"

သံအမတ်ကြီး ယန်ဒါလ်သည် ခေတ္တမျှစဉ်းစားနေပြန်သည်။ ခဏကြာတော့မှ ဆက်၍ မေးလေသည်။

"မစ္စက်ဝှိုက် ခင်ဗျား ကျွန်တော် အခုမေးတာကို ဘယ်လိုမှ စိတ်မရှိပါနဲ့၊ ခင်ဗျားဟာ အခု ခရီးထွက်လာရင်း စိတ်တုန်လှုပ် ချောက်ချားတာကို ပျောက်ကင်းစေတဲ့ စိတ်ငြိမ်ဆေးဝါးများ သောက်ပါသလား"

"မသောက်ပါဘူး"

"ယဉ်ကျေးမှုဝန်ကြီးရုံးကို မသွားခင် နေ့လယ်စာစားတုန်းက ခင်ဗျား အရက်သောက်ပါ သလား"

သံအမတ်ကြီးက ဤသို့မေးလိုက်သည်ကို မစ္စက်ဝှိုက်သည် သဘောကျပုံမရချေ။

"သံအမတ်ကြီးရှင့် ကျွန်မဟာ ဟိုတချိန်က လုံးဝ အရက်မမူးပါဘူး၊ အခုလဲပဲ မမူးပါဘူး၊ အခုလို လာပြောတာဟာ အမေရိကန်နိုင်ငံသားတဦးအနေနဲ့ တာဝန်ဝတ္တရား ရှိတယ်လို့ ယူဆပြီး လာပြောခြင်းသာ ဖြစ်ပါတယ်"

မစ္စက်ဝှိုက် ခပ်တည်တည် ပြောလိုက်တော့မှ သံအမတ်ကြီးသည်

အားနာသွားဟန်တူသည်။

"ဟုတ်ပါတယ် ခင်ဗျား အခုဒီကိုလာပြီး အကြောင်းကြားတာဟာ အလွန်မှန်ကန်ပါတယ်။ ဒါပေမဲ့ ကျွန်တော် တခုတော့ ခင်ဗျားကို တိတိကျကျ ပြောနိုင်ပါတယ်၊ အမေရိကန်နိုင်ငံရဲ့ ဖတ်စ်လေဒီ သမ္မတကတော်ဟာ အခု လန်ဒန်မြို့မှာ သမ္မတကြီးနဲ့အတူ ရောက်နေပါတယ်။ ကျွန်တော်ကိုယ်တိုင် မနေ့ကပဲ တယ်လီဖုန်းနဲ့ လှမ်းနှုတ်ဆက်စကားပြောခဲ့ရပါသေးတယ်။ ဒီတော့ သမ္မတကတော် အနေနဲ့ လန်ဒန်မြို့ကနေပြီး ဒီမော်စကိုမြို့ကို ရုတ်တရက် ရှောင်တခင် ကျွန်တော့်ကို အသိမပေးဘဲ လာဖို့ကလည်း မဖြစ်နိုင်ဘူးထင်တယ်၊ ပြီးတော့လဲ"

သံအမတ်ကြီး၏ စကားမဆုံးမီ မစ္စက်ပိုက်သည် စိတ်မရှည်ဟန်ဖြင့် ကြားဖြတ် ဝင်ပြောလိုက်သည်။

"သံအမတ်ကြီးရှင့်၊ ကျွန်မအနေနဲ့ နောက်ထပ် အထွေအထူး ဘာမှလဲ ပြောစရာမရှိပါဘူး၊ ဒီမိန်းမက အမေရိကန် သမ္မတကတော်ဖြစ်ကြောင်း သူ့ကို ကရင်မလင်နန်းတော်မှာ ဖမ်းပြီး အကျဉ်းချ ထားကြောင်းနဲ့ တခြားမိန်းမတယောက်က သူ့နေရာ လူစားဝင်ပြီး ဟန်ဆောင်နေကြောင်း ပြောခဲ့ပါတယ်၊ ဒါကို ကျွန်မက ဝတ္တရားအရ ရှင့်ကို လာပြောတာပဲ၊ တခြားဘာမှကို ပြောစရာ မရှိဘူး"

ဤတွင် သံအမတ် ယန်ဒါလ်က ပြုံးလိုက်သည်။

"ဟုတ်ပါတယ်၊ အခု ခင်ဗျားပြောတာဟာ အလွန် ထူးဆန်းတဲ့ အံ့သြဖွယ်သတင်းဖြစ်ပါတယ်။ ဒါပေမဲ့ ကျွန်တော်က ဒီကိစ္စကို လေ့လာစုံစမ်းကြည့်ပါမယ်။ အခုလို လာပြောတဲ့အတွက်လည်း ခင်ဗျားကို အထူးပဲ ကျေးဇူးတင်ပါတယ်"

ထိုမျှနှင့်ပင် သံအမတ်ကြီးက စကားဖြတ်လိုက်လေသည်။

*

အမေရိကန်သမ္မတ ဘရက်ဖို့ဒ်တို့အဖွဲ့အတွက် တည်းခိုနေထိုင်ရန် ဗြိတိသျှ အစိုးရက စီစဉ်ပေးသော နေရာမှာ လန်ဒန်ရှိ နာမည်ကျော် ကလဲရစ်ဂျစ်ဟိုတယ်ကြီးတွင် ဖြစ်လေသည်။ ယင်းဟိုတယ်မှ အခန်းပေါင်းများစွာကို အမေရိကန်သမ္မတနှင့် အဖွဲ့အတွက် လူနေရန် အခန်းများအပြင် အလုပ်လုပ်ရန်အတွက် ရုံးခန်းများပါ စီစဉ်ပေးထားလေသည်။

သမ္မတဘရက်ဖို့ဒ်တွင် ကိုယ်ရေးအရာရှိသဘော အတွင်းရေးမှူး အမျိုးသမီး မစ္စမာတင်ဆိုသူတဦး ရှိသည်။ သမ္မတကြီးတက်ရောက်သည့် အစည်းအဝေးများတွင်

မစ္စမာတင်လည်း လိုက်ပါသွားရကာ မှတ်တမ်းများ ရေးမှတ်ရလေသည်။

ယခု ဟိုတယ်နေရာတွင် အထူးဖန်တီးထားသော အစည်းအဝေး ခန်းမဆောင်ကြီး၌ သမ္မတ ဘရက်ဖို့ဒ်သည် အစည်းအဝေး တက်နေရသည်ဖြစ်ရာ မစ္စမာတင်လည်း လိုက်ပါသွားရသဖြင့် သမ္မတကတော်၏ ပြန်ကြားရေးမှူးက မစ္စမာတင်၏ ရုံးခန်းတွင်း ခေတ္တထိုင်နေလေသည်။

သူမသည် ထိုနေ့ညဘက်တွင် သတင်းစာဆရာပါကာနှင့် ညစာအတူစားရန် ချိန်းထားပြီးဖြစ်သည်။

နိုရာသည် သမ္မတကတော်၏ နောက်တနေ့အစီအစဉ်များကို စနစ်တကျ ရှိစေရန် လှေ့လာပြီး ပြင်ဆင်ရေးဆွဲနေလေသည်။ သို့ရာတွင် အလုပ်ထဲသို့ စိတ်အာရုံစိုက်မရဘဲ ဖြစ်နေသည်။

သူမ၏စိတ်တွင် ယခု မိမိချစ်သူဖြစ်နေသော ပါကာကို သတိရနေမိသည်။ ထို့ပြင် သူတို့နှစ်ဦးလုံး၏ စိတ်ထဲ လျှို့ဝှက်ထားရှိသော သမ္မတကတော် ဘီလီနှင့် ပတ်သက်၍ ထူးဆန်းချက်များ အကြောင်းကိုပါ စဉ်းစားနေမိလေသည်။

ထိုအခိုက် သမ္မတကြီး၏ ယာယီရုံးခန်းထဲရှိ တယ်လီဖုန်းတခုသည် စူးရှစွာ အသံမြည်လာသည်။ ထိုတယ်လီဖုန်းမှာ သီးသန့်တပ်ဆင်ထားပြီး အရေးပေါ်ကိစ္စရှိမှသာ ဆက်ရမည့် တယ်လီဖုန်းလေး ဖြစ်ကြောင်း နိုရာက သိထားသဖြင့် စကားပြောခွက်ကို ပြေး၍ ကောက်ကိုင်လိုက်ပါသည်။

"ဟဲလို... ဟဲလို"

နိုရာက ဖြေလိုက်ရာ တဘက်မှ ဆက်နေသူမှာ သံအမတ်ကြီး ယန်ဒါလ် ဖြစ်နေလေသည်။

"ဟဲလို ဘီလီလား၊ ကျုပ်က မော်စကိုမြို့ကနေပြီး ဆက်နေတဲ့ သံအမတ်ယန်ဒါလ်ပါ"

ဤတွင် နိုရာသည် စိတ်ထဲမှ ထိတ်ခနဲ ဖြစ်သွားပါသည်။ သူမကိုယ်တိုင်ကလည်း သံအမတ်ကြီး ယန်ဒါလ်နှင့် သိကျွမ်းနေပါသည်။

"သံအမတ်ကြီးရှင့်၊ ကျွန်မက သမ္မတကတော် ဘီလီရဲ့ ပြန်ကြားရေးမှူး နိုရာဖြစ်ပါတယ်"

"ဩော် နိုရာလား၊ ကျုပ်က သမ္မတကြီးနဲ့ စကားပြောချင်တယ်၊ အခု သူရှိပါသလား"

"ရှိတော့ ရှိပါတယ်၊ စည်းဝေးခန်းမဆောင်ထဲမှာ လျှို့ဝှက်တံခါးပိတ်ပြီး အစည်းအဝေး လုပ်နေပါတယ်"

"ဒါဖြင့်လဲ ကိစ္စမရှိပါဘူး၊ ကျုပ်က သူအားနေရင် လန်ဒန်မြို့က ထိပ်သီး ဆွေးနွေးပွဲ အခြေအနေ ပြောမလို့ပါပဲ"

"ထိပ်သီး ဆွေးနွေးပွဲက နက်ဖြန်မှ စတင်မှ ဖြစ်ပါတယ်၊ အခုဟာက ကြိုတင် ညှိနှိုင်း ဆွေးနွေးနေကြ တာပါ၊ သမ္မတကြီး ထွက်လာတော့ သံအမတ်ကြီး တယ်လီဖုန်း ဆက်ကြောင်း ပြောလိုက်ပါ့မယ်"

"အေး ကျေးဇူးပါပဲ၊ ဒါထက် နိုရာ ဘီလီတယောက် အနီးအနားမှာများ ရှိနေသလား"

"ဘီလီလည်း မရှိပါဘူးရှင့်၊ သူက ဘိုအင်ဒီသံရုံးကလုပ်တဲ့ ညှော်ခံပွဲတခုကို သွားတက်ရောက်နေ ပါတယ်"

"ဟုတ်လား၊ ဒါဖြင့်လဲ အရေးမကြီးပါဘူး၊ ကျုပ်က ဘီလီရှိနေရင် တကယ်လို့ မော်စကိုမြို့က စိတ်ဝင်စားဖွယ်ဖြစ်ရပ်တခုအကြောင်း ပြောပြမလို့ပါပဲ။ သူ သိပ်အံ့သြသွားမယ်၊ ဒီမယ် နိုရာ ကျုပ်က မင်းကိုပဲ ပြောပြမယ်၊ ပြီးတော့မှ မင်းက ဘီလီကို တဆင့် ပြန်ပြောလိုက်ပေါ့ ဟုတ်ရဲ့လား"

"ဟုတ်ကဲ့ သံအမတ်ကြီးရှင့်၊ ကျွန်မကို ပြောပြထားရင် ကျွန်မက ဘီလီလာတော့ တဆင့် ပြန်ပြောပေးပါ့မယ်"

နိုရာက ပြောလိုက်လျှင် တဘက်မှ သံအမတ် ယန်ဒါလ်က တယ်လီဖုန်းထဲမှ ရယ်မောကာ စကားကို ပြောလေသည်။

"ဒီလိုပါ ဘီလီကို ပြောလိုက်ပါ၊ သူဟာ ဒီနေ့အဖို့ မော်စကိုမြို့ကို ရောက်နေပါတယ်လေ၊ အမေရိကန် အမျိုးသမီး တိုးရစ်တဦးက သမ္မတကတော် ဘီလီကို မော်စကိုမြို့ ကရင်မလင် နန်းတော်မှ တွေ့ခဲ့သတဲ့ကွာ"

ဤသို့ အစချီကာ သံအမတ်ယန်ဒါလ်သည် ရယ်ကာမောကာဖြင့် မစ္စက်ဝိုက်ဆိုသူ အမျိုးသမီးက လာရောက်ပြောကြားပုံကို ဆက်ပြောနေလေသည်။

သို့သော် နိုရာကမူ လုံးဝ မပြုံးမရယ်ဘဲ မျက်လုံးပြူးကာ သံအမတ်ကြီး ပြောပြချက်ကို နားထောင်နေလေသည်။

*

သတင်းစာဆရာ ပါကာနှင့် ညစာစားချိန်ကျမှ ဆုံရန် ချိန်းထားသော်လည်း

နိုရာက စကားပြောစရာ ရှိသည်ဟုဆိုကာ ခပ်စောစော ကြိုတင် တွေ့ကြရန် လှမ်းပြောလိုက်သဖြင့် ပါကာလည်း ရောက်လာလေသည်။

သူတို့သည် ကလဲရစ်ဂျစ် ဟိုတယ်ခန်း၏ ချောင်ကျကျ တနေရာတွင် ထိုင်ကာ ယမကာတခွက်စီ မှာသောက်ရင်း စကားပြောနေကြသည်။

နိုရာက မော်စကိုမြို့မှ အမေရိကန်သံအမတ်ကြီး ယန်ဒါလ် တယ်လီဖုန်းဆက်ပြောသည့် ကိစ္စကို အသေးစိတ် ပြန်ပြောပြလိုက်ရာ ပါကာလည်း အံ့သြနေမိလေသည်။

"အဲဒီအမျိုးသမီးက သူဟာ အမေရိကန် သမ္မတကတော် ဘီလီဖြစ်ကြောင်းနဲ့ တယောက်ယောက်ဟာ သူ့နေရာ လူစားဝင်ပြီး ဟန်ဆောင်နေပါတယ်လို့ ပြောသွားတယ် ဆိုတာက တကယ့်ကို ထူးဆန်းတယ်"

နိုရာ၏ စကားအဆုံးတွင် ပါကာက

"သူ ဒီလိုပဲ ပြောသတဲ့လား"

ဟု မေးလိုက်သည်။

"သံအမတ်ကြီး ယန်ဒါလ် ပြောပြချက်အရတော့ ဒီအတိုင်းပါပဲ"

"ပြီးတော့ အမျိုးသမီးက သူ့ကို ကရင်မလင်နန်းတော်မှာ ဖမ်းထားပါတယ်လို့လဲ ပြောခဲ့တယ် မဟုတ်လား"

"ဟုတ်ပါတယ်"

ဤတွင် ပါကာသည် ခေတ္တစဉ်းစားနေလိုက်သည်။ ထို့နောက် သူ၏အရက်ခွက်ကို ယူသောက်လိုက် ပြီးမှ

"ဒါထက် သံအမတ်ကြီး ယန်ဒါလ်က ဒီကိစ္စကို လောလောဆယ် လေးလေးနက်နက် သဘောထား ရဲ့လား" ဟု မေးလိုက်လေသည်။

"သဘော မထားပါဘူးရှင်၊ သူက ရယ်စရာ မောစရာသဘောမျိုး ပြောတာပါ"

"ကောင်းပြီ၊ သူပြောတာ နားထောင်နေရင်း မင်းအနေနဲ့ ဘယ်လို သဘောထားမိသလဲ"

"ဘယ်လိုလုပ်ပြီး သဘောထားရမှာလဲရှင့်၊ ကျွန်မအနေနဲ့က သံအမတ်ကြီးက ရယ်စရာလုပ် ပြောနေတာကို ဒီအတိုင်းပဲ နားထောင်နေရတာပေါ့"

"ဒီအကြောင်းကို သမ္မတကတော် ပြန်လာရင် ပြန်ပြောမယ်လို့ စိတ်ကူးသလား"

"အဲဒါ တော်တော် ခက်နေပါတယ်။ ပြောရမလား မပြောဘဲ နေရင် ကောင်းမလားဆိုတာ ကျွန်မ ဆုံးဖြတ်လို့ မရဘူး။ တကယ်လို့ ဒီကိစ္စက တကယ်ပဲ လေးနက်တဲ့ကိစ္စ ဖြစ်နေရင် ကျွန်မ ပြောလိုက်တဲ့အခါ သမ္မတကတော်က ဘယ်လိုဖြစ်သွားမယ်ဆိုတာကိုတော့ ကျွန်မ သိချင်တယ်။ ဒါပေမယ့် ဟိုမော်စကိုမြို့က အမျိုးသမီးဟာ ဘီလီအစစ် ဖြစ်နေရင် ဒီအမျိုးသမီးက အဖြစ်မှန် သိသွားမှာကိုလည်း စိုးရိမ်မိပြန်တယ်။ ရှင်ကရော ဘယ်လိုသဘောရသလဲ။ ကျွန်မအနေနဲ့ သမ္မတကတော်ကို ပြန်ပြောဖို့ သင့်သလား"

"ကျုပ်သဘောမှန်ကို ပြောရရင် ဒီကိစ္စကို မပြောသင့်ဘူး၊ ဒီအတိုင်းပဲ အသာနေလိုက်ရင် ကောင်းမယ်"

"ဒါဖြင့် ကောင်းပြီလေ၊ ကျွန်မ မပြောဘဲ နေလိုက်ပါမယ်"

"ဒီမယ် နိုရာ ပွင့်ပွင့်လင်းလင်း ပြောစမ်းပါ။ မင်းစိတ်ထဲက ဒီကိစ္စကို ဘယ်လို ထင်သလဲဆိုတာ အမှန်အတိုင်း ပြောစမ်းပါ"

"ကျွန်မတော့ ကြက်သီး ထမိတယ်၊ ကျောချမ်းလောက်အောင်ကိုဖြစ်မိပါတယ်"

"တခုတော့ ရှိတာပေါ့ကွာ၊ သံအမတ်ကြီး ထင်သလို မှန်ချင်လည်း မှန်နိုင်တယ်။ မစ္စတိုက်ဆိုတဲ့ မိန်းမကြီးက စိတ်ကူးယဉ် စိတ်ရှူးပေါက်ပြီး ထင်ရာပြောသွားလို့ ရယ်စရာတခုလည်း ဖြစ်နိုင်တယ်။ ဒါပေမဲ့လည်း တဘက်က ကြည့်ပြန်တော့ သမ္မတကတော် ဘီလီအစစ်က မော်စကိုမြို့မှာ အဖမ်းခံနေရတာ တကယ်ဖြစ်ရင် မင်းတို့ ငါတို့ သံသယဖြစ်နေမိတဲ့ ထူးထူးဆန်းဆန်း ဖြစ်ရပ်တွေရဲ့ အဖြေမှန် ဖြစ်လာနိုင်တယ်"

"ရှင်ပြောတာ သဘာဝကျပေမယ့် ဖြစ်နိုင်ဖို့က မလွယ်ဘူးရှင့်၊ ဒီက ဘီလီဟာ မစစ်မဟုတ်ဘဲ လူစားဝင်ပြီး ဟန်ဆောင်နေတာ ဖြစ်နိုင်ပါ့မလား။ ရုရှတွေအနေနဲ့ ဒီလို သမ္မတကတော်နေရာမှာ လူချင်းလဲလိုက်တာမျိုး လုပ်ဝံ့ပါ့မလား"

"ဒါလည်း ဟုတ်တာပဲ။ ဘာပဲဖြစ်ဖြစ်ကွာ ငါတို့ စောစောက သံသယဖြစ်မိတဲ့အချက်ကိုတော့ အခုကိစ္စက အထောက်အထားသဘောမျိုး ဖြစ်နေတာတော့ အမှန်ပဲ"

"ကျွန်မတို့ ဘယ်လိုလုပ်ရင် ကောင်းမလဲဟင်၊ အကြံဉာဏ်ပေးစမ်း၊

သမ္မတကြီးကို ပြောပြရင် ဖြစ်မယ်"

"ဟာ ရှင်ကလည်း ခိုင်လုံတဲ့ အထောက်အထား ဘာမှမရှိဘဲနဲ့ သွားပြောရင် သမ္မတကြီးက ကျွန်မတို့ကို ရူးနေပြီလို့ ထင်မှာပေါ့၊ ဒါတင် မနေသေးဘူး၊ ကျွန်မတို့နှစ်ယောက်စလုံးကို စိတ္တဇဆေးရုံ ပို့လိုက်မှာတောင် စိုးရတယ်"

"မင်းပြောတာ ဖြစ်နိုင်သလို တဘက်ရှုထောင့်က ကြည့်လိုက်ပြန်ရင်လည်း သမ္မတကြီးကိုယ်တိုင်က သူ့ဇနီးဘီလီအပေါ် ကျိတ်ပြီး သံသယရှိနေရင် ဘယ့်နှယ့် လုပ်ကြမလဲ"

"အဲဒီလိုသာဖြစ်နေရင် အခုကိစ္စက သူ့ အဖို့ သတိထားကြည့်စရာ အထောက်အထား အချက်အလက် ဖြစ်လာနိုင်မယ် မဟုတ်လား"

ပါကာက ဤသို့ ပြောသည်ကို နိုရာသည် လက်ခံချင်ပုံ မရချေ။

"မဖြစ်နိုင်ပါဘူးရှင့်၊ ကျွန်မတို့က သမ္မတကတော်နေရာမှာ လူစားထိုး လဲထားကြောင်း အထောက်အထား တခုမှ ပြနိုင်တာ မဟုတ်ဘူး၊ အခု သမ္မတကြီးက သူ့ဇနီးဟာ ဘီလီအစစ်ပဲလို့ ယုံကြည်နေပုံရတယ်။ နောက်တခုကလည်း ကျွန်မတို့သွားပြောတာကို သမ္မတကြီးက ညအိပ်ရာ ဝင်ချိန်မှာ သူ့ဇနီးကို ပြန်ပြောပြလိုက်ရင် ဒီမိန်းမက ဘီလီအစစ် ဟုတ်သည် ဖြစ်စေ၊ မဟုတ်သည် ဖြစ်စေ၊ ကျွန်မတို့ကို ချက်ချင်း အလုပ်က ထုတ်ပစ်လိုက်မှာ သေချာတယ်၊ ရှင်လဲပဲ ပြုတ်မှာပဲ"

"ဒါဖြင့် ဘာလုပ်ကြမလဲ"

"ဘာလုပ်ရမှာလဲရှင့်၊ ဘာမှမပြောဘဲ အသာငြိမ်နေလိုက်ရုံပေါ့၊ တကယ် ခိုင်လုံတဲ့ အထောက်အထား တခုခု ရလာတဲ့ အချိန်အထိ စောင့်ကြည့်နေတာ အကောင်းဆုံးပဲ"

နိုရာက ဤသို့ပြောသည်ကို ပါကာသည် စဉ်းစားကြည့်မိရာမှ သူပြောသလို ခိုင်လုံသော အထောက်အထား တခုခု ရရှိသည်အထိ စောင့်ကြည့်နေခြင်းသည် အကောင်းဆုံးဟု သဘောရမိလေ သည်။ သို့သော် သူ၏ ဆုံးဖြတ်ချက်တခုကိုတော့ နိုရာအား ပြောပြလိုက်မိလေသည်။

"တခုတော့ ငါလုပ်မယ်ကွာ။ အခုအချိန်ကစပြီး ဘီလီ ဘယ်ကိုသွားသွား၊ ငါ နောက်က တောက်လျှောက် ခြေရာခံလိုက်ပြီး ကြည့်မယ်။ ဘယ်ကို သွားလို့ ဘယ်သူတွေနဲ့ တွေ့ဆုံတယ် ဆိုတာကအစ လိုက်ကြည့်မယ်"

"ရှင်လည်း သတိထားဦးနော်၊ ရှင့်အဖို့ အန္တရာယ်လည်း ဖြစ်နေပါဦးမယ်"

နိုရာက စိုးရိမ်ဟန်ဖြင့် သတိပေးလိုက်လေသည်။

*

## အခန်း (၈)

နောက်တနေ့ မွန်းလွဲပိုင်း ခပ်စောစောအချိန် ဖြစ်လေသည်။

သတင်းစာဆရာ ပါကာသည် ဟိုတယ်အောက်ထပ်ရှိ ဧည့်ခန်းတွင် ထိုင်၍ သတင်းစာများကို ဖတ်နေစဉ် ဓာတ်လှေကားဖြင့် သမ္မတကတော် ဘီလီ ဆင်းလာသည်ကို မြင်လိုက်ရသဖြင့် ရုတ်တရက် အံ့အားသင့်သွားမိလေသည်။

အံ့အားသင့်ခြင်းမှာလည်း အကြောင်းရှိပေသည်။ သူသည် သမ္မတကတော်ဘီလီ သွားလေရာသို့ နောက်မှ ခြေရာခံ လိုက်ကြည့်ရန် ဆုံးဖြတ်ခဲ့ပြီးနောက် သူ့အတွက် မော်တော်ကားတစီး ငှားထားပြီးဖြစ်သည်။ ထို့နောက် ပြန်ကြားရေးမှူး နီရာအား သမ္မတကတော်အနေဖြင့် ထိုနေ့ မွန်းလွဲပိုင်း သွားရမည့် အစီအစဉ်များအကြောင်း စုံစမ်းကြည်ရာ အပြင်ဘက်သို့ ထွက်စရာ လုံးဝ အစီအစဉ် မရှိကြောင်း၊ ညနေ လေးနာရီထိုးမှသာ ပါကာနှင့် တွေ့ဆုံရန်၊ အတ္ထုပ္ပတ္တိ စာအုပ်ကိစ္စ ဆွေးနွေးရန်ရှိကြောင်း သိခဲ့ရသည်။ ညနေပိုင်းမှသာ ဘီလီသည် ဗြိတိသျှ ဝန်ကြီးချုပ်ကတော်နှင့် အတူ တေးဂီတ ဖျော်ဖြေပွဲတခုသို့ သွားရန်ရှိ ကြောင်းကိုလည်း သိခဲ့ရသည်။

ထို့ကြောင့် ယခု သမ္မတကတော်ဘီလီ အပြင်ဘက်ထွက်မည့်ဟန်ဖြင့် ဓာတ်လှေကားနှင့် ဆင်းလာသည်ကို မြင်ရ၍ ပါကာသည် အံ့အားသင့်မိခြင်း ဖြစ်လေသည်။

ထုံးစံအရဆိုလျှင် သမ္မတကတော် သွားလေရာတွင် အမေရိကန် လုံခြုံရေး စုံထောက်များ လိုက်ပါရသည်ဖြစ်ရာ ယခုတော့ မည်သူမျှ မပါဘဲ ဘီလီတယောက်တည်း ဓာတ်လှေကားဖြင့် ဆင်းလာခြင်းမှာ အလွန်ထူးဆန်း အံ့သြဖွယ် ကောင်းနေပါသည်။

ဘီလီသည် အဝတ်အစား ဝတ်ထားပုံကလည်း မထင်မရှားဖြစ်အောင် ရုပ်ဖျက်ထားသလို ကုတ်အကျႌ တထည် ဝတ်ထားသည့်အပြင် နေကာမျက်မှန်အနက်ကိုလည်း တပ်ဆင်ထားသေးသည်။ ပါကာသည် အသာစောင့်ကြည့်ရင်း သူ့နောက်မှ ခြေရာခံ၍လိုက်ရန် အသင့်ပြင်ထားလိုက်သည်။

သမ္မတကတော်ဘီလီသည် ဟိုတယ်ပြင်ဘက်သို့ ရောက်သောအခါ တက္ကစီကားတစီးကို ငှား၍ တက်စီးသွားလေရာ ပါကာကလည်း အသင့်ငှားထားပြီးသော မော်တော်ကားပေါ်တက်၍ မလှမ်းမကမ်းမှ လိုက်သွားလေသည်။

ရှေ့မှ တက္ကစီကားသည် ဘွန်းလမ်းမှ တဆင့် ဘာကီလီဥယျာဉ်ဘက်ဆီသို့ မောင်းသွားရာ ပါကာသည် ကားမောင်းရင်း လိုက်လာရာက သမ္မတကတော် တယောက်တည်း ဘယ်ကိုသွားမှာ ပါလိမ့်ဟု စဉ်းစား၍ မရဘဲ ဖြစ်နေလေသည်။ သို့သော် တက္ကစီကား ဦးတည်မောင်းနေပုံကို အကဲခတ်ကြည့်ခြင်းအားဖြင့် လန်ဒန်မြို့ပေါ် အနောက်ပိုင်းရပ်ကွက်ဆီသို့ သွားလိမ့်မည်ဟု ခန့်မှန်းရပေသည်။ ရှေ့ကားက ခပ်သွက်သွက်မောင်းနေသဖြင့် ပါကာသည် မလှမ်းမကမ်းမှ ခြေရာခံလိုက်ရာတွင် အတော်ခဲခဲယဉ်းယဉ်း လိုက်မောင်းနေရလေသည်။ လမ်းဆုံ မီးပွိုင့်တခု၌ ရှေ့ကား လွန်သွားပြီးမှ မီးနီသွားသဖြင့် ပါကာလည်း မတတ်သာဘဲ မီးနီကိုပင် ဖွတ်ဖြတ်မောင်း၍ လိုက်ရလေသည်။

လမ်းတလမ်း၌ သတင်းစာတိုက် နှစ်တိုက်ကို ဖြတ်သွားရလေရာ ပါကာသည် အမေရိကန် သမ္မတနှင့် ရုရှဝန်ကြီးချုပ်တို့ ထိပ်သီးဆွေးနွေးပွဲအကြောင်းကို ဆက်စပ်စဉ်းစားမိလေသည်။ ယခုအချိန်အထိ ရုရှတို့ဘက်မှ အချိန်ဆွဲနေပုံ ရသည်။ ဘာ့ကြောင့် အချိန်ဆွဲရလေသနည်း။ အကယ်၍ ယခု တက္ကစီကားပေါ်မှ သမ္မတကတော်သည် ဘီလီအစစ် မဟုတ်ဘဲ လူစားထိုးထားသော ရုရှတို့ဘက်မှ သူလျှိုမဖြစ်နေပါမူ ဆိုဗီယက်ဝန်ကြီးချုပ်က အချိန်ဆွဲနေခြင်းသည် သဘာဝကျသည်။ သူတို့၏လူ သမ္မတကတော်အတုထံမှ လျှို့ဝှက်ထောက်လှမ်းရေးသတင်း၊ သမ္မတ ဘရက်ဖို့ဒ်၏ အကြံအစည် စသည်တို့ကို ရရှိအောင် စောင့်ဆိုင်းနေခြင်း ဖြစ်နိုင်လေသည်။ ရှေ့မှ တက္ကစီကားသည် ပီကာဒီလီ အရပ်သို့ ရောက်လျှင် လက်ယာဘက်သို့ ချိုး၍ ဟိုက်ဒ်ပတ်ဥယျာဉ်ဘက်သို့ ကွေ့မောင်း သွားလေသည်။ ထို့နောက် ကားကို အရှိန်လျှော့၍ မောင်းနှင်သဖြင့် ပါကာလည်း နောက်မှ သူ၏ကားကို အရှိန်လျှော့ကာ ခပ်ဖြည်းဖြည်း မောင်း၍ လိုက်ပါလာသည်။

မကြာမီ တက္ကစီကားသည် ဆိုင်တဆိုင်ရှေ့တွင် ထိုးရပ်လိုက်ပြီး သမ္မတကတော်ဘီလီသည် ကားပေါ်မှ ဆင်းလိုက်သည်။

ပါကာလည်း ဆိုင်ကို လှမ်းကြည့်လိုက်ရာ အထက်တန်းလွှာ အမျိုးသမီး အများစုအတွက် ဝတ်စုံများ ချုပ်လုပ်သော နာမည်ကြီး လက်ဒ်ဘာရီဆိုင်ဖြစ်ကြောင်း သတိပြုမိလေသည်။

ထိုဆိုင်ပိုင်ရှင် လက်ဒ်ဘာရီဆိုသူကို ပါကာကိုယ်တိုင် လွန်ခဲ့သော ရက်သတ္တပတ်အတွင်းက ဝါရှင်တန်မြို့ သမ္မတအိမ်တော်၌ တွေ့ခဲ့ဖူးသည်။ ထိုစဉ်က သမ္မတကတော် လန်ဒန်မြို့တွင် ဝတ်ဆင်မည့် ဝတ်စုံသစ်များ ချုပ်လုပ်ရေးအတွက် လာရောက်တိုင်ပင် ဆွေးနွေးခြင်း ဖြစ်သည်ဟု သိရပေသည်။ လက်ဒ်ဘာရီက တီထွင် ဆန်းသစ်ထားသည့် ဝတ်စုံအသစ်များကို သမ္မတကတော်အား လာရောက်ပြရင်း ကိုယ်ထည်အတိုင်းများ အတိအကျ တိုင်းထွာရန်အတွက်

ဝါရှင်တန်မြို့သို့ လာရောက်ခြင်း ဖြစ်သည်ဟု သိရပေသည်။ သို့ရာတွင် ယခု သမ္မတကတော်ဘီလီသည် တည်းခိုရာဟိုတယ်မှ မည်သူ့ကိုမှ အဖော်မခေါ်ဘဲ တယောက်တည်း လက်ဖ်ဘာရီ၏ ဆိုင်သို့ လာရောက်ခြင်းမှာ ထူးဆန်းနေပေသည်။

ဝတ်စုံချုပ်သူအား ဟိုတယ်သို့ တယ်လီဖုန်း ဆက်ခေါ်လိုက်လျှင်လည်း ဖြစ်နိုင်သည်။ သူမက လက်ဒ်ဘာရီထံသို့ မည်သူမျှမသိအောင် ပုန်းလျှိုးဝှက်လျှိုး လာရောက်တွေ့ဆုံသည်မှာ ဘာကြောင့်များ ဖြစ်လေသနည်း။ ဆိုင်အတွင်းသို့ ရောက်သောအခါ သမ္မတ ကတော်အတု ဗီရာအား ဆိုင်ရှင်လက်ဒ်ဘာရီကိုယ်တိုင် ခရီးဦးကြိုပြုပြီးနောက် သူ၏ သီးသန့်ရုံးခန်းတွင်းသို့ ချက်ချင်း ခေါ်သွားလေသည်။ ထို့နောက် လက်ဒ်ဘာရီသည် အခန်းတံခါးကို သေချာစွာ ပိတ်လိုက်ပြီးမှ ဗီရာအား သဘောကျဟန် မရှိပုံဖြင့် စကားပြောလေသည်။

"ဘာဖြစ်လို့ ဒီကိုလာခဲ့ရတာလဲ၊ မင်းတယောက်တည်း ဒီကိုလာဖို့ မကောင်းဘူးဆိုတာ မသိဘူးလား"

လက်ဒ်ဘာရီက အပြစ်တင်ဟန်ဖြင့် ပြောရာ ဗီရာကလည်း

"ကျွန်မမှာ အရေးပေါ်ကိစ္စ ကြုံနေလို့ လာခဲ့တာပါ"

ဟု ပြန်ပြောလိုက်သည်။

"မင်းက ဘယ်လိုလုပ်ပြီး ထွက်လာခဲ့တာလဲ၊ အမေရိကန်လုံခြုံရေး အစောင့်တွေရော မင်းနဲ့အတူ လိုက်လာသလား"

"ကျွန်မတယောက်တည်း ဘယ်သူမှမသိအောင် အလစ်မှာ ထွက်လာခဲ့တာရှင့်၊ လုံခြုံရေး အစောင့်တွေတောင် မသိဘူး"

"အခု မင်း ဒီကိုလာတာကို ဘယ်သူမှ မသိဘူးဆိုတာ သေချာရဲ့လား"

"သေချာပါတယ်ရှင့်၊ ကိုင်း ဒါတွေထားပါဦး၊ ကျွန်မမှာ အရေးတကြီး ပြဿနာ ရှိနေလို့ ရှင့်ဆီက အကူအညီတောင်းဖို့ လာခဲ့တာပါ၊ ကိစ္စက တကယ့်ကို အရေးကြီးတယ်ရှင့်"

"ဒီလန်ဒန်မြို့မှာရှိတုန်းက ကျုပ်က ကူညီဖို့ အဆင်သင့်ပဲ၊ ဘာကိစ္စ ဆိုတာသာ ပြောစမ်းပါ"

"ဒီမယ် အမေရိကန်သမ္မတဟာ နက်ဖြန်ညကစပြီး သူ့ဇနီးနဲ့အတူပြန်အိပ်ဖို့ ဆရာဝန်က ခွင့်ပြုလိုက်တယ်"

"ဒါကို ကျုပ် သိပါတယ်"

"မဟုတ်ဘူးရှင့်၊ ဒီနေ့မနက်ပဲ သမ္မတက ကျွန်မကိုပြောတယ်၊ ဆရာဝန်ရဲ့ညွှန်ကြားချက်ကို အတိအကျ လိုက်နာဖို့ မလိုပါဘူးတဲ့၊ အဓိပ္ပာယ်က ဒီနေ့ညကစပြီး သူက ကျွန်မနဲ့အတူ အိပ်ချင်တယ် ဆိုတဲ့ သဘောပဲ"

"မင်းက သူ့ကို နောက်ထပ် ဆိုင်းဖို့ ပြောမကြည့်ဘူးလား"

"ဩော် ရှင်ကလည်း ခက်လိုက်တာ၊ လင်နဲ့မယားအနေနဲ့ မိန်းမတယောက်က ကိုယ့်ယောက်ျားကို ဘယ်လိုလုပ်ပြီး ပြောမလဲ၊ ကျွန်မက ဆရာဝန် ညွှန်ကြားတဲ့အတိုင်း တစ်ရက်တော့ စောင့်လိုက်ရင် ကောင်းမယ် ထင်တယ်လို့တောင် ပြောကြည့်သေးတယ်။ ဒါပေမဲ့ သူက ဆိုင်းချင်ပုံမရဘူး။ ဒါနဲ့ ကျွန်မလည်း မထူးတော့ပါဘူးဆိုပြီး သဘောတူလိုက်တယ်။ ဒီတော့မှ သူက ပြုံးဖြဲဖြဲနဲ့ ကျေနပ်သွားပုံ ရတယ်"

ဤတွင် လက်ဒ်ဘာရီသည် ခေတ္တမျှ စဉ်းစားနေပြီးနောက်…

"ဒါဖြင့် အခုညပဲ အတူအိပ်ရတော့မယ်ဆိုပါတော့" ဟု မှတ်ချက်ချသလို ပြောလိုက်သည်။

"ဟုတ်တယ်ရှင့်၊ ဒါထက် အရေးကြီးတာက အခုည ကျွန်မနဲ့အတူ အိပ်ပြီးရင် သမ္မတကြီးက ကျွန်မကို နိုင်ငံရေးအကြောင်းတွေ ပြောမယ်လို့ ဆိုတယ်၊ အဲဒါဟာ ဘိုအင်ဒီနိုင်ငံနဲ့ ပတ်သက်လို့ သူ့ရဲ့အကြံအစည်တွေကို ဖွင့်ပြောမယ်လို့ ထင်တာပဲ၊ ဒီတော့ ကျွန်မတို့ဘက်က လိုချင်တဲ့ အမေရိကန် သမ္မတရဲ့လျှို့ဝှက်အကြံအစည်တွေ ရှိရမယ် မဟုတ်ပါလား။ အခု ကျွန်မ အကြီးအကျယ် စိုးရိမ်နေတာက ညအိပ်ရာဝင်တဲ့အခါကျတော့ သူ့ဇနီးအစစ် ဘီလီက ဘယ်လို ဆက်ဆံပြုမူတယ် ဆိုတာ ကျွန်မ လုံးလုံး မသိတော့ မှားသွားမှာ စိုးရိမ်မိတယ်။ တချက်မှားသွားတာနဲ့ သမ္မတကြီးက ကျွန်မဟာ သူ့ဇနီး ဘီလီအစစ်မှ ဟုတ်ရဲ့လားလို့ သံသယ ဖြစ်သွားပြီဆိုရင် အကြီးအကျယ် ပြဿနာပေါ်လာမှာ သေချာတယ်"

"ဒါလောက်လဲ စိုးရိမ်မနေပါနဲ့ ဗီရာရယ်"

"အို ကျွန်မအနေနဲ့ မစိုးရိမ်ဘဲ မနေနိုင်ဘူးရှင့်၊ ဒါနဲ့ ပတ်သက်လို့ မော်စကိုမြို့က လူတွေဆီကို ကျွန်မ အကူအညီ တောင်းထားတာလဲ အခုအချိန်အထိ ဘာမှ မကြောင်းပြန်ဘူး။ ကျွန်မကတော့ သူတို့ဆီက ညွှန်ကြားချက် မရရင် အခုည အမေရိကန် သမ္မတနဲ့ မအိပ်ဝံ့ဘူး၊ အဲဒါကို သူတို့သိအောင် တဆိတ် ပြောပေးပါ"

"ကောင်းပါပြီ၊ ကျုပ်ပြောပေးပါ့မယ်၊ ဒီနေ့ညနေမတိုင်မီ တယောက်ယောက်က မင်းကို ဖြစ်တဲ့နည်းနဲ့ ဆက်သွယ် အကြောင်းကြားပါလိမ့်မယ်

စိတ်သာချနေ။ ကိုင်း မင်းလည်း ဟိုတယ် ပြန်ဖို့ ကျုပ် ကိုယ်တိုင် တက္ကစီတစီး ခေါ်ပေးပါ့မယ်"

လက်ဒ်ဘာရီက စကားကို အဆုံးသတ်လိုက်သည်။

*

သတင်းစာဆရာ ပါကာသည် ဗီရာ ပြန်လာပြီး မကြာမီ ဟိုတယ်သို့ ပြန်လာခဲ့လေသည်။

ထို့နောက် ကြိုတင်ချိန်းထားသည့် အစီအစဉ်အတိုင်း သမ္မတကတော်နှင့် သွားတွေ့ဆုံ လေသည်။ အစီအစဉ်ကား သမ္မတကတော်အနေဖြင့် ဝါရှင်တန်မြို့ သမ္မတအိမ်တော်သို့ ရောက်ခါစအချိန်က အတွေ့အကြုံများကို မေးမြန်းပြီး မှတ်တမ်းတင်ထားရန်ပင်ဖြစ်ရာ ပါကာသည်။ မှတ်စုစာအုပ်နှင့် ရေးမှတ်ရုံမက တိပ်ခွေဖြင့်လည်း အသံသွင်းထားရန် ရီကော်ဒါစက်တခုပါ အသင့်ပြင်ဆင်ထားသည်။

ဤသို့ ပြင်ဆင်မှုများ ပြုလုပ်၍ ပါကာက မေးခွန်းများ စတင်မေးတော့မည် ပြုစဉ်မှာပင် ဧည့်ခန်းတံခါး ပွင့်လာပြီး သမ္မတဘရက်ဖို့ဒ် ရုတ်တရက် ဝင်လာလေသည်။

အမှန်တော့ သူသည် ယမကာအရက်တခွက် သောက်လို၍ ဧည့်ခန်းတနေရာရှိ ဘားကောင်တာသို့ လာခြင်းဖြစ်သည်။

သမ္မတ ဝင်လာသည်ကိုမြင်လျှင် ဗီရာက ပြုံး၍...

"ဟဲလို အင်ဒရူး"

ဟု လှမ်းခေါ်လိုက်သည်။

သမ္မတကလည်း "ဟဲလို ဒါလင်" ဟု ပြန်နှုတ်ဆက်ရင် ဗီရာ၏ ပါးပြင်ကို နမ်းလိုက်သည်။

"ရုရှတွေနဲ့ ဆွေးနွေးရတာ ဘယ့်နှယ့်လဲရှင့်"

ဗီရာက မသိမသာ စကားနှိုက်၍ မေးလိုက်သည်။

"တို့ထင်တားတဲ့အတိုင်းပါပဲ၊ ရုရှဝန်ကြီးချုပ်ကီရင်ချင်ကိုကတော့ စကားပြောရာမှာ ရည်မွန်ပါတယ်။ ဒါပေမဲ့ သဘောကွဲလွဲမှုကတော့ ရှိနေတုန်းပဲ။ စာချုပ် ချုပ်ဖြစ်တဲ့အထိတော့ အောင်မြင်လိမ့်မယ် ထင်ပါတယ်။ အခုတော့

ဝန်ကြီးကတဆင့် ကိုယ်စားလှယ်တွေ ဆက်ဆံ ဆွေးနွေးတုန်းပါပဲ။ ညစာ မစားခင် ကိုယ့်ဇနီးနဲ့အတူ ခဏအနားယူမယ် စိတ်ကူးပြီး ထွက်လာခဲ့တာပဲ"

"ကောင်းတာပေါ့ရှင်"

"ဒါထက် ဘီလီ၊ မင်းကကော တော်တော် အလုပ်များနေသလား၊ ဘယ်တွေ ရောက်ခဲ့သလဲ၊ ဘာတွေများ မြင်ရသေးသလဲ"

"ကျွန်မအဖို့က ဒီနေ့ ဘာမှ အလုပ်မရှိလို့ ပျင်းစရာကြီးပါပဲ။ ကျွန်မဖြင့် ဒီဟိုတယ်ကနေ အပြင်ဘက်ကို လုံးဝ မထွက်ခဲ့ပါဘူး"

ဤသို့ ပြောပြီးနောက် ဗီရာသည် ပါကာဘက်သို့ လှည့်၍

"ကဲ ရှင်မြင်တဲ့အတိုင်းပဲ ဒီနေ့တော့ အလုပ်လုပ်လို့ မဖြစ်သေးဘူး၊ မနက်ဖြန်ကျမှပဲ တွေ့ကြတာပေါ့။ ရှင်က နိုရာနဲ့ ဆက်သွယ်ပြီး စီစဉ်ပါ" ဟု ပြောလိုက်သည်။

ပါကာလည်း ဘာမျှမပြောဘဲ တိပ်ရီကော်ဒါစက်ကို ပြန်သိမ်း၍ လျင်မြန်စွာ ထွက်ခွာခဲ့လေသည်။

ထို့နောက် သူသည် နိုရာ၏ အခန်းသို့ တိုက်ရိုက်သွားလေသည်။

နိုရာသည် တံခါးဖွင့်ပေးပြီးနောက် ပါကာအား ယမကာဖြင့် ဧည့်ခံရန် ပြင်ဆင်လေသည်။

"ကျွန်မတို့က တနေ့ တနေ့ အရက်ချည်းပဲ သောက်နေသလို ဖြစ်နေတာပါပဲ"

နိုရာက ဖန်ခွက်ကို လှမ်းပေးရင်း ရယ်စရာပြောလိုက်ရာ ပါကာက မျက်နှာထား တည်တည်ဖြင့်

"အရက်သောက်နေတာပဲ ကောင်းပါတယ်ကွာ" ဟု ပြန်ပြောလိုက်သည်။

သူ၏ မျက်နှာအမူအရာက စိတ်အနှောင့်အယှက် တစုံတခု ဖြစ်နေပုံရသဖြင့် နိုရာက

"ဘာများ ထူးလို့လဲရှင့်" ဟု မေးလိုက်သည်။

ဤတွင် ပါကာသည် သူ၏ တိပ်ရီကော်ဒါစက်ကို စားပွဲပေါ်တင်၍ ဖွင့်ရန် ပြင်ဆင်လိုက်သည်။

"ကျုပ်က သမ္မတတော်ရဲ့ပြောပြချက်တွေကို အသံသွင်းယူဖို့ စက်ကိုဖွင့်ထားပြီးကာမှ ရုတ်တရက် သမ္မတကြီး ရောက်လာတယ်။ သူတို့ပြောတဲ့စကားတွေ အသံဖမ်းပြီးသား ဖြစ်နေတာပေါ့။ ကဲ နားထောင်ကြည့်စမ်း"

ပြောပြောဆိုဆို ပါကာသည် ရီကော်ဒါစက်ကို ဖွင့်လိုက်သည်။

ဗီရာ၏အသံဖြင့် "ကျွန်မ ဟိုတယ်အပြင်ဘက်ကို လုံးဝ မထွက်ခဲ့ဘူး" ဟု ပြောသံ ထွက်ပေါ်လာပြီး နောက် ပါကာသည် စက်ကို ပြန်ပိတ်လိုက်သည်။

"ကဲ မင်းကြားတယ်မဟုတ်လား"

"ကြားသားပဲ၊ အဲဒါ ဘာဖြစ်လို့လဲဘီလီက ဒီနေ့တနေ့လုံး ဟိုတယ်မှာ ရှိနေသားပဲ၊ ကျွန်မ သိသလောက် ဒီနေ့ အပြင်ဘက်ကို ထွက်ဖို့ အစီအစဉ်လည်း မရှိဘူး"

"ဟုတ်လား၊ ဒါပေမဲ့ သမ္မတကတော်ကတော့ သီးသန့် အစီအစဉ် ရှိပုံရတယ်၊ ဒီနေ့ မွန်းလွဲပိုင်းက တယောက်တည်း တိတ်တိတ် အပြင်ဘက်ကို ထွက်သွားတယ်"

ပါကာက ပြောလိုက်ရာ နိုရာသည် အံ့အားသင့်သွားလေသည်။

"ရှင် သေချာရဲ့လားရှင်"

"သေချာပါတယ်"

"ဘီလီ အပြင်ဘက်ထွက်တယ်ဆိုတာ သူတယောက်တည်းလား၊ လုံခြုံရေးအစောင့်တွေကော ပါသလား"

"မပါဘူး၊ သူတယောက်တည်းသွားတယ်၊ သွားတာကလည်း ရိုးရိုးတက္ကစီငှားသွားတယ်"

"ဟင် ဟုတ်လား၊ အတော် ထူးဆန်းတာပဲ၊ သူဘယ်ကိုသွားတယ် ဆိုတာကိုကော ရှင်သိသလား"

"ကျုပ်က သူ့နောက်က ခြေရာခံ လိုက်သွားကြည့်တော့ အဝတ်အစား ဝတ်စုံချုပ်တဲ့ လက်ဒ်ဘာရီ ဆိုင်ကို သွားတာ တွေ့ရတယ်"

"ဟုတ်လား ဒါလည်း ဆန်းတာပဲရှင့်၊ အယင်အပတ်ကပဲ လက်ဒ်ဘာရီက ဝါရှင်တန်ကိုလာပြီး စီစဉ်သွားလို့ ကျွန်မတို့ လန်ဒန်ရောက်ချိန်မှာ

ဘီလီရဲ့ဝတ်စုံတွေအားလုံး အဆင်သင့် ပြီးနေတာ တွေ့ရတယ်။ အခု သူက ဘာကြောင့် လက်ဒ်ဘာရီ ဆိုင်ကို သွားတာလဲ မသိဘူး"

"သွားတာထက်ကို ဘာကြောင့် လူမသိအောင် တိတ်တိတ်ပုန်းသွားတာလဲဆိုတာကို စဉ်းစားစရာပဲ"

"ဟုတ်တယ်ရှင့်၊ အခုဟာက အဓိပ္ပာယ်မရှိသလိုဖြစ်နေပြီ၊ တကယ်လို့ သူဟာ သမ္မတကတော်အစစ် မဟုတ်ဘူးဆိုရင်တော့ အဓိပ္ပာယ်ရှိတယ်"

"ဘာလဲ ရှင်က လက်ဒ်ဘာရီဟာ သူရဲ့ လျှို့ဝှက် အဆက်အသွယ်တဦးလို့ ဆိုချင်တာလား"

"ဟုတ်တယ်လေ၊ ဒါမျိုးတွေက အရင်ကလည်း ဖြစ်ဖူးခဲ့တာပဲ၊ ဒါကြောင့် ကျုပ်က လက်ဒ်ဘာရီ အကြောင်း စုံစမ်းထောက်လှမ်းမယ် စိတ်ကူးတယ်"

"ဘယ်လိုလုပ်ပြီး စုံစမ်းမှာလဲ"

"သမ္မတကြီးကို အကူအညီတောင်းမှာပေါ့"

"ရှင်က သမ္မတကြီးကို ဒီအကြောင်း ပြောပြတော့မလို့လား"

"မပြောလို့ မဖြစ်တော့ဘူးလေ"

"ကျွန်မတော့ စဉ်းစားလို့ မရနိုင်အောင် ဖြစ်နေတယ်၊ သူက သမ္မတကတော်အစစ် မဟုတ်ဘူးဆိုရင် ဘာကြောင့် သူတို့ရဲ့ လျှို့ဝှက် အဆက်အသွယ်ဆီကို တိတ်တိတ်ပုန်း သွားတွေ့ရတာလဲ

"အဲဒါက တို့စုံစမ်းဖို့ အဓိက ပြဿနာပဲကွယ့်"

*

မော်စကိုမြို့တွင် သမ္မတကတော်ဘီလီသည် သူမ၏အိပ်ခန်းအတွင်း၌စကြံလျှောက်ရင်း လေးနက်စွာ စဉ်းစားနေလေသည်။ ယမန်နေ့ညက အဖြစ်အပျက်များနှင့် အထူးသဖြင့် ရာဇင်ဆိုသူ၏အကြောင်း ကို အပြန်ပြန် အလှန်လှန် စဉ်းစားနေမိလေသည်။ နောက် ဆယ့်ငါးမိနစ်ကြာလျှင် ရာဇင်သည် သူမရှိရာသို့ လာရောက် တွေ့တော့မည်ဖြစ်သည်။ ယခုလို ညဘက် ရာဇင်က မိမိအား လာတွေ့ဆုံမည်ဆိုခြင်းသည် အဓိပ္ပာယ်ရှိရမည်ဟုလည်း တွေးမိလေသည်။ စောစောပိုင်းက ဘီလီသည် ရာဇင်အား မိမိအပေါ် စေတနာဖြင့် ကူညီ စောင့်ရှောက်နေသည်ဟု ယူဆကာ ကျေးဇူးတင်နေခဲ့မိသည်။ သို့သော် ယခုတော့ ရာဇင်သည် ကေ-ဂျီ-ဘီ (ထောက်လှမ်းရေး) အရာရှိတဦး ဖြစ်ကြောင်း

သိရပြီဖြစ်ရာ ရန်သူဘက်မှ သူလျှိုအဖြစ် တမျိုး မြင်လာသည်။

စဉ်းစားကြည့်ရင်း ရာဇင်က မိမိအပေါ် ဆက်ဆံနေပုံအကြောင်းရင်းကို တွေးမိလေသည်။ ရာဇင်က မိမိအား နီးစပ်အောင် ကပ်ပေါင်းနေခြင်းမှာ သူတို့၏ သမ္မတကတော်အတု (စက္ကင်းလေဒီ) အား ကူညီရန်ပင် ဖြစ်သည်။ မိမိ၏ခင်ပွန်းသမ္မတဘရက်ဖို့ဒ်အား အပြီးသတ် လှည့်ဖျားရန်၊ ဖျက်ဆီးပစ်ရန် ဖြစ်ပေသည်။

ဤသို့ စဉ်းစားရင်း ဘီလီသည် ရာဇင်အား စက်ဆုပ်မုန်းတီးလာမိလေသည်။

မိမိအနေဖြင့် ဘာလုပ်ရမည်နည်းဟုလည်း စဉ်းစားရခက်နေမိလေသည်။

တချိန်တည်းမှာပင် ဘီလီသည် သူမ၏ခင်ပွန်း သမ္မတဘရက်ဖို့ဒ်ကိုသာ သတိရမိလေသည်။ နက်ဖြန်ညဆိုလျှင် မိမိ၏ ခင်ပွန်းသည် သမ္မတကတော်အတု ရုရှသူလျှိုမ (စက္ကင်းလေဒီ) နှင့်အတူ အိပ်တော့မည် ဖြစ်ရာ လင်မယားဘဝ အတူအိပ်ပြီးလျှင် သမ္မတဘရက်ဖို့ဒ်၏ အလေ့အကျင့်တခုမှာ စိတ်အေးလက်အေးရှိလာပြီး ဇနီးသည့်အား နိုင်ငံရေးပြဿနာများအကြောင်း ဆွေးနွေးပြောဆို တတ်ခြင်းပင် ဖြစ်သည်။ ယခု လန်ဒန်မြို့၌ ကျင်းပဆဲ ထိပ်သီးဆွေးနွေးပွဲအကြောင်းတွေကို နက်ဖြန်ည ရောက်လျှင် ဆွေးနွေးပြောဆိုကြလိမ့်မည်ဖြစ်သည်။ သမ္မတဘရက်ဖို့ဒ်၏ လျှို့ဝှက် အကြံအစည်များကို သူလျှိုမက သိသွားပါက သူတို့ ရုရှခေါင်းဆောင်များထံသို့ တဆင့် သတင်းပို့ ပေးမှာ သေချာသည်။

ထိုအခါ ရုရှတို့က ထိပ်သီးဆွေးနွေးပွဲထွင် အပေါ်စီးရပြီး သူတို့ဘက်က အလေးသာအောင် ဈေးဆစ်ပြောဆို ဆွေးနွေးနိုင်မည်ဖြစ်သည်။

တဘက်က စဉ်းစားကြည့်လိုက်ပြန်သောအခါ သမ္မတကတော်အတု ရုရှသူလျှိုမသည် ညအိပ်ရာ ဝင်သည့်အခါ ဆက်ဆံပုံ မှားယွင်းခဲ့သော် သမ္မတဘရက်ဒ်ဖို့အနေဖြင့် မိမိ၏ဇနီး (ဘီလီ) အစစ် မဟုတ်ကြောင်း ရိပ်မိသွားနိုင်ပေသည်။

ဤအချက်ကို ရုရှတို့ဘက်မှလည်း စဉ်းစားမိမည်ဖြစ်ရာ သူတို့၏ သူလျှိုမ (စက္ကင်းလေဒီ) ကို ခြေလှမ်းမမှားရအောင် အစွမ်းကုန် ကြိုးစားမည်မှာ သေချာသည်။

ရာဇင်က မိမိအား ချစ်ခင်မြတ်နိုးဟန်ဖြင့် ကြင်နာယုယစွာ ဆက်ဆံခြင်းမှာ မိမိနှင့် ခင်မင်ရင်းနှီးပြီး အတူအိပ်သည့်အဆင့်ထိ ရောက်အောင် ကြိုးစားခြင်း ဖြစ်နိုင်ပေသည်။ ဤနည်းအားဖြင့် မိမိ (ဘီလီ) အနေဖြင့် လင်မယားသဘာဝ အိပ်ရာတွင် မည်သို့ ပြုမူသည်ကို သူတို့ သိရှိနိုင်မည် ဖြစ်ပေသည်။ ယင်းသို့

သိရှိပြီးနောက် သူတို့၏ သမ္မတကတော်အတုအား မည်သို့ မည်ပုံ သမ္မတဘရက်ဖို့ဒ်နှင့် ဆက်ဆံပါဟု ညွှန်ကြားလိုက်ပါက ရုရှ သူလျှိုမသည် သမ္မတကတော်အစစ် မဟုတ်ကြောင်း သမ္မတကြီးက ရိပ်မိနိုင်မည် မဟုတ်ချေ။

ရုရှတို့၏အကြံက ဤသို့ဖြစ်ပါမူ မိမိအနေဖြင့် ရာဇင်အား မည်သို့ဆက်ဆံရပါမည်နည်း။ ရုရှတို့၏ အကြံအစည် ပျက်ပြားသွားအောင် မိမိက ပြုလုပ်နိုင်ရန် နည်းလမ်းတခုသာ ရှိပေသည်။ ယင်းကား မိမိက ရာဇင်အား မချစ်သော်လည်း အောင့်ကာနမ်းဆိုသလို ချစ်ဟန်ဆောင်ပြီး အတူ အိပ်လိုက်ရန်ပင် ဖြစ်သည်။ ထိုအခါ ရာဇင်သည် မိမိ၏အိပ်ရာထဲမှ အပြုအမူကို လေ့လာမှတ်သားပြီး သူတို့၏ သူလျှိုမ(စက္ကင်းလေဒီ) ထံသို့ တဆင့် သတင်းပေးပို့လိုက်မည်။ သူလျှိုမကလည်း ရာဇင်တို့ ညွှန်ကြားသည့်အတိုင်း အိပ်ခန်းထဲ ဆက်ဆံပြုမူမည်ဖြစ်ရာ သမ္မတ ဘရက်ဖို့ဒ်က သူ၏ဇနီးအစစ် ဟုတ်ပါလေစဟု သံသယ ဖြစ်ရာမှ ရုရှတို့ အလိမ်ပေါ်သွားနိုင်ပေသည်။

ဤသို့လျှင် မိမိ၏ ခန္ဓာကိုယ်ကို ရန်သူဘက်သားတဦးအား အပ်နှင်း အနစ်နာခံလိုက်ပါက ရန်သူ၏ လျှို့ဝှက်အကြံအစည်ကို သွယ်ဝိုက်သောနည်းဖြင့် ဖော်ထုတ်နိုင်မည် ဖြစ်ပေသည်။ သို့ရာတွင် ဘီလီသည် စဉ်းစားရင် ချီတုံချတုံ ဖြစ်နေမိပြန်သည်။ သူမသည် မိမိခင်ပွန်းသမ္မတကြီးက လွဲ၍ မည်သည့်တစိမ်းယောကျ်ားနှင့်မှ မဆက်ဆံခဲ့ဖူးရာ ယခု ရုရှ (ကေ-ဂျီ-ဘီ) သူလျှိုတဦးနှင့် အတူအိပ်ရမည်ကို စိတ်ထဲမှ ဝန်လေးနေမိလေသည်။

ဆယ်မိနစ်ခန့် စဉ်းစားနေပြီးနောက် ဘီလီသည် သက်ပြင်းတချက် ချကာ စိတ်ပိုင်းဖြတ်လိုက်လေ သည်။ သူမသည် ရေမိုးချိုး၍ ကိုယ်လက်သန့်စင်ပြီးနောက် အလွန်လှပပြီး ပါးလှပ်သော ညဝတ်အင်္ကျီ တထည်ကို ဝတ်လိုက်သည်။ တကိုယ်လုံး မွှေးကြိုင်နေသော်လည်း ထပ်ပြီးမွှေးအောင် ရေမွှေး ဆွတ်လိုက်သည်။

သူ့ကိုယ်သူ ရဲဆေးတင်သည့်အနေဖြင့် ဘရမ်ဒီ အရက်တခွက်ကိုလည်း သောက်ထားလိုက်သည်။ မကြာမီ ရာဇင်ရောက်လာသောအခါ ဘီလီသည် ပြုံးရွှင်စွာဖြင့် ဆီးကြို နှုတ်ဆက်လိုက်သည်။

"ရှင်ရောက်လာတာနဲ့ အတော်ပဲ၊ ကျွန်မက ပျင်းလို့ ရှင့်ကို မျှော်နေတာလေ"

ပြောရင်းနှင့် သူမသည် ရာဇင်အား သူမနှင့် နီးကပ်စွာ ထိုင်ခိုင်းလိုက်သည်။

"ကျွန်တော်ကလည်း ဘီလီနဲ့အတူနေရရင် အလွန်စိတ်ပျော်ရွှင် ကျေနပ်မိနေတာပါပဲ"

ရာဇင်က ပြောရင်း သူ၏ ကုတ်အင်္ကျီကို ချွတ်လိုက်ပြီးနောက် လက်တဘက်ဖြင့် ဘီလီ၏ ပခုံးကို လှမ်းဖက်လိုက်သည်။

"တကယ်ပြောတာပါ ဘီလီရယ်၊ ကျွန်တော်ဟာ ခင်ဗျားကို လှိုက်လှိုက်လှဲလှဲ ချစ်နေမိတာ အမှန်ပါပဲ"

"ကျွန်မကလည်း ပြန်စဉ်းစားကြည့်မိပါတယ်။ မနေ့တုန်းကတော့ ကျွန်မ စိတ်လှုပ်ရှားလွန်းလို့ပါ။ တကယ်တော့ ကျွန်မကလည်း ရှင့်ကို ချစ်ပါတယ်"

ဘီလီက ပြောရင်း တကယ် ချစ်မြတ်နိုးဟန်ဆောင်ကာ အဓိပ္ပာယ်ပါပါ ပြုံး၍ ကြည့်လိုက်သည်။

ရာဇင်ကလည်း ချက်ချင်း အဓိပ္ပာယ်ကို ရိပ်မိကာ ဝမ်းမြောက်ဝမ်းသာ ဖြစ်သွားဟန်ဖြင့် ဘီလီအား ပွေ့ဖက်နမ်းရှုပ်ရင်း အိပ်ရာပေါ်သို့ ခေါ်သွားလေတော့သည်။

ဘီလီသည် ရန်သူ၏အကြံအစည်ကို ပျက်ပြားစေရန် ရည်ရွယ်ချက်ကိုသာ စဉ်းစားကာ စိတ်မပါသော် လည်း ရာဇင်နှင့် အားရပါးရ ချစ်တင်း နှီးနှောချင်သည့် အမူအရာမျိုး လုပ်ပြလိုက်လေသည်။

ထို့နောက် သူမသည် မိမိပင်ကို သဘာဝအလျှောက် ပြုမူဆက်ဆံသည့်ပုံများဖြင့် ရာဇင်အား ပြန်၍ ပွေ့ဖက်နမ်းရှုပ်ပြီးနောက် နှစ်ယောက်သား အတူအိပ်လိုက်လေသည်။

သို့သော် သူမသည် တခုတော့ သတိထားလေသည်။ အကယ်၍ ရာဇင်က မိမိအပြုအမူကို လေ့လာ မှတ်သားပြီး သူတို့ ရှုရှသူလျှိုထံ သတင်းပေးပါက အားလုံး လွဲမှားနေအောင် ဘီလီသည် အိပ်ရာထဲ၌ ခင်ပွန်းသည် သမ္မတ ဘရက်ဖို့ဒ်နှင့် ဆက်ဆံပုံမျိုးနှင့် လုံးဝမတူစေဘဲ တမျိုးတဖုံ ပြောင်းလဲ၍ ဆက်ဆံပြုမူလေသည်။

ထို့နောက် ဘီလီသည် ပင်ပန်းနွမ်းနယ်ချင်ဟန်ဆောင်ပြီး မျက်စိမှိတ်ကာ အိပ်နေလိုက်သည်။

ရာဇင်လည်း ကြာကြာမနေဘဲ အခန်းထဲမှ ပြန်ထွက်သွားလေသည်။

အခန်းတံခါး ပိတ်သွားတော့မှ ဘီလီသည် အိပ်ရာမှထ၍ ရေချိုးခန်းထဲသို့ဝင်ကာ တကိုယ်လုံး သန့်ရှင်းအောင် အားရပါးရ ရေချိုးပစ်လိုက်လေသည်။

သူမအနေဖြင့် ကြံကြီးစည်ရာ အပြုအမူတခုကို ပြုလုပ်လိုက်ရသော်လည်း ရန်သူ (ကေ-ဂျီ-ဘီ) အဖွဲ့အား လှည့်စား၍ အနိုင်ယူလိုက်ခြင်း ဖြစ်သည်။ သူသည်

သူ့ကိုယ်သူ ပြန်၍ နှစ်သိမ့်လိုက်ပြီး အားပေးမိလေသည်။

*

ရာဇင်သည် သူ၏ရုံးခန်းထဲတွင် တယောက်တည်း ထိုင်၍ မှတ်စုစာအုပ်တွင် စာများ ရေးနေလေ သည်။ သူ လေ့လာသိရှိခဲ့ရသော သမ္မတကတော် ဘီလီ၏ အပြုအမူများအကြောင်း အသေးစိတ် မှတ်တမ်းတင် ရေးမှတ်နေခြင်းဖြစ်သည်။

သို့ရာတွင် သူ၏စိတ်ထဲမှ ဘီလီနှင့် အတူအိပ်ရပုံကိုသာ စွဲလမ်းနေမိလေသည်။ ဘီလီသည် အလွန်တပ်မက် နှစ်သက်ဖွယ်ကောင်းသော မိန်းမတယောက်ပါတကားဟုလည်း သုံးသပ်မိလေ သည်။

တဖန် သူ၏ ချစ်သူ ဗီရာအကြောင်းကို စဉ်းစားမိပြန်လေသည်။

ယခု မိမိ၏မှတ်စုများကို ညွှန်ကြားချက်အဖြစ် ရေးပြီး ဗီရာထံသို့ ပေးလိုက်လျှင် သူမသည် အမေရိကန်သမ္မတအနေဖြင့် သူ၏ဇနီးအစစ် မဟုတ်ကြောင်း လုံးဝမရိပ်မိအောင် ပြုမူဆက်ဆံ နိုင်မည် ဖြစ်ပေသည်။ ထိုကိစ္စများ ပြီးစီးသွားလျှင်ကား လူချင်းပြန်လဲ၍ ဗီရာက မိမိတို့ထံ ပြန်ရောက်လာမည်ဖြစ်သည်။

တချိန်တည်းမှာပင် မိမိ၏ချစ်သူ ဗီရာက အမေရိကန်သမ္မတနှင့် အတူတွဲပြီး အိပ်၍ ချစ်တင်း နှီးနှောတော့မည်ဟု တွေးမိကာ ရာဇင်သည် စိတ်ထဲမှ မနာလိုဝန်တို ဖြစ်မိလေသည်။

သို့သော် မိမိ၏ တာဝန်ဝတ္တရားအရ မည်သို့မျှ မတတ်နိုင်။ လုပ်စရာ ရှိသမျှကိုတော့ လုပ်ရပေမည်။ အရေးကြီးသည်ကား လန်ဒန်မြို့ ထိပ်သီးဆွေးနွေးပွဲ၌ မိမိတို့ ရုရှဘက်မှ အနိုင်ရရန်သာ ဖြစ်သည် မဟုတ်ပါလော။

ရာဇင်သည် မှတ်စုစာအုပ်တွင် ရေးမှတ်ပြီးနောက် အသေးစိတ် အချက်အလက်များကို ပြန်ကြည့်ရင်း ဘဝင်မကျသလို ဖြစ်မိပြန်သည်။

သမ္မတကတော်ဘီလီ၏ အိပ်ခန်းထဲ၌ အပြုအမူများသည် သူ ကြိုတင် လေ့လာသိရှိထားသော သမ္မတကတော်ဘီလီ၏ ပင်ကိုစရိုက်နှင့် ကွာခြားနေသည်။ ဆန့်ကျင်ဘက်သဖွယ် ဖြစ်နေလေသည်။

ဘီလီက မိမိအား ဆက်ဆံပြုမူခဲ့ပုံမှာ သူမ၏ ပုံမှန်အပြုအမူများမှ ဟုတ်ပါ၏လော။ မိမိတို့လူ (စက္ကင်းလေဒီ) ထံသို့ လွဲမှားသော ညွှန်ကြားချက်တွေ ရောက်သွားစေရန် တမင်သက်သက် လုပ်ကြံ အကွက်ဆင်သလို ပြုမူခဲ့ခြင်းဖြစ်လေသလော။

ဤသို့ စဉ်းစားမိသဖြင့် ရာဇင်သည် ဗီရာအတွက် ညွှန်ကြားချက်များကို အထူးသတိထား၍ ဆက်ရေးလေသည်။

*

# အခန်း (၉)

လန်ဒန်မြို့တွင် သတင်းစာဆရာ ပါကာသည် သမ္မတ၏ အတွင်းရေးမှူး မစ္စမာတင်မှ တဆင့် သမ္မတ ဘရက်ဖို့ဒ်နှင့် ခေတ္တ တွေ့ဆုံခွင့် တောင်းရာ ဆယ်မိနစ်ခန့် တွေ့ဆုံခွင့်ရလေသည်။

နှစ်ယောက်ချင်း တွေ့ဆုံသောအခါ ပါကာသည် မည်သို့ စကားစ၍ ပြောရမှန်းမသိ ဖြစ်နေလေသည်။

"သမ္မတကြီး ခင်ဗျား၊ ကိစ္စကတော့ အလွန်အရေးကြီးပါတယ်၊ ဘယ်လို စပြောရမှန်းတောင် မသိပါဘူး"

"လိုရင်းကိုသာ တိုက်ရိုက်ပြောစမ်းပါ၊ ကျုပ်မှာ အလွန်အလုပ်များနေတယ်"

သမ္မတက စိတ်မရှည်ဟန်နှင့် ပြောသဖြင့် ပါကာလည်း ဘာပဲဖြစ်ဖြစ် ဖွင့်ပြောရန် ဆုံးဖြတ်လိုက် သည်။

"ကိစ္စကတော့ သမ္မတကတော်နဲ့ ပတ်သက်နေပါတယ်၊ ကျွန်တော်က သမ္မတကြီးကို မေးခွန်းတခု မေးပါရစေ။ သမ္မတကတော်ဘီလီဟာ မော်စကိုမြို့က ပြန်လာပြီးတဲ့နောက်ပိုင်းမှာ ခြားနားချက် ထူးခြားချက်များကို သတိပြုမိပါသလား"

"ဘာခြားနားချက်လဲ၊ ခင်ဗျားပြောတာ ကျုပ် နားမလည်ပါလား"

ဤတွင် ပါကာလည်း မတတ်သာဘဲ သူ၏ထင်မြင်ချက်ကို ထုတ်ဖော်ပြောပြ လိုက်ရတော့သည်။

"ကျွန်တော် ဆိုလိုတာက သမ္မတကတော်ဘီလီဟာ မော်စကိုမြို့က ပြန်လာပြီးတဲ့နောက်ပိုင်း တမျိုးပြောင်းလဲလာတာကို ကျွန်တော် သတိပြုမိပါတယ်။ တခြားလူတယောက်လို ဖြစ်လာပါတယ်။ ဥပမာ မော်စကိုမြို့ကို သုံးရက်ကြာ သွားခဲ့တဲ့ ဘီလီဟာ ပြန်လာတဲ့အခါကျတော့ တခြား အမျိုးသမီးတဦး ဖြစ်လာတယ်လို့ ထင်ရပါတယ်"

"ခင်ဗျား ဘာကိုဆိုလိုတာလဲ ရှင်းရှင်းပြောစမ်းပါ။ ကျုပ်မိန်းမ ဘီလီက အခု ဘာများ ခြားနားနေ လို့လဲ၊ ကျုပ်တော့ ဘာမှ မမြင်မိဘူး"

"သမ္မတကြီးခင်ဗျား၊ ကျွန်တော်ပြောတာကို သည်းခံပြီး နားထောင်စေချင်ပါတယ်"

ဤသို့အစချီကာ ပါကာသည် သူ၏ဒိုင်ယာရီစာအုပ်တွင် ရေးမှတ်ကာထားခဲ့သော သမ္မတကတော်၏ ထူးဆန်းစွာ ပြောင်းလဲချက်များအကြောင်းကို (သူငယ်စဉ်က စမွေးခဲ့သော ခွေးက လက်မခံဘဲ ရန်သူလို ပြုမူခဲ့ပုံပါမကျန်) ပြောပြလိုက်လေသည်။

သို့သော် သမ္မတဘရက်ဖို့ဒ်က လက်မခံဘဲ စိတ်တိုလာသည်။ ပါကာ၏စကားမဆုံးမီ ကြားဖြတ်လျက်

"ဒီမယ် ပါကာ ခင်ဗျားဟာ ဘာမဟုတ်တဲ့ အသေးအဖွဲ့ကိစ္စတွေကို အကြီးအကျယ် ပြဿနာ လုပ်ချင်တာကိုး၊ ဘီလီဟာ လူသားတယောက်အနေနဲ့ လူသားတယောက်ကို မေ့ချင်မေ့နေမယ်၊ သူ့အချစ်ခွေးက လက်မခံတာတော့ ခွေးက ကြီးလာပြီး မျက်စိမှုန်လို့ မမှတ်မိတာလဲ ဖြစ်နိုင်တယ်"

ဟု ပြန်ပြောလေသည်။

"သမ္မတကြီးခင်ဗျား၊ မော်စကိုမြို့က အမေရိကန်သံအမတ်ကြီး ယန်ဒါလ်က တယ်လီဖုန်း လှမ်းဆက်ပါတယ်၊ အဲဒီအချိန်က သမ္မတကြီး မရှိတာနဲ့ နိုရာက နားထောင်လိုက်ပါတယ်။ သံအမတ်ကြီးက သူ့ဆီကို အမေရိကန်တိုးရစ်ခရီးသည် အမျိုးသမီးတဦးလာပြီး ကရင်မလင် နန်းတော်မှာ အမျိုးသမီးတယောက် တွေ့ခဲ့တယ်လို့ ပြောပါတယ်။ အဲဒီ အမျိုးသမီးဟာ သူက အမေရိကန်သမ္မတကတော် ဘီလီဖြစ်ကြောင်း၊ သူ့ကို ရုရှထောက်လှမ်းရေးက ဖမ်းထားပြီး သူ့နေရာမှာ တခြားမိန်းမတယောက်ကို လူစားလဲထားကြောင်း ပြောတယ်လို့ ဆိုပါတယ်"

"သံအမတ်ကြီး ယန်ဒါလ်က အဲဒါကို လေးလေးနက်နက် ကိစ္စလို့ သဘောထားသတဲ့လား"

"မထားဘူးခင်ဗျ၊ သူက ဒါဟာ မဖြစ်နိုင်တာပဲဆိုပြီး ရယ်စရာလို လုပ်ပြောပါတယ်"

"အေး ကျုပ်လည်းပဲ ဒီလို ယူဆတယ် မဖြစ်နိုင်ဘူး"

"နောက်တခု ရှိပါသေးတယ်၊ မနေ့က သမ္မတကတော် ဘီလီဟာ ဟိုတယ်က ဘယ်မှမထွက်ပါဘူးလို့ သမ္မတကြီးကို ပြောခဲ့တယ် မဟုတ်လား။ တကယ်တော့ သူဟာ မနေ့ မွန်းလွဲပိုင်းတုန်းက ဝတ်စုံချုပ်တဲ့ လက်ဒ်ဘာရီဆိုင်ကို သွားခဲ့ပါသေးတယ်။ သူဟာ သမ္မတကြီးကို လိမ်ပြောတာပါ"

"အဲဒါ ဘာဖြစ်သလဲ၊ အဝတ်အစားချုပ်တဲ့ဆိုင်ကိုသွားတာ ကျုပ်က ပြောဖို့မလိုပါဘူး"

"သမ္မတကြီးခင်ဗျား လက်ဒ်ဘာရီဟာ ရုရှသူလျှိုတဦး ဖြစ်တယ်လို့ ထင်ပါတယ်။ လက်ရှိ သမ္မတကတော်ဟာ ဆိုဗီယက်သူလျှိုတွေနဲ့ အဆက်အသွယ်ရှိတယ်လို့လဲ ထင်ပါတယ်"

ဤသို့ပါကာ တင်ပြသော်လည်း သမ္မတဘရက်ဖို့ဒ်သည် လုံး၀ လက်မခံချေ။

"အဓိပ္ပာယ်မရှိတာတွေ မပြောစမ်းပါနဲ့ဗျာ၊ အချိန်ကုန်တယ်၊ ကျုပ်မိန်းမ ဘီလီကို ကျုပ်သိတယ်၊ ကျုပ်က သူနဲ့ အတူစား အတူသွား၊ အတူ အိပ်နေတာ ဘာမှ ကွာခြားချက်မရှိဘူး ရှင်းရဲ့လား၊ ခင်ဗျားကိုသာ တခု သတိပေးချင်တယ်။ ဒီလိုစကားမျိုးကို နောက်ထပ် ဘယ်သူ့ကိုမှ မပြောပါနဲ့၊ ဒီအကြောင်းကို ကျုပ်က ဘီလီကို ပြောပြလိုက်ရင် သူက ချက်ချင်း ခင်ဗျားကို အလုပ်ထုတ်ပစ် လိုက်မှာ သေချာတယ်၊ ဒါပေမဲ့ ကျုပ် မပြောပါဘူး၊ ခင်ဗျားသာ ဆင်ခြင်ပြီးနေပါ၊ ကဲ ဒါပဲ မဟုတ်လား"

သမ္မတက စကားကိုဖြတ်လိုက်ရာ ပါကာသည် သူ့အကြောင်းကို ဇနီးဖြစ်သူအား မပြောပြဟု ဆိုခြင်းကိုပင် ကျေးဇူးတင်မိလေသည်။

*

ဗီရာသည် ညနေစောင်းလာလေ ပို၍ စိုးရိမ်ပူပန်မိလေ ဖြစ်နေမိသည်။ ယခုအချိန်ထိ မော်စကိုမှ မည်သည့် အဆက်အသွယ်မှ ရောက်မလာ၍ စိုးရိမ်မိခြင်း ဖြစ်လေသည်။ ယခုည သူမသည် အမေရိကန်သမ္မတ ဘရက်ဖို့ဒ်နှင့်အတူ အိပ်ရမည်မှာ သေချာနေပြီဖြစ်ရာ မည်သို့ပြုမူရမည်ကို ဗီရာက မသိသဖြင့် အထူးစိုးရိမ်ပူပန်နေခြင်း ဖြစ်လေသည်။

ကျန်းမာရေး အခြေအနေကိုပြပြီး လောလောဆယ် လင်မယား အတူမအိပ်ချင်သေးပါဟု ပြောရန် ကလည်း သမ္မတ ဘရက်ဖို့ဒ်အနေဖြင့် လက်ခံမည်မဟုတ်ချေ။ ချက်ချင်း ဆရာ၀န်ခေါ်ပြီး စစ်ဆေးခြင်း ပြုပါက ပို၍ ရှုပ်ထွေးသွားမည် ဖြစ်သည်။

ဗီရာသည် အလွန်စိတ်အားလျှော့နေသောအချိန်တွင် ရုတ်တရက် တယ်လီဖုန်းလာသဖြင့် ကောက်ကိုင် နားထောင်လိုက်ရာ တဘက်မှ ဘယ်သူမှာ သမ္မတကြီး၏ သံတမန်ရေးရာဌာနမှ ဝီလီဆိုသူဖြစ်လေသည်။ (ဝီလီသည် ရုရှထောက်လှမ်းရေး ကေ-ဂျီ-ဘီ သူလျှိုတဦးဖြစ်ကြောင်း ဗီရာက သိထားပြီး ဖြစ်သည်။)

လျှို့ဝှက်စကား ဒစ္စနေလင်းကို ပြောပြီး သူသည် သမ္မတကတော်နှင့် ခေတ္တလာတွေ့စရာရှိပါသည်ဟု ပြောလေရာ ဗီရာလည် အားတက်သွားမိလေသည်။

ဝီလီသည် သမ္မတ၏ ရုံးအဖွဲ့မှ အရာရှိတဦးဖြစ်၍ ဗီရာ၏ အခန်းသို့ လာတွေ့ရာတွင် အပြင်ဘက်၌ စောင့်နေသူ လုံခြုံရေးအစောင့်များကလည်း တားဆီးပိတ်ပင်ခြင်း မပြုကြချေ။

ဝီလီသည် ရောက်လာလာချင်း သူ၏ ဘောင်းဘီအိတ်ထဲမှ စာရွက်တရွက်ကို ထုတ်ယူ၍ ဗီရာအား လှမ်းပေးလိုက်လေသည်။

"ဒါမျိုးကို စာနဲ့ ရေးတာဟာ အလွန်အန္တရာယ်များလှတယ်။ ဒါပေမဲ့ ပါးစပ်နဲ့ ပြောဖို့ကလည်း အသေးစိတ် အချက်အလက်တွေက များလွန်းနေတယ်။ ဘာပဲဖြစ်ဖြစ် ခင်ဗျား ဖတ်ကြည့်ပြီးရင် စာရွက်ကို ဖျောက်ဖျက်ပစ်လိုက်ပါ"

ဤသို့ပြောပြီးနောက် ဝီလီသည် လျင်မြန်စွာ ပြန်ထွက်သွားလေသည်။

ဗီရာသည် ရေချိုးခန်းသို့ ပြေးဝင်၍ သေချာစွာ ပိတ်ပြီးမှ ဝီလီ ပေးသွားသော စာရွက်ကို ဖြန့်ကာ ဖတ်လိုက်လေသည်။ စာရွက်တွင်ပါသော အချက်များကို သေချာစွာ မှတ်မိစေရန် နှစ်ခေါက် ပြန်ဖတ်ပြီး တတိယအကြိမ် ဖတ်မည်အပြုတွင် အပြင်ဘက်မှ သမ္မတဘရက်ဖို့ဒ်၏ အသံကို ကြားရလေသည်။

"ဟဲလို ဒါလင်၊ အဆင်သင့်ဖြစ်ပြီလား"

"ဟုတ်ကဲ့၊ ခဏလေးနော်၊ ကျွန်မ ပြီးလုပါပြီ"

ဤသို့ ပြန်အော်ပြောလိုက်ပြီး ဗီရာသည် စာရွက်ကို ဆုတ်ဖြဲလျက် အိမ်သာကြွေအိုးထဲသို့ ပစ်ချကာ ရေဆွဲချလိုက်လေသည်။

မကြာမီ သူမသည် လှပစွာ ဝတ်စားဆင်ယင်ပြီး သမ္မတဘရက်ဖို့ဒ်နှင့်အတူ ညစာစားရန် လိုက်သွားလေသည်။

ညစာ စားနေချိန်တွင် ဗီရာသည် လုံးဝ စိတ်ခေတ်မကျတော့ဘဲ အထူး ရွှင်လန်းနေလေသည်။ သူမသည် ကေ-ဂျီ-ဘီ အဖွဲ့မှ ပေးပို့လိုက်သော ညွှန်ကြားချက်များ ဖတ်၍ မည်သို့ ပြုမူရမည်ကို သိရှိနေပြီး ဖြစ်သောကြောင့် စိတ်ရွှင်လန်းနေခြင်း ဖြစ်လေသည်။

သမ္မတဘရက်ဖို့ဒ်သည် ဗီရာ ရွှင်လန်းနေပုံကိုကြည့်ပြီး သဘောကျကာ ညစာစားချိန်တွင် တပြုံးပြုံး ဖြစ်နေသည်။ ထိုအချက်ကို ဗီရာက သတိပြုမိလေသည်။

ညစာစားပွဲပြီး၍ ဟိုတယ်သို့ ပြန်လာကြသောအခါ စစ်ဦးစီးချုပ် ရေတပ်ဗိုလ်ချုပ်ကြီး ရစ်ဒလီ ဆိုသူက စောင့်နေသည်ကို တွေ့ရသည်။ စစ်ဦးစီးချုပ်သည် သမ္မတဘရက်ဖို့ဒ်နားသို့ ကပ်၍ တစုံတခု တီးတိုး ပြောလိုက်ရာ

သမ္မတသည် ခေါင်းညိတ်ပြီးနောက် ဗီရာ၏ အနီးကပ်လာလေသည်။

"အရေးပေါ် ကိစ္စတခု ဖြစ်လာလို့ ခဏလိုက်သွားရဦးမယ် မကြာပါဘူး၊ နာရီဝက်လောက်နေရင် ပြန်လာခဲ့မယ်၊ မအိပ်ဘဲ စောင့်နေနော်"

သမ္မတ ဘရက်ဖို့ဒ်က အဓိပ္ပာယ်ပါပါ ပြုံး၍ ခပ်တိုးတိုးပြောရာ ဗီရာကလည်း

"စိတ်ချပါ ဒါလင်ရယ်၊ ကျွန်မက မအိပ်ဘဲ စောင့်နေပါ့မယ်"

ဟု ပြုံး၍ ပြန်ပြောလိုက်လေသည်။

သမ္မတဘရက်ဖို့ဒ်သည် ရေတပ်ဗိုလ်ချုပ်ကြီးနှင့်အတူ လိုက်သွားသောအခါ ဗီရာသည် အိပ်ခန်းတွင်းသို့ ဝင်၍ အဝတ်အစားလဲကာ ညအိပ်ရန်အတွက် ပြင်ဆင်နေလေသည်။

ပိုးသားစစ်စစ် ညအိပ်အင်္ကျီတထည်ကို ဝတ်ပြီး သမ္မတကတော် ဘီလီသုံးနေကျ ရေမွှေးကိုယူ၍ တကိုယ်လုံး မွှေးကြိုင်နေအောင် ရေမွှေးများ ဆွတ်ဖျန်းလိုက်လေသည်။

သမ္မတဘရက်ဖို့ဒ်က နာရီဝက်အတွင်း ပြန်လာခဲ့ပါမည်ဟု ပြောသွားသော်လည်း နာရီဝက်ကျော်၍ မိနစ်ငါးဆယ် ရှိသွားသည့်တိုင်အောင် ပြန်ရောက်လာခြင်း မရှိသေးချေ။

ဗီရာသည် ပျင်းပျင်းရှိသည်နှင့် စာအုပ်တအုပ်ကို ယူ၍ ဖတ်နေလိုက်သည်။ သို့သော် စာအုပ်ထဲတွင် စိတ်မဝင်စားသဖြင့် စာအုပ်ကို ပြန်ချ၍ ထားလိုက်ပြီး အိပ်ရာပေါ် လှဲနေရင်း စဉ်းစားနေမိသည်။

မိမိအား ပေးပို့လိုက်သော ညွှန်ကြားချက်များက အသေးစိတ် ပြည့်စုံလွန်းလှသည်။ သမ္မတကတော် အစစ် ဘီလီက သူ့ယောကျ်ားနှင့်အတူ အိပ်သည့်အခါ မည်သို့ ပြုမူတတ်လေ့ရှိသည်ကို များစွာပင် တိကျအောင် ဖော်ပြထားသည်။ ဤညွှန်ကြားချက်ကို ရေးသူ ရာဇင်က မည်သည့်နည်းနှင့် အသေးစိတ် အချက်အလက်များကို သိနိုင်လေသနည်း။

တခုတည်းသော အဖြေက ရာဇင်ကိုယ်တိုင် သမ္မတကတော် အစစ် ဘီလီအား သွေးဆောင် ဖြားယောင်း၍ အတူအိပ်လိုက်၍သာ ယခုကဲ့သို့ အတွင်းရေး အပြုအမူတွေကို သိခြင်း ဖြစ်နိုင်ပေသည်။

ဤတွင် ဗီရာသည် မိမိ၏ချစ်သူရာဇင်က အမေရိကန်သမ္မတကတော် ဘီလီနှင့် လက်တွေ့ ချစ်တင်းနှီးနှောလိုက်လေပြီတကားဟု တွေးမိလေသည်။

သို့ဖြစ်လင့်ကစား ဗီရာသည် စိတ်ထဲမှ မနာလို ဝန်တို မဖြစ်မိချေ။ မိမိတို့အနေဖြင့် တိုင်းပြည်အတွက် တာဝန်ဝတ္တရား ထမ်းဆောင် နေခြင်းသာ ဖြစ်ကြောင်းဟု သဘောထားမိလေသည်။

အရေးကြီးသည်ကား ယခု သမ္မတဘာရက်ဖို့ဒ်နှင့် အတူအိပ်ပြီးပါက သူတို့ အမေရိကန်ဘက်မှ ထိပ်သီး ဆွေးနွေးပွဲတွင် ဆွေးနွေး ပြောဆိုသည့် လျှို့ဝှက်ချက်များကို သိရှိရန်ပင် ဖြစ်သည်။ သမ္မတကြီးနှင့် အတူအိပ်ရင်း ချော့မော့ မြူဆွယ်ကာ လျှို့ဝှက်ချက်များ မေးမြန်းပြီး ရုရှဝန်ကြီးချုပ်ထံသို့ ချက်ချင်း သတင်းပေးပို့လိုက်ရမည် ဖြစ်ပေသည်။

နောက်နှစ်ရက်အတွင်း သူမ၏ တာဝန်များ ပြီးဆုံးသွားမည်ဖြစ်ပြီး ဗီရာသည် မော်စကိုမြို့သို့ ပြန်ရမည်။ သမ္မတကတော်ဘီလီကလည်း လန်ဒန်မြို့သို့ ပြန်ရောက်ပြီး လူချင်းလဲလိုက်ကြရန် ဖြစ်သည်။

မိမိအဖို့မှာကား မော်စကိုမြို့သို့ ပြန်ရောက်လျှင် တကယ့် အာဇာနည် အမျိုးသမီးတဦးအဖြစ် ဂုဏ်သတင်းကြီးကာ နာမည်ကောင်း ရမည်မှာ သေချာသည်။

ဗီရာသည် နာရီကို ကြည့်လိုက်ရာ အချိန်မှာ တစ်နာရီကျော်သွားပြီ ဖြစ်ကြောင်း တွေ့ရသည်။ သို့သော် သမ္မတဘာရက်ဖို့ဒ်က ပြန်ရောက်မလာသေးချေ။

သူမအနေဖြင့် မအိပ်ဘဲ စိတ်ရှည်ရှည်ဖြင့် စောင့်နေရန် အရေးကြီးပါသည်။

နောက် ဆယ့်ငါးမိနစ်ခန့်ကြာသောအခါ သမ္မတဘာရက်ဖို့ဒ်သည် အိပ်ခန်းတွင်းသို့ ဝင်ရောက်လာလေ တော့သည်။

"ဆောရီး ဒါလင်ရယ် နည်းနည်း နောက်ကျသွားတယ်ကွယ်"

ပြောပြောဆိုဆိုပင် သမ္မတဘာရက်ဖို့ဒ်သည် အဝတ်အစားများကို လျင်မြန်စွာ ချွတ်ပြီး အိပ်ရာပေါ်သို့ တက်လိုက်လေသသည်။ ထို့နောက် ဗီရာ ကိုယ်ပေါ်သို့ လွှမ်းခြုံထားသော စောင်ကို ဖယ်ပစ်လိုက်ပြီး ညဝတ် အင်္ကျီကိုပါ ဆွဲချွတ်ပစ်လိုက်သည်။

"ဒါလင် သိပ်ပင်ပန်းသလားဟင်"

ဗီရာက မေးလိုက်ရာ သမ္မတ ဘာရက်ဖို့ဒ်က

"ဒါလောက်ကြီး မပင်ပန်းလှပါဘူးကွာ၊ ဟဲ ဟဲ" ဟု ပြောရင်း ဗီရာ၏ကိုယ်လေးကို ပွေ့ဖက် နမ်းရှုပ်လိုက်လေသည်။

ထို့နောက် ဗီရာသည် စိတ်ထဲ မပါသော်လည်း မိမိတို့ ရုရှနိုင်ငံအတွက် အရေးကြီးသော တာဝန်တခုကို ထမ်းဆောင်နေရပါတကားဟု နှလုံးသွင်းကာ အမေရိကန်သမ္မတ ဘရက်ဖို့ဒ်နှင့်အတူ အိပ်လိုက်ရလေတော့သည်။

သူမသည် ကေ-ဂျီ-ဘီ ထောက်လှမ်းရေးက ပေးပို့လိုက်သော ညွှန်ကြားချက်အတိုင်း အထူး သတိထား၍ ပြုမူဆက်ဆံလေရာ သမ္မတဘရက်ဖို့ဒ်သည် ဗီရာနှင့် လင်မယားအဖြစ် အတူ အိပ်လိုက်သည့်တိုင်အောင် မိမိ၏ ဇနီး ဘီလီအစစ်မဟုတ်ကြောင်းကို လုံးဝ ရိပ်မိခြင်း မရှိချေ။

နောက်မိနစ်အနည်းငယ်ကြာ၍ နှစ်ယောက်သား အပန်းဖြေနေကြသောအခါ ဗီရာသည် သမ္မတ ဘရက်ဖို့ဒ်အား အမှတ်မဲ့ အကဲခတ်ကြည့်ရာ စိတ်အေးလက်အေး သဘောကျဟန် ဖြစ်နေသည်ကို သတိပြုမိလေသည်။

ဤတွင် သူမသည် နိုင်ငံရေးအကြောင်း စကားစကာ ထိပ်သီးဆွေးနွေးပွဲအကြောင်းကို မသိမသာ တီးခေါက် မေးကြည့်လေသည်။

"ကျွန်မတို့ဘက်က ဆွေးနွေးပွဲမှာ နိုင်မယ်လို့ ထင်ရတယ် မဟုတ်လား"

"ဒါတော့ ရမှာသေချာပါတယ်၊ တို့မှာ ရုရှတွေ မသိတဲ့ နိုင်ပေါက်တခု ရှိနေတယ်"

"ဟင် ဟုတ်လား၊ ပြောစမ်းပါဦး

"ဘိုအင်ဒီနိုင်ငံမှာ ရုရှတွေက ကွန်မြူနစ် သူပုန်ခေါင်းဆောင်တဦး ဖြစ်သူ နဝါပါဆိုတဲ့လူကို ထောက်ခံ အားပေးနေတယ်၊ တို့အမေရိကန်ဘက်က လက်ရှိသမ္မတ ကီဘန်ဂူကို ထောက်ခံထား တယ်။ ကွန်မြူနစ်တွေက ရုရှအကူအညီနဲ့ ကီဘန်ဂူကို ဖြုတ်ချပြီး အစိုးရအာဏာ သိမ်းယူဖို့ရှိတယ်။ ဒါပေမဲ့ တို့က လက်ရှိသမ္မတကို ဘယ်လောက်ထိအောင် ကူညီ အားပေးနေတယ်ဆိုတာ ရုရှတွေက မသိဘူး။ တကယ်လို့ အစိုးရတပ်တွေကို တို့က လက်နက် အပြည့်အဝ ပေးထားတယ်ဆိုရင် ကွန်မြူနစ် သူပုန်တပ်တွေကို အပြုတ်နှိမ်နင်းလိမ့်မယ်။ ဒီလိုသာ ကွန်မြူနစ်ဘက်က မရှုမလှ အရေးနိမ့်သွားရင် အာဖရိကတိုက်တခုလုံးမှာ ကွန်မြူနစ်ဩဇာ အကြီးအကျယ်ကျဆုံးသွားလိမ့်မယ်။ ဒါကို ရုရှတွေက အထူးစိုးရိမ်နေကြတယ်"

ဤသို့ အစချီကာ သမ္မတဘရက်ဖို့ဒ်သည် ထိပ်သီးဆွေးနွေးပွဲ၌ အမေရိကန်ဘက်မှ အသုံးပြုမည့် လျှို့ဝှက်နည်းပရိယာယ်အကြောင်း အသေးစိတ် ပြောပြလေသည်။

"ကဲ ဒါလင်၊ ပင်ပန်းလှပြီ၊ နက်ဖြန်လဲ အလုပ်တွေ ရှိသေးတယ်၊ အားရှိအောင် အိပ်လိုက်ပါဦး၊ ဂွတ်နိုက်"

ဗီရာက နှုတ်ဆက်လိုက်ပြီးနောက် သမ္မတ ဘရက်ဖို့ဒ်သည် နှစ်ခြိုက်စွာ အိပ်ပျော်သွားလေသည်။ ဗီရာကမူ ရုတ်တရက် မအိပ်နိုင်ဘဲ အခြေအနေကို ပြန်လည် စဉ်းစားနေမိသည်။

ကေ-ဂျီ-ဘီ (ထောက်လှမ်းရေး) အဖွဲ့က သူမအား ပေးထားသည့် ညွှန်ကြားချက်အတိုင်း အသေးစိတ် ပြန်၍ သုံးသပ်စဉ်းစားနေမိလေသည်။ အရေးတကြီး ဆက်သွယ်ရန် ရှိလျှင် ရှေးဦးစွာ သူမသည် သံတမန်ရေးရာဌာနမှ မိမိတို့လူ ဝီလီနှင့် ဆက်သွယ်ရပေမည်။

ဝီလီကတဆင့် လက်ဒ်ဘာရီဆိုသူကို ဆက်သွယ်ရမည်ဖြစ်ပြီး တဖန် လက်ဒ်ဘာရီက ဗီရာအား ဝန်ကြီးချုပ် ကီရင်ချင်ကိုနှင့် တွေ့ဆုံရအောင် စီစဉ်ပေးမည်ဖြစ်သည်။

လန်ဒန်မြို့ပြင်ဘက် ဆယ်မိုင်အကွာတွင် ရှိသော ဗြိတိသျှ လေတပ်စခန်း သီးသန့်လေဆိပ်မှာ ရုရှလေယာဉ်များအတွက် ဆင်းသက်ရန် စီစဉ်ထားသည်ဖြစ်ရာ ဗီရာသည် ထိုလေဆိပ်သို့ အမေရိကန် လုံခြုံရေးအစောင့်များ လိုက်ပါလျက် သွားရမည်ဖြစ်သည်။ ထိုလေဆိပ်၌ ရုရှ ဝန်ကြီးချုပ်က မော်တော်ကားတစီးတွင် ထိုင်နေမည်ဖြစ်ပြီး ဗီရာက ဝန်ကြီးချုပ်နှင့် တွေ့ဆုံချိန်တွင် လျှို့ဝှက်အချက်များကို သတင်းပို့ အစီရင်ခံရမည်ဖြစ်သည်။ ထို့နောက် ဗီရာအား ထိုလေဆိပ်မှပင် တခါတည်း မော်စကိုမြို့သို့ တိုက်ရိုက်ပို့ပေးမည်ဖြစ်ပြီး တချိန်တည်းမှာပင် သမ္မတကတော်အစစ် ဘီလီကလည်း မော်စကိုမြို့မှ လေယာဉ်ဖြင့် လန်ဒန်မြို့သို့ ရောက်လာမည်ဖြစ်သည်။

ဤတွင် ဗီရာ၏သရုပ်ဆောင်မှုအခန်းမှာ ပြီးမြောက်သွားပြီး သူမသည် ဆိုဗီယက်ယူနီယံ၏ ထိပ်တန်းအာဇာနည်တဦး ဖြစ်လာပေတော့မည်။

ဤသို့ဆိုလျှင် ဗီရာသည် မိမိလို ပြဇာတ်မင်းသမီးတဦးက အကြီးအကျယ်ဆုံးသော သရုပ်ဆောင်မှု တခုကို ပြုလုပ်ခဲ့ရပေသည်တကားဟု ကျေနပ်ပီတိဖြစ်လျက် အိပ်လိုက်လေသည်။

*

# အခန်း (၁၀)

ထိုနေ့တွင် ဗြိတိသျှ အိမ်ရှေ့မင်းသားက အမေရိကန်သမ္မတကတော်နှင့် ဝန်ကြီးချုပ်တို့အား ဘတ်ကင်ဟမ်နန်းတော်သို့ ဖိတ်ကြား၍ လက်ဖက်ရည်ပွဲဖြင့် တည်ခင်း ဧည့်ခံနေစဉ် သတင်းစာ ဆရာ ပါကာနှင့် ပြန်ကြားရေးမှူးနိုရာတို့သည် တနေရာတွင် ချိန်းတွေ့ကြလေသည်။

နိုရာက ပါကာအနေဖြင့် အမေရိကန်သမ္မတဘရက်ဖို့ဒ်နှင့် တွေ့ဆုံပြီး မိမိတို့ သံသယဖြစ်မိပုံများကို ပြောပြီးပါပြီလားဟု မေးရာ ပါကာကလည်း သူနှင့် သမ္မတဘရက်ဖို့ဒ် တွေ့ဆုံခဲ့ရပုံကို ပြောပြလေသည်။

"သမ္မတက ကျုပ်ပြောတာတွေကို လုံးဝ လက်မခံတဲ့အပြင် သူ့ဇနီးနောက်က ခြေရာခံလိုက်တာကိုပဲ သိပ်စိတ်ဆိုးတယ်၊ ပြီးတော့ ကျုပ်ကို ချက်ချင်းဖြုတ်ပစ်မယ်လို့တောင် ခြိမ်းခြောက်သေးတယ်"

ပါကာ၏ စကားအဆုံးတွင် နိုရာသည် အကြံတခု ရလာပြန်သည်။

"ဒီမယ် ကျွန်မ တခု စဉ်းစားမိတယ်။ လူတယောက်ရဲ့လက်ဗွေပုံစံ နောက်တယောက်နဲ့ လုံးဝမတူနိုင်ဘူး မဟုတ်လား၊ ဒီတော့ ကျွန်မတို့က ဘီလီရဲ့လက်ဗွေပုံစံကို အမေရိကန်က မှာယူပြီး လက်ရှိ သမ္မတကတော်ရဲ့လက်ဗွေပုံစံနဲ့ နှိုင်းယှဉ်ကြည့်လို့ မတူဘူးဆိုရင် သမ္မတကြီးကို ပြောပြလို့ လက်ခံမယ် ထင်တယ်"

"အဲဒါ မင်းပြောတာ နောက်ကျနေပြီ၊ ကျုပ်က ဒီအတိုင်း စိတ်ကူးရလို့ ဝါရှင်တန်မြို့ကို တယ်လီဖုန်း ဆက်ကြည့်ပြီးပြီ၊ ဘီလီရဲ့လက်ဗွေပုံစံက သူ အပျိုဘဝ ယာဉ်မောင်းလိုင်စင် လျှောက်စဉ်က ကာလီဖိုးနီးယားပြည်နယ်မှာ ရှိခဲ့တယ်၊ အခု အရေးတကြီး ရှာခိုင်းလိုက်တော့ ဘာဖြစ်တယ် ထင်သလဲ၊ မော်တော်ယာဉ် မှတ်ပုံတင်ဌာနရဲ့ဖိုင်တွေမှာ ဘီလီရဲ့လက်ဗွေပုံစံ မရှိတော့ဘူး၊ လုံးဝ ပျောက်နေတယ်၊ တယောက်ယောက်က ဒီလို ကြိုမြင်လို့ တနည်းနည်းနဲ့ ဖျောက်ထားလိုက်တာ ဖြစ်ရမယ်"

"ဟင် ဟုတ်လား၊ ဒါဖြင့် ကျွန်မတို့ ဘာဆက်လုပ်ကြမလဲ"

"လောလောဆယ်တော့ သမ္မတကတော်နောက်ကို ခြေရာခံလိုက်ပြီး အကဲခတ် ကြည့်နေရုံပဲရှိတယ်၊ နောက်တခုက ဝတ်စုံချုပ်တဲ့ဆိုင်က လက်ဒ်ဘာရီဆိုတဲ့လူကို အကဲခတ်ကြည့်မယ် စိတ်ကူးတယ်"

"ရှင် သတိလဲ ထားဦးနော်၊ ရှင့်အတွက် အန္တရာယ် ဖြစ်နေပါဦးမယ်"

နိုရာက စိုးရိမ်ဟန်ဖြင့် ပြောပြီး စကားဖြတ်လိုက်သည်။

*

နောက် ဆယ့်ငါးမိနစ်ခန့် ကြာသောအခါ ပါကာသည် လက်ဒ်ဘာရီ၏ ဆိုင်ထဲသို့ တယောက်တည်း သွားကြည့်လေသည်။ ဆိုင်ရှေ့ခန်းမှာ အဝတ်အထည်များ ခင်းကျင်းပြထားသည့် နေရာဖြစ်ပြီး အလွန်ခမ်းနားစွာ မွမ်းမံ ပြင်ဆင်ထားသည်ကို တွေ့ရလေသည်။ လက်ဒ်ဘာရီ၏ လက်ထောက်အမျိုးသမီး ရိုစီနာ ဆိုသူက ထွက်လာပြီးမေးရာ ပါကာက

"ကျုပ်က မစ္စတာလက်ဒ်ဘာရီနဲ့ ခဏတွေ့ချင်လို့ပါ၊ ကျုပ်ကို အမေရိကန် သမ္မတကတော်က လွှတ်လိုက်ပါတယ်"

ဟု ခပ်တည်တည် ပြောလိုက်သည်။

"ဟုတ်ကဲ့ ခဏလေး စောင့်ပါ၊ ကျွန်မ ကြည့်လိုက်ပါဦးမယ်"

အမျိုးသမီးက ပြောပြီး အတွင်းဘက် အခန်းတခန်းသို့ ဝင်သွားလေသည်။

မကြာမီ လက်ဒ်ဘာရီဆိုသူ ထွက်လာသည်။

"ဟုတ်ကဲ့"

"ကျွန်တော်က ပါကာပါ၊ သမ္မတကတော်ရဲ့ကိုယ်ရေးအတ္ထုပ္ပတ္တိ စာအုပ်ရေးရာမှာ ကူညီနေရပါတယ်၊ အခု လန်ဒန်မှာ ရှိနေတုန်း သူနဲ့သိကျွမ်းတဲ့သူတွေကို ကျွန်တော်က တွေ့ဆုံမေးမြန်းပြီး သင့်လျော်မယ့် အချက်အလက်တွေကို စာအုပ်ထဲမှာ ထည့်ရေးဖို့ သူက အကြံပေးလိုက်ပါတယ်"

"ဟုတ်ကဲ့ခင်ဗျ၊ သဘောပေါက်ပါပြီ။ ဒါပေမဲ့ အခုအချိန်က ကျုပ်တို့ ဆိုင်ပိတ်တော့မယ့်ဆဲဆဲ ဖြစ်နေတယ်။ ပြီးတော့ ကျုပ်က ညစာ စားပွဲတခု သွားဖို့ ရှိသေးတယ်။ ဒီလို လုပ်ပါလား နောက် နှစ်ရက်အတွင်း တယ်လီဖုန်းဆက်ပြီး ချိန်းလိုက်ပါ။ ဒီတော့မှ ခင်ဗျားနဲ့ကျုပ် အချိန်ယူပြီး စကားပြောကြတာပေါ့"

"ကောင်းပါပြီ။ ဆက်လိုက်ပါမယ်"

"သမ္မတကတော်ကိုလည်း ကျုပ်က နှုတ်ဆက်ကြောင်း ပြောပြလိုက်ပါ၊ ပြီးတော့ သူ လန်ဒန်မှာ ရှိနေတုန်း ကျုပ်က သူနဲ့ တွေ့ချင်ပါတယ်လို့"

လက်ဒ်ဘာရီ၏စကားအဆုံးတွင် သူ၏ လက်ထောက် အမျိုးသမီးက

ပြင်သစ်ပြည် ပဲရစ်မြို့မှ တယ်လီဖုန်းလာကြောင်း လှမ်းပြောလိုက်သဖြင့် လက်ဒ်ဘာရီသည် ပါကာအား နှုတ်ဆက်၍ အတွင်းဘက် စကြံသို့ ပြန်ဝင်၍ သွားလေသည်။

ပါကာသည် အပြင်ဘက်သို့ ထွက်လိုက်ရာ တံခါးပေါက်အနီးသို့ ရောက်၍ သွားတော့မှ စိတ်ကူးတမျိုး ရလာမိပြန်သည်။

လက်ဒ်ဘာရီက သမ္မတကတော် လန်ဒန်မြို့မှာရှိနေစဉ် တွေ့လိုပါသည်ဟု ပြောခဲ့သည်။ အမှန်တော့ သူသည် သမ္မတကတော်နှင့် တွေ့ခဲ့ပြီးဖြစ်သည်။ ယခု မတွေ့ရသေးသလို ပြောခြင်းမှာ လက်ဒ်ဘာရီ အနေဖြင့် လိမ်ပြောခြင်းသာ ဖြစ်သည်။ ဘာကြောင့် လိမ်ပြောရသနည်း။

လက်ဒ်ဘာရီသည် ဆိုဗီယက် ထောက်လှမ်းရေးသူလျှို ဖြစ်ရမည်ဟု တွက်မိသည်။ ထို့ကြောင့် စုံစမ်းကြည့်လိုစိတ် ဖြစ်ပေါ်ပေါ်လာမိလေသည်။

ထို့ကြောင့် ပါကာသည် ဆိုင်တွင်းသို့ ပြန်လှည့်ကြည့်လိုက်ရာ မည်သူမျှ မတွေ့သဖြင့် အတွင်းဘက် စကြံသို့ လျှောက်ဝင်လိုက်သည်။

အခန်းတံခါး၌ လက်ဒ်ဘာရီက တယ်လီဖုန်း စကားပြောနေသည်ကို ကြားရလေသည်။ ပါကာလည်း လှည့်ပတ်ကြည့်လိုက်ရာ အခန်းတခန်းမှာ လက်ဒ်ဘာရီ၏ရုံးခန်းဖြစ်ကြောင်း သိသိသာသာ ထင်ရှားသဖြင့် ထိုအခန်းတွင်းသို့ ဝင်လိုက်လေသည်။

အခန်းတွင်း၌ကား အမျိုးသမီး ဝတ်စုံများ အသစ်အဆန်း အမျိုးမျိုးကို ချိတ်ဆွဲထားသည်ကို တွေ့ရသည်။ ဤတွင် ပါကာလည်း အကြံရကာ ထိုအမျိုးသမီးဝတ်စုံများ၏နောက်တွင် အသာ ဝင်ပုန်းနေလိုက်သည်။ လက်ဒ်ဘာရီ ပြန်ဝင်လာသည့်အခါ သူ ဘာလုပ်သည်၊ မည်သူနှင့် စကား ပြောသည်ကို အသာချောင်း၍ လေ့လာရန်ပင်ဖြစ်သည်။

ဤနေရာတွင် သူ့အဖို့ အမည်မျှ အန္တရာယ်များနေသည်ကိုလည်း ပါကာက တွေးမိလေသည်။ အကယ်၍ ဤဆိုင်သည် ရုရှထောက်လှမ်းရေး (ကေ-ဂျီ-ဘီ) ၏ လျှို့ဝှက်စခန်းဖြစ်ပါက မိမိအား ယခုမိသွားပါက ချက်ချင်း သုတ်သင် ကွပ်မျက်လိုက်မည်မှာ သေချာသည်။ တဖန် ဆိုင်က ရိုးရိုးဆိုင် ဖြစ်လျှင်လည်း မိမိအားမိသွားပါက သူခိုးအဖြစ် ရဲကိုတိုင်ကာ အရေးယူမည်ဖြစ်သည်။ ဤသတင်းကို အမေရိကန်သမ္မတက ကြားသိလျှင် မိမိအား ချက်ချင်း မညှာတာဘဲ အလုပ်က ထုတ်ပစ်မည် ဖြစ်သည်။

သို့ဖြစ်လင့်ကစား ပါကာသည် စွန့်စား၍ ထောက်လှမ်းရန်

ဆုံးဖြတ်လိုက်သည်။

ထိုအခိုက် အပြင်ဘက်မှ ဧည့်သည်လာသံ ကြားရပြီးလက်ဒ်ဘာရီက

"ဟာ ခင်ဗျားတို့ ရောက်လာတာဟာ အချိန်မှန်ပဲ၊ သတင်းထူးတယ် မဟုတ်လား၊ ဘာဂီနော့ဗ် အပြင်ဘက်က တံခါးကို ပိတ်ပြီး သော့ခတ်လိုက်စမ်းပါ၊ ဆိုင်ပိတ်ချိန်လည်း ရောက်နေမှပဲ၊ ပြီးတော့ ကျုပ်ရဲ့ရုံးခန်းကို လာခဲ့ကြ၊ ယမကာ သောက်ရင်း ပြောကြရအောင်" ဟု ပြောသံကြား ရသည်။

(ဘာဂီနော့ဗ် ဆိုသူမှာ ရုရှနာမည်ဖြစ်၍ ယခုလာသူများထဲတွင် ရုရှလူမျိုးတယောက် ပါကြောင်း ပါကာ ချက်ချင်း ရိပ်မိလိုက်သည်)

မကြာမီ လက်ဒ်ဘာရီနှင့် ဧည့်သည်များ ရုံးခန်းတွင်းသို့ ဝင်လာသံကြားရသည်။

ပါကာပုန်းနေသောနေရာက သူတို့နှင့် အနည်းငယ် လှမ်းနေသော်လည်း စကားပြောသံကို ကြားနေရလေသည်။ ဧည့်သည်များကိုတော့ မမြင်ရချေ။ သို့သော် ပါကာသည် ဂရုစိုက် နားထောင်နေလေသည်။

"ကျုပ်တို့ အကြံအစည် အောင်မြင်ဖို့ သေချာသလောက် မဟုတ်လား။ ကျုပ်တို့အမျိုးသမီးက သူ့တာဝန် ထမ်းဆောင်နိုင်ပြီ မဟုတ်လား"

လက်ဒ်ဘာရီက စပြောလိုက်သည်။ နောက်လူတယောက်က အင်္ဂလိပ်စကားကို အမေရိကန် လေသံဖြင့်

"ပြီးလုပြီ ဆိုပါတော့၊ သူက ပြောတာက ကျုပ်တို့လိုချင်တဲ့ အချက်အလက်တွေ ရထားပြီလို့ ဆိုတယ်။ ဒီနေ့ည ဆယ့်တစ်နာရီမှာ ဝန်ကြီးချုပ်နဲ့ တွေ့ဖို့ရှိတယ်။ အဲဒီကျတော့မှ အပြည့်အစုံ အစီရင်ခံလိမ့်မယ်"

ဟု ပြောသံကြားလိုက်ရသည်။

ထိုလူ၏အသံကို ပါကာသည် ကြားဖူးသလို ရှိသော်လည်း မည်သူမည်ဝါဟူ၍ အတိအကျတော့ မမှတ်မိချေ။ လက်ဒ်ဘာရီ၏အသံကို ကြားရပြန်သည်။

"ဒီအကြောင်းကို ဝိုင်ယာလက်နဲ့ သတင်းပို့လိုက်စေချင်သလား"

"မလိုသေးဘူးလို့ ထင်တယ်၊ ကိစ္စအားလုံးပြီးအောင် စောင့်ကြည့်ကြသေးတာပေါ့"

အမေရိကန်က ပြန်ပြောလိုက်လေသည်။

"ဒါပေမဲ့ လူချင်းလဲဖို့ကိစ္စ အချိန်ကိုက်ဖို့ အရေးကြီးတယ်ဗျ၊ ပြီးတော့"

လက်ဒ်ဘာရီ၏ စကားမဆုံးမီ ရုရှလူမျိုး (ဘာဂီနော့ဗ်) ၏ အသံဖြင့် ကြားဖြတ် ဝင်ပြောသံ ကြားရလေသည်။

"လူချင်း ပြန်လဲဖို့ မလိုတော့ဘူး၊ ဗီရာ အခုည ဝန်ကြီးချုပ်ဆီကို သတင်းပို့ပေးပြီးရင် သူ့ကို ဘာမှ ဆက်သုံးစရာမလိုတော့ဘူး၊ ဟိုအမျိုးသမီးကိုသာ ပြန်ပို့ပေးလိုက်ဖို့ပဲ ရှိတယ်"

"ဒါဖြင့် ဗီရာကို သုတ်သင်လိုက်မယ် ဆိုပါတော့"

လက်ဒ်ဘာရီက စိတ်မကောင်းဟန်ဖြင့် ပြောလိုက်ပြန်ရာ ရုရှလူမျိုးက

"ဒါတော့ မလုပ်မဖြစ် လိုအပ်တဲ့ကိစ္စမို့ လုပ်ရမှာပါ၊ အခုည ဗီရာ ဝန်ကြီးချုပ်ကို အစီရင်ခံပြီးတာနဲ့ လုပ်ရမှာပဲ"

ဟု ပြောလိုက်သည်။

"စိတ်ချရတဲ့နေရာရော ရှိရဲ့လား"

"အားလုံးစီစဉ်ပြီးပြီ"

"အလောင်းကို တွေ့သွားရင် ဘယ့်နှယ့်လုပ်မလဲ"

လက်ဒ်ဘာရီက စိုးရိမ်ဟန်ဖြင့် မေးလိုက်ပြန်သည်။

"အဲဒါအတွက် စိတ်မပူပါနဲ့၊ ဘယ်သူ့အလောင်းဆိုတာ ဘယ်သူကမှ ပြောနိုင်မှာမဟုတ်ဘူး၊ မျက်နှာကိုလည်း ဘယ်သူကမှ မှတ်မိမှာ မဟုတ်ဘူး၊ အက်စစ်ငရဲမီးသုံးမှာဗျ"

ရုရှလူမျိုးက ပြန်ပြောလိုက်ပြီးနောက် လက်ဒ်ဘာရီက

"ဒါဖြင့် ကျုပ်တို့ ဘယ်တော့လောက် ဝိုင်ယာလက်နဲ့ သတင်းပို့ရမှာလဲ"

ဟု မေးလိုက်သည်။

"အခု ဆယ့်တစ်နာရီကစပြီး ခင်ဗျား ဒီမှာ အသင့်စောင့်နေပါ၊ လျှို့ဝှက် သင်္ကေတ အသုံးပြုဖို့ ဖီဒင်ဆိုတဲ့လူက ခင်ဗျားကို လာကူညီလိမ့်မယ်။ ဟိုကလူတွေက လိုအပ်တာတွေလုပ်ဖို့ အဆင်သင့် ရှိနေကြလိမ့်မယ်"

ရုရှလူမျိုးက ပြောပြီးနောက် လူတွေ အပြီးထွက်သွားသံ ခြေသံများကို ကြားရလေသည်။ လျှပ်စစ်မီး ခလုတ်များကိုလည်း ပိတ်လိုက်သောကြောင့် လုံးဝ မှောင်မိုက်သွားသည်။

ပါကာသည် သူပုန်းနေသော ဝတ်စုံတွေ နောက်နား၌ပင် ဆက်လက်၍ ဆယ့်ငါးမိနစ်ခန့် နေရန် ဆုံးဖြတ်လိုက်သည်။ မည်သူမှ မရှိကြောင်း သေချာတော့မှ သူသည် ပြန်ထွက်ရန် စိတ်ကူး ရလေသည်။

ထိုအတောအတွင်း သူ ကြားလိုက်ရသော စကားများအကြောင်း ပြန်လည် ဆင်ခြင် သုံးသပ်မိလေ သည်။

စောစောက စကားပြောနေသူ လူသုံးယောက်သည် ရုရှထောက်လှမ်းရေး (ကေ-ဂျီ-ဘီ) သူလျှိုများ ဖြစ်ကြောင်း သေချာနေလေပြီ။ သူတို့ပြောသော ဗီရာဆိုသူ အမျိုးသမီးသူလျှိုတဦး ရှိနေပြီး သူမသည် ယခု ဝန်ကြီးချုပ်ထံ လျှို့ဝှက်ချက်များ အစီရင်ခံလိမ့်မည်ဟု ဆိုသည်။ ဝန်ကြီးချုပ်ဆို၍ ယခုအခါ လန်ဒန်မြို့တွင် ရုရှဝန်ကြီးချုပ် ကီရင်ချင်ကိုတဦးသာ ရှိပေသည်။ ဗီရာဆိုသူ အမျိုးသမီးကိုလည်း ကွပ်မျက်ပြီး မျက်နှာကို မမှတ်မိစေရန် ရုပ်ပျက်ဆင်းပျက်ဖြစ်အောင် လုပ်မည်ဟု ဆိုသည်။

ထိုစကားများကို သေချာစွာ စဉ်းစားကြည့်သောအခါ ပါကာသည် သူ မသင်္ကာ ဖြစ်နေသော အချက် မှန်ကန်နေကြောင်း အထောက်အထား ဖြစ်နေပြီဟု သုံးသပ်မိလေသည်။

ဗီရာဆိုသူသည် အမေရိကန် သံရုံးတော်နေရာတွင် လူစားထိုး ဝင်ရောက်ဟန်ဆောင်နေသူ ဖြစ်ရမည်။ သူမသည် သမ္မတဘရက်ဖို့ဒ်ထံ မှ အရေးကြီးသော လျှို့ဝှက်ချက်များ သိရှိထားပြီးနောက် ရုရှဝန်ကြီးချုပ်ထံ တဆင့် အစီရင်ခံမည်ဖြစ်သည်။ ထို့နောက် ဗီရာကို ကွပ်မျက်ခြင်းအားဖြင့် အမေရိကန် သမ္မတကတော်နှင့် ရုပ်ချင်းတူသူ အမျိုးသမီးတဦး ရှိကြောင်း အထောက်အထား မကျန်ဘဲနေအောင် စီစဉ်ကြခြင်း ဖြစ်တန်ရာသည်။

"ဟို အမျိုးသမီးကို ပြန်ပို့မည်" ဟု ဆိုခြင်းမှာ သမ္မတကတော် ဘီလီကို ဆိုလိုခြင်း ဖြစ်ရပေမည်။

ပါကာသည် ဤသို့ သုံးသပ်ရင်း ရုရှတို့၏ အကြံကြီးပုံ၊ ရက်စက်ပုံကို အလွန်အံ့သြနေမိ လေသည်။ ဆယ့်ငါးမိနစ်စေ့သောအခါ ပါကာသည် ရုံးခန်းအပြင်ဘက်သို့ အသာ ကွယ်ပြီးနောက် ဆိုင်၏ ရှေ့ခန်းသို့ ဆက်လျှောက်လာလေသည်။

ဆိုင်အတွင်း၌ကား ဘာသံမှ မကြားရဘဲ တိတ်ဆိတ်နေလေသည်။

အပြင်ဘက် တံခါးဖွင့်သည့် သော့ကို တံခါး၏အတွင်းဘက်တွင် ချိတ်ထားကြောင်း စောစောက သတိပြုမိထားသဖြင့် သော့ကိုယူပြီး တံခါးကို ဖွင့်လိုက်သည်။ အပြင်ဘက်ရောက်မှ တံခါးကို ပြန်ပိတ်လိုက်လေသည်။

ပါကာသည် အပြင်ဘက်သို့ ချောမောစွာ ရောက်ရှိနေပြီဖြစ်သော်လည်း သူ၏လက်ထဲတွင် ရှိနေသော သော့က ပြဿနာ ဖြစ်နေပြန်သည်။ မိမိက သော့ကိုယူပြီး ပြန်ထွက်သွားလျှင် လက်ဒ်ဘာရီတို့က သော့ပျောက်၍ မသင်္ကာဖြစ်မည်မှာ သေချာသည်။

ထို့ကြောင့် သော့တူတချောင်း အမြန်ထပ်လုပ်၍ မူလသော့ကို အတွင်း၌ပင် ပြန်ထားပြီး သော့တူကိုတော့ သူက ယူထားလိုက်မည်ဟု အကြံရလေသည်။

ပါကာသည် အနီးအနားတွင် လိုက်ရှာပြီး ကံအားလျော်စွာပင် သေတ္တာနှင့် သော့များ ပြင်သည့် ဆိုင်တဆိုင် တွေ့ရသည်။ ထိုဆိုင်တွင် သော့တူတချောင်း အမြန်လုပ်ခိုင်းလိုက်သည်။ ထို့နောက် ဆိုင်သို့ တခေါက်ပြန်လာပြီး မူလသော့ကို ဆိုင်အတွင်းဘက်တွင် လက်ရာမပျက် ပြန်ထားလိုက် သည်။

ပြီးမှ တံခါးကို ပြန်ပိတ်ပြီး သူ၏ မော်တော်ကားရှိရာသို့ အမြန်လာ၍ မောင်းထွက်ခဲ့ လေသည်။ ကားမောင်းလာရင်းနှင့် သူသိရှိခဲ့ရသောအချက်များကို ပြန်လည် စဉ်းစားမိလေသည်။ ဆိုဗီယက် တို့၏အကြံကား ယုံကြည်နိုင်စရာ မရှိလောက်အောင် ဆန်းကြယ်သည်နှင့်အမျှ အလွန် ပိုင်နိုင် ပိရိလှပါသည်။

ဗီရာအမည်ရှိ သူတို့၏သူလျှိုမထံမှ သတင်းများကို ရယူပြီးသည့် နောက် မော်စကိုမြို့သို့ အကြောင်းကြားပြီး သမ္မတကတော်အစစ် ဘီလီကို လန်ဒန်သို့ ပြန်ပို့ပေးကြလိမ့်မည်။

ထိုအခါ ဘီလီအစစ်က သူမကို ဖမ်းဆီးချုပ်နှောင်ထားခဲ့ပုံကို ဖော်ထုတ်ဖွင့်ပြောမည် ဆိုပါက မည်သူက ယုံကြည်လေမည်နည်း။

လူအများ အမြင်တွင် အမေရိကန် သမ္မတကတော် အစစ်သည် တောက်လျှောက် ရှိနေသည်ဟုသာ သိကြပေရာ ဘီလီ စိတ်ဖောက်ပြန်ပြီး ပြောခြင်းဖြစ်သည်ဟု ယူဆကာ စိတ်ရောဂါအထူးကု ဆရာဝန်များကို စစ်ဆေးကုသခိုင်းမည်ဟုပင် ထင်ရပေမည်။

မည်သို့ပင်ဖြစ်စေ မိမိချစ်သူ နိုရာနှင့် အချိန်မနှောင်းမီ တိုင်ပင်မှ ဖြစ်မည်ဟု ပါကာက ဆုံးဖြတ်လိုက် လေသည်။

*

ဟိုတယ်သို့ ပြန်ရောက်သောအခါ ပါကာသည် တာဝန်ကျနေသော လုံခြုံရေးအစောင့် အော်လီဖင် ဆိုသူနှင့် တွေ့သဖြင့်

"သမ္မတကတော် ညှော်ခံပွဲသွားတာ ပြန်ရောက်ပြီလား"

ဟု မေးကြည့်လေသည်။

"ပြန်မရောက်သေးဘူး"

အော်လီဖင်က ပြန်ပြောသဖြင့် ပါကာသည် သဘောကျသွားမိသည်။

"နီရာတယောက်ကော"

"သူ့ရုံးခန်းမှာ ရှိပါတယ်"

"ဟုတ်လား၊ ကျေးဇူးပဲ"

ပြောပြောဆိုဆို ပါကာသည် နီရာရှိရာ ရုံးခန်းသို့ ချက်ချင်း သွားလေသည်။

"ဘယ့်နှယ့်လဲရှင့်၊ လက်ဒ်ဘာရီ ဆိုင်ကို ရှင်ရောက်ခဲ့သေးသလား"

နီရာက စိုးရိမ်ဟန်ဖြင့် မေးလေသည်။

"ရောက်ခဲ့တယ်ဟိုမှာ ဘာဖြစ်တယ်ဆိုတာကို ကြားရရင် မင်းယုံမှာတောင် မဟုတ်ဘူး"

ဤသို့ အစချီကာ ပါကာသည် သူ၏ အတွေ့အကြုံ အပြည့်အစုံကို ပြောပြလိုက်လေသည်။

နီရာသည် နားထောင်ရင်း အလွန်အံ့အားသင့်ကာ ရုတ်တရက် ဘာမှမပြောနိုင် လောက်အောင် ဖြစ်နေလေသည်။

"ကဲ ဘယ်လိုသဘောရသလဲ"

ပါကာက မေးလိုက်တော့မှ နီရာက

"အင်း စောစောပိုင်းက ရှင်တို့ ကျွန်မတို့ သင်္ကာမကင်း ဖြစ်နေတာပဲ ရှိတယ်။ အခုတော့ အမှန် ဖြစ်နေကြောင်း အထောက်အထား ရသလို ဖြစ်နေပြီ၊ ဒီတိုင်းဆိုရင် လက်ရှိ သမ္မတကတော်က ဘီလီအစစ်မဟုတ်ဘူး"

ဟု ပြန်ဖြေလေသည်။

"သူ့နာမည် ဗီရာလို့ သိရတယ်"

"ကျွန်မဖြင့် အံ့ဩလို့ မဆုံးပါဘူး၊ ခေါင်းရှုပ်နေမိတယ်၊ သူတို့က ဒီအကြံကို ဖြစ်အောင် လုပ်နိုင်တာပဲ"

"ဒါက အရေးမကြီးပါဘူး၊ သူတို့က လက်တွေ့ လုပ်ထားပြီးမှပဲ"

"ဒါဖြင့် ကျွန်မတို့ရဲ့ဘီလီအစစ်ကကောရှင့်"

"မော်စကိုမြို့မှာ ရှိဖို့များတယ်၊ သူတို့အချင်းချင်း စကားပြောပုံအရ ကြားရသလောက်ဆိုရင် ဗီရာက လျှို့ဝှက်ချက် သတင်းပို့ပြီးရင် ဘီလီကို လန်ဒန်မြို့အရောက် ပြန်ပို့ပေးမယ်လို့ သိရတယ်။ အခု မင်းတို့ ကျုပ်တို့တာဝန်က ဗီရာက လျှို့ဝှက်ချက်တွေ သတင်းမပို့နိုင်အောင် တားဆီးဖို့ပဲ"

"ဒါဖြင့် ရှင်ကိုယ်တိုင် အမြန်ဆုံး သမ္မတကြီးနဲ့ သွားတွေ့မှ ဖြစ်မယ်"

"ဟာ မဖြစ်ဘူးထင်တယ်၊ သူက ကျုပ်ပြောတာ ယုံမှာမဟုတ်ဘူး၊ အယင်တခါတည်းက သူက ကျုပ်ကို မယုံလို့ ထုတ်မယ်တောင် လုပ်နေသေးတယ်၊ အခုလဲပဲ ကျုပ်တို့ပြောတာတွေကို ခိုင်လုံတဲ့ အထောက်အထားလို့ သူက လက်ခံမှာ မဟုတ်ဘူး။ ကျုပ်ကို ထုတ်ပစ်လိုက်ရင် ဘာမှ မတတ်နိုင်တော့ဘူး"

"အင်း ရှင်ပြောတာလဲ ဟုတ်တာပဲ၊ ဘယ်လိုများ ကြံရပါ့မလဲနော်"

ဤတွင် ပါကာသည် တစုံတခုကို စဉ်းစားမိဟန်ဖြင့် ထိုင်ရာမှ ထလိုက်သည်။

"ဖြစ်နိုင်တာ တနည်းတော့ရှိတယ်၊ အဲဒါလဲ ကျုပ်က ကားမောင်းရင်း ပြန်လာပြီး စဉ်းစားမိတာ၊ အခုလောလောဆယ်ဆယ်မှာ ကျုပ်တို့က သမ္မတကတော် အတုကို မဖော်ထုတ်ဘဲ နေရမယ်၊ အရေးကြီးတာက သူ့အနေနဲ့ ထိပ်သီးဆွေးနွေးပွဲရဲ့လျှို့ဝှက်ချက်တွေကို ရုရှဝန်ကြီးချုပ်ဆီ သတင်း မပေးနိုင်အောင် ကာကွယ်တားဆီးဖို့ ဖြစ်တယ်၊ ဒီနေ့ညမှာ သူက ရုရှဝန်ကြီးချုပ်နဲ့ တွေ့လိမ့်မယ် ဆိုတာကို သိရတယ်၊ အဲဒါကို ကျုပ်တို့က တားဆီးရမယ်"

"ဒါပေမဲ့ ကျွန်မတို့က ဘယ်လိုလုပ်ပြီး တားဆီးနိုင်မှာလဲရှင့် ဒီအမျိုးသမီး ဗီရာကို သူ့ရဲ့ ရှေ့ရေးကြမ္မာ ကို အမှန်အတိုင်း ဖွင့်ပြောလိုက်ရမယ်၊ သူက သတင်းပို့ပြီးတာနဲ့ ဘာဖြစ်လိမ့်မယ်ဆိုတာ သိအောင် လို့ ပြောပြလိုက်ရမယ်၊ ဒီနေရာမှာ မင်းရဲ့အကူအညီ လိုတယ်"

"ဟုတ်ကဲ့ ကျွန်မ တတ်နိုင်တာဆိုရင် ကူညီဖို့ အသင့်ပါပဲ"

"အိုကေ ဒါဖြင့် သေသေချာချာ နားထောင်စမ်း"

ပြောပြောဆိုဆို ပါကာသည် နိုရာ၏အနီးသို့ကပ်၍ သူ၏အကြံကို တိုးတိုး ပြောပြလိုက်လေသည်။ အသေးစိတ် ပြောပြပြီးနောက် ပါကာသည် လူချင်း ခွာလိုက်ပြီး

"အဲဒါကို မင်းဘယ်လို သဘောရသလဲ"

ဟု မေးလိုက်၏။

"ရှင်က အောင်မြင်မယ်လို့ ထင်သလား"

"အောင်မြင်မယ်လို့ ထင်တာပေါ့ကွယ်၊ ဒါထက် ပိုကောင်းတဲ့အကြံ မင်းစဉ်းစားမိလို့လား"

"မစဉ်းစားမိပါဘူးရှင်၊ ရှင့်အကြံအတိုင်းပဲ ကျွန်မတို့ လုပ်ကြပါစို့"

"ကောင်းပြီ၊ အခု သမ္မတကတော်က ညှော့ခံပွဲသွားတာ ဘယ်တော့ ပြန်လာမှာလဲ"

"သူ ပြန်လာရင် အိပ်ခန်းကို တိုက်ရိုက်သွားမှာလား"

"ကျွန်မတော့ မထင်ဘူး၊ ထုံးစံအတိုင်းဆိုရင် ကျွန်မဆီ လာတွေ့တတ်တယ်၊ အရေးကြီးတဲ့ တယ်လီဖုန်းတွေ ဘာတွေ လာလားလို့ မေးလေ့ရှိပါတယ်"

"သေချာရဲ့လားကွ"

"သေချာပါတယ်ရှင့်"

"ဒါဖြင့် သူပြန်လာရင် ဆီးကြိုဖို့ အသင့်ပြင်ထားပေတော့"

ပါကာက ပြောလိုက်ပြီးနောက် သူတို့ရုံးခန်းမှထွက်၍ သမ္မတ ဇနီးမောင်နှံ နေထိုင်သည့် အခန်းသို့ သွားကြလေသည်။

ထို့နောက် ညှော့ခန်းတွင် ထိုင်စောင့်နေကြလေသည်။

ထိုအခါ ပါကာ အထူးစိတ်လှုပ်ရှားနေပြီး လက်ပတ်နာရီကို မကြာခဏ ကြည့်နေမိလေသည်။

အတန်ကြာကြာ စောင့်နေပြီးနောက် သမ္မတကတော် ပြန်ရောက်လာသံကို

ကြားရလေသည်။

သူမသည် ဘက်ကင်ဟမ် နန်းတော်ညှော်ခံပွဲမှ ပြန်လာခြင်းဖြစ်ရာ သူမနဲ့အတူ လိုက်ပါလာသူ လုံခြုံရေး အစောင့်များအား လှမ်းပြောသံကိုပါ ကြားရလေသည်။

"ဒီနေ့ညဘက် ကျွန်မတို့ ဟိုတယ်အပြင်ဘက်ကို ထွက်စရာ ရှိမရှိ ကျွန်မအနေနဲ့ မပြောတတ်သေး ဘူးရှင့်၊ သမ္မတကြီးက ရှင်တို့ကို အကြောင်းကြားပါလိမ့်မယ်"

ဤသို့ ပြောပြီးနောက် တံခါးပိတ်သံ ကြားရသည်။ တဖန် သမ္မတကတော်၏အသံဖြင့်

"ဟေ့ နိုရာတယောက်ရှိလား" ဟု လှမ်းအော်မေးသံကို ကြားရလေသည်။

သူမသည် ညှော်ခန်းအနီးသို့ လျှောက်လာပြီဖြစ်ရာ ပါကာသည် သူ၏ မူလအကြံအတိုင်း နိုရာအား ဘာမှမပြောရန် လက်ကာပြလျက်ကပင် နိုရာကို အသံကျယ်ကျယ်ဖြင့် ပြောလေသည်။

"ဟုတ်တယ် နိုရာရဲ့၊ ဒီအမျိုးသမီးက ရုရှသူလျှိုအစစ်ပဲ၊ ဒါကို သမ္မတကြီးရဲ့ ရုံးအဖွဲ့ဝင်တဦးဆီက ကြားခဲ့ရတယ်၊ ရုရှဘက်က အမျိုးသမီးသူလျှိုတဦးဟာ ဒီလန်ဒန်မြို့ ရောက်နေတဲ့အပြင် အမေရိကန်သမ္မတရဲ့ အတွင်းစည်းဝိုင်းအတွင်းကို ထိုးဖောက်ဝင်ရောက်နေနိုင်ပြီ လို့ ဆိုတယ်"

"ရှင် တကယ်ပြောတာလားဟင်၊ သေချာရဲ့လား" နိုရာက ပြန်ပြောလိုက်သည်။

(မှတ်ချက်။ ဤသို့ အသံကျယ်ကျယ် ပြောနေခြင်းမှာ ပါကာက နိုရာအား ကြိုတင် ပြောပြထားသည့် အစီအစဉ်အတိုင်း သမ္မတကတော် အတု ပြင်ဘက်မှ ကြားရအောင် တမင်ပြောနေခြင်းဖြစ်သည်။)

ပါကာကပင် အသံကျယ်ကျယ်နှင့် ဆက်ပြောပြန်သည်။

"ကျုပ်ကလည်း ကြားခဲ့တာကို မင်းကို တဆင့် ပြန်ပြောတာပဲ၊ သူတို့ကတော့ အမျိုးသမီးရဲ့ နာမည်ကိုတောင် သိနေကြတယ်၊ နာမည်က ဗီရာတဲ့လေ"

"သူက ဘယ်သူလဲဟင်"

"ဒါတော့ ကျုပ်လည်း မပြောတတ်ဘူး၊ ဒါပေမဲ့ ကျုပ်ကို ဒီသတင်း

ပြောပြတဲ့လူကတော့ သိနေမှာပါပဲ"

ဤသို့ ပြောလိုက်ပြီးနောက် ပါကာသည် စကားကို ဖြတ်ထားလိုက်သည်။

အကယ်၍ အပြင်ဘက်မှ သမ္မတကတော်ဆိုသူသည် ဘီလီအစစ် အမှန်ဖြစ်ပါက ယခု မိမိတို့ ပြောသည့်စကားကို ကြားလျှင် ချက်ချင်း ဝင်လာပြီး အပြည့်အစုံ မေးမည်မှာ သေချာသည်။

အပြင်ဘက်မှ အမျိုးသမီးသည် ဘီလီ အစစ်အမှန် မဟုတ်ဘဲ အတုဖြစ်နေလျှင်ကား ရုတ်တရက် တုန်လှုပ် ချောက်ချားပြီး ခြေလှမ်းတန့်သွားမည်ဖြစ်ပေသည်။ မိမိတို့ ရှိရာသို့လည်း ဝင်မလာဘဲ အပြင်ဘက်မှ အသာရပ်၍ ဆက်နားထောင်မည် ဖြစ်လေသည်။

ယခု အပြင်ဘက်မှ ဘာသံမှ မကြားရဘဲ တိတ်ဆိတ်နေခြင်းကို ထောက်ခြင်းအားဖြင့် သူမသည် အခန်းအပြင်ဘက်တွင် ရှိနေမည်ဟု ယူဆရပေသည်။

နှစ်ယောက်သား ရင်တဖိုဖိုနှင့် ရပ်စောင့်နေကြရာမှ နိုရာက စကားဆက်လိုက်သည်။

"ရှင့်မိတ်ဆွေက ဘယ်လိုလုပ်ပြီး ဒီသတင်းကို ရခဲ့တာလဲဟင်"

"ဒါလဲ မပြောတတ်ဘူး၊ ဒါပေမဲ့ သူ့စကား အသွားအလာအရဆိုရင် ကျုပ်တို့အမေရိကန် ထောက်လှမ်းရေးက သူတို့ရဲ့လျှို့ဝှက်ကိစ္စတခု တွေ့ဆုံတဲ့နေရာမှ လျှို့ဝှက်အသံဖမ်းကိရိယာ တပ်ဆင် ထားပေးပြီး သတင်းရတယ်လို့ ယူဆရတယ်"

"ဒါဖြင့် ဒီပြဿနာကို ကျွန်မတို့ဘက်က ဘာလုပ်ကြမှာလဲ"

"ခိုင်လုံတဲ့ အထောက်အထား ရတဲ့အချိန်အထိ စောင့်ကြည့်နေလိမ့်မယ် ထင်တယ်၊ ဒီဗီရာဆိုတဲ့ အမျိုးသမီးသူလျှိုဟာ ထိပ်သီးဆွေးနွေးပွဲနဲ့ ပတ်သက်ပြီး လျှို့ဝှက်သတင်း အချက်အလက်တွေကို ရရှိထားပြီး ရုရှဝန်ကြီးချုပ် ကီရင်ချင်ကိုဆီကို ရောက်အောင်ပို့ပေးလိမ့်မယ်၊ ဒါကို ဒီဘက်က ဘာမှ မတတ်နိုင်ဘူး၊ ဗီရာဆိုတဲ့အမျိုးသမီးကိုတော့ သူတို့အချင်းချင်းပဲ ရှင်းပစ်လိမ့်မယ်တဲ့"

"ဟင် ရှင် ဘာကို ဆိုလိုတာလဲ"

"ကျုပ်မိတ်ဆွေ ပြောပြချက်အရ ဒီနေ့ည ရုရှ ဝန်ကြီးချုပ်ဆီကို သတင်းပို့ အစီရင်ခံပြီးတာနဲ့ ဗီရာကို သူတို့ဘက်က လူတွေကပဲ

သုတ်သင်ကွပ်မျက်လိုက်ကြလိမ့်မယ်ဆိုပဲ"

"ဟင် သူတို့ဘက်က သူလျှိုမကို သူတို့ကပဲ သတ်ပစ်မှာတဲ့လား"

"ဒီလိုရှိတယ်လေ၊ လိုချင်တဲ့ လျှို့ဝှက်သတင်း ရပြီးမှတော့ ဗီရာကို လွှတ်ထားရင် သူတို့အတွက် အန္တရာယ်ပဲ မဟုတ်လား၊ စိတ်မချရဘူး ဒါကြောင့် အပြီးအပိုင် နှုတ်ပိတ်တဲ့အနေနဲ့ ကိစ္စတုံး သုတ်သင် ကွပ်မျက်ဖို့ ရည်ရွယ်ထားတာလို့ ထင်တယ်"

"ဒါဖြင့် သူတို့ဘက်ကလူတွေကလည်း ဒီအမျိုးသမီးသူလျှိုကို သတ်ပစ်မယ်ဆိုပါတော့"

"ဟုတ်တယ် ဒီနေ့ညပဲ သတ်ပစ်လိမ့်မယ်လို့ သိရတယ်"

"အလို ဘုရား ဘုရား၊ ဒီကမ္ဘာကြီးမှာ ဘာတွေ ဘယ်လိုများ ဖြစ်ကုန်ပါလိမ့်"

"ကဲပါကွာ ဒါတွေ အသာထားစမ်းပါမင်းနဲ့ ကျုပ်နဲ့ ညစာ အတူသွားစားကြရအောင်"

ပါကာပြောလိုက်ပြီးချိန်တွင် အခန်းတံခါး ပွင့်လာပြီး သမ္မတကတော်သည် ဝင်လာလေသည်။ ယခုမှ ရောက်လာလေဟန်ဖြင့် သူမ ဟန်ဆောင်လာခြင်းဖြစ်လေသည်။ မည်သို့ပင် ဟန်ဆောင်နေသော် လည်း သူမ၏ မျက်နှာတွင် သွေးမရှိတော့သလို သိသိသာသာ ပျက်နေသည်ကို သတိပြုမိလေသည်။

သမ္မတ ကတော်အတု ဗီရာက ကြိုးစား ဟန်ဆောင်လျက်

"နိုရာ အရေးကြီးတဲ့ တယ်လီဖုန်း လာတာများ ရှိသလား"

ဟု မေးလေသည်။ နိုရာကလည်း

"သမ္မတကြီးက အကြောင်းကြားခိုင်းပါတယ်။ သူက ညဆယ်နာရီထိကို အားမှာ မဟုတ်ဘူးတဲ့၊ ဒါကြောင့် ဘီလီက စောင့်နိုင်မယ်ဆိုရင်တော့ သူက နောက်ကျပြီး ညစာ လာစားနိုင်မယ်လို့ ပြောပါတယ်။ ဒါမှမဟုတ်လို့ ဘီလီက စားချင်ရင် ညစာကို စားနှင့်ပါတဲ့"

ဟု ပြန်ပြောလေသည်။

"ဟုတ်လား၊ ဒါဖြင့် ပင်ပန်းလွန်းလို့ ခဏအနားယူပြီး တရေးအိပ်လိုက်ဦးမယ်၊ နိုရာက စောင့်ပြီး ဘယ်သူမှ လာအနှောင့်အယှက်

မပေးပါနဲ့"

ဤသို့ပြောပြီး သမ္မတကတော်သည် သူမ၏အိပ်ခန်းအတွင်းသို့ ဝင်သွားပြီး တံခါးကို ပိတ်လိုက်လေ သည်။

နှစ်ယောက်တည်း ကျန်ရစ်သောအခါ နီရာက ပါကာအား လက်တို့၍

"ကျွန်မတို့ပြောတာ သူကြားသွားတယ်လို့ ထင်သလား"

ဟု ခပ်တိုးတိုး မေးလေသည်။

"ကြားတာမှ တလုံးမကျန် ကြားသွားတာ သေချာတာပေါ့"

"ရှေ့လျှောက် ဘာဖြစ်မှာလဲဟင်"

"သူဟာ လျှို့ဝှက်ချက်ကို ရုရှဘက်ကို မပေးခင် အကြီးအကျယ် စဉ်းစားလိမ့်မယ်"

"ပြီးတော့ကော"

"ကျုပ်အထင်တော့ သူဟာ ရုရှဘက်ကို သစ္စာဖောက်ပြီး ကျုပ်တို့ဘက်ကို ဝင်လာဖို့ ကြိုးစားမယ် ထင်တယ်၊ ဒီလိုဆိုရင် ကျုပ်တို့က အားပေးရမှာပဲ"

"သူ့အကြောင်းကို ရှင်သိနေပြီဆိုတာကို ပြောပြရမှာပေါ့"

"ဟုတ်တယ်"

"နောက်တခုက ရှင်က ဒီလိုဖွင့်ပြောလိုက်ရင် သူက ရှင့်ကိုပါ လုပ်ကြံ ကွပ်မျက်ဖို့ စီစဉ်ရင် ဘယ့်နှယ့်လုပ်မလဲ"

"ဒါလဲ သတိထားရမှာပေါ့၊ ကဲပါကွာ ညစာ သွားစားကြရအောင်"

*

ဗီရာသည် အိပ်ခန်းတံခါးကို သေချာစွာ ပိတ်ပြီးနောက် တယောက်တည်း အသားများ ဆတ်ဆတ်တုန်အောင် စိတ်တုန်လှုပ် ချောက်ချားနေလေသည်။ ဒေါသလည်း ထွက်မိလေသည်။

နီရာနှင့် ပါကာတို့ အပြန်အလှန် ပြောနေကြသည်ကို အပြင်ဘက်မှ ရပ်နားထောင်ပြီး ကြားခဲ့ရသည့် အချက်တွေက အလွန်အံ့သြ တုန်လှုပ်စရာ ကောင်းလှပေသည်။

ပါကာ၏မိတ်ဆွေဆိုသူသည် ထိုမျှသော သတင်းစုံလင်စွာကို မည်သို့ သိရှိလေသနည်း။ ပါကာ၏ ပြောပြချက်အရ အမေရိကန်ထောက်လှမ်းရေး အသံဖမ်းကိရိယာ တပ်ဆင်ထားသည်ဟု ဆိုသည်။ ဧကန္တ အမေရိကန် ထောက်လှမ်းရေး စီအိုင်အေက လက်ဒ်ဘာရီ၏ ဆိုင်အတွင်း လျှို့ဝှက် အသံဖမ်း ကိရိယာ တပ်ဆင်ထားခြင်း ဖြစ်နိုင်ပေသည်။ သို့တည်းမဟုတ် သံတမန်ရေးရာအရာရှိ မိမိတို့သူလျှို ဝီလီ၏အခန်းတွင် အသံဖမ်းကိရိယာ တပ်ဆင်ထားခဲ့ခြင်းလည်း ဖြစ်နိုင်ပေသည်။ သို့တည်းမဟုတ် ဝီလီကိုယ်တိုင်က ကိုယ့်လူ သူ့ဘက်သားလုပ်ကာ တန်ပြန်သူလျှိုတဦး ဖြစ်နေလေသလား။

မည်သို့ပင်ဖြစ်စေ မိမိက လျှို့ဝှက်ချက်များ သတင်းပို့ အစီရင်ခံပြီးသည်နှင့် ရက်စက်စွာ သတ်ဖြတ်ပစ်မည် ဆိုခြင်းမှာ အလွန် နာကျည်းဖွယ် ကောင်းလှသည်။ မိမိအား အလွန်တရာ ခက်ခဲလှသော အလုပ်တာဝန်တခုအား လုပ်ခိုင်းပြီးမှ ဆုလာဘ်အဖြစ် သုတ်သင်ပစ်မည်ဆိုခြင်းသည် အလွန်နာကျည်းဖွယ်ရာ ကောင်းလှသည်။ အထူးသဖြင့် မိမိတို့လူမျိုး အချင်းချင်း၊ ရုရှနိုင်ငံသား အချင်းချင်းက မိမိအား ရက်စက်စွာ သတ်ပစ်ရန် ရည်ရွယ်ခြင်းမှာ တကယ်ပင် နာကျည်းဖွယ် ကောင်းနေသည်။

ဤသို့စဉ်းစားရင်း ဗီရာသည် သူ့ကိုယ်သူ ပြန်အားပေးလိုက်လေသည်။ စိတ်ကိုလည်း တင်းထားလိုက်လေသည်။

ယခု မိမိသည် အမေရိကန် သမ္မတကတော်နေရာတွင် ရောက်ရှိနေရာ ယင်းအခြေအနေကို အသုံးချရန် မိမိကလည်း တမျိုးတဖုံ ကြံစည်ရန် ဆုံးဖြတ်လိုက်သည်။

ဗီရာသည် တယ်လီဖုန်းဆက်ရန် ဟန်ပြင်လိုက်လေသည်။ သမ္မတကတော်အစစ် ဘီလီနှင့် အလွန်ရင်းနှီးသူ ဂျက်နက်ဖာလေးဆိုသူ အမျိုးသမီးသည် ယခု ကွယ်လွန်သွားပြီ ဖြစ်သော်လည်း သူမ၏ ခင်ပွန်း စက်စဲလ်နှင့် သား ပက်ထရစ်တို့က လန်ဒန်မြို့တွင် နေထိုင်လျက် ရှိလေသည်။

ဗီရာသည် ထိုအိမ်၏ လိပ်စာနှင့် တယ်လီဖုန်းနံပါတ်ကိုရှာပြီး တယ်လီဖုန်းဆက်လိုက်ရာ တဘက်မှ ဂျက်နက်ဖာလေး၏သား အသက် (၁၇)နှစ်အရွယ်ရှိသူ ပက်ထရစ်က ပြန်ထူးလေသည်။

"ဟဲလို ပက်ထရစ်၊ ဘီလီစကားပြောနေပါတယ်"

ဗီရာက ပြောလိုက်လေရာ တဘက်မှ ပက်ထရစ်သည် အလွန် အံ့အားသင့်သွားလေသည်။

"ဟာ ဘီလီလား"

"ဟုတ်ပါတယ်၊ တို့ဇနီးမောင်နှံက လန်ဒန်မြို့ ထိပ်သီးဆွေးနွေးပွဲအတွက် ရောက်နေကြတယ်"

"ဟုတ်ကဲ့ ကျွန်တော် သိပါတယ်၊ ရုပ်မြင်သံကြားသတင်းမှာ ကြည့်လိုက်ရပါတယ်"

"ဒီမယ် ပက်ထရစ် မင်းရဲ့အမေနဲ့ ငါနဲ့က ဘယ်လောက်ချစ်ခဲ့ကြတယ်ဆိုတာကို မင်းသိတယ် မဟုတ်လား၊ ဒါကြောင့် အခု ငါ လန်ဒန်ကို ရောက်တုန်း မင်းတို့အိမ်ကို ခဏဝင်လာခဲ့ချင်တယ်၊ နောက်ပြီး ကိစ္စလေးတခုနဲ့ ပတ်သက်နေလို့လဲ မင်းတို့အကူအညီ တောင်းချင်လို့ပါ"

"ဟုတ်ကဲ့၊ ဘယ်တော့လာမှာပါလဲ"

"အခုပဲ လာခဲ့မယ်၊ နောက် ဆယ့်ငါးမိနစ်လောက်ဆိုရင် ရောက်လာမယ်"

"ရှိမယ်မဟုတ်လားဟင်"

"ဟုတ်ကဲ့ ရှိပါမယ်"

ထိုမျှနှင့်ပင် ဗီရာသည် စကားကို ဖြတ်လိုက်ပြီးနောက် ဒေါ်ချက်စတာဟိုတယ်သို့ တယ်လီဖုန်း ဆက်လိုက်ပြန်သည်။

ထိုဟိုတယ်မှာ ရုရှဝန်ကြီးချုပ်နှင့် အဖွဲ့တည်းခိုနေထိုင်နေသည်။

ဗီရာသည် ဟိုတယ်မှ တယ်လီဖုန်း အော်ပရေတာအား ဝန်ကြီးချုပ် ကီရင်ချင်ကို၏ အခန်းသို့ ဆက်ပေးရန် ပြောလိုက်သည်။ ဝန်ကြီးချုပ်ထံသို့ တိုက်ရိုက် ဆက်သွယ်၍ မရမှန်း သိသော်လည်း သူ၏ ကိုယ်ရေးအရာရှိ တဦးဦးနှင့် ပြောရလျှင် ကိစ္စပြီးနိုင်သဖြင့် ဆက်လိုက်ခြင်းဖြစ်သည်။

တဘက်မှ ရုရှဘာသာဖြင့်

"ဆိုဗီယက်ကိုယ်စားလှယ်အဖွဲ့က စကားပြောနေပါတယ်"

ဟု ပြန်ဖြေရာ ဗီရာသည် ထိုအသံကို ချက်ချင်းမှတ်မိလေသည်။

"ဗိုလ်ချုပ်ကြီး ချူကော့ဗ်စကီး မဟုတ်ပါလားရှင့်"

ဗီရာက ရုရှဘာသာဖြင့် ပြောလိုက်ရာ တဘက်မှ လူသည် အလွန်အံ့အားသင့်သွားသည်နှင့် အမျှ သက်ာမကင်း ဖြစ်လာပုံရလေသည်။

"အခု စကားပြောနေတာ ဘယ်သူလဲ၊ ဘာကိစ္စများ ရှိလို့လဲ"

တဘက်မှ ခပ်တင်းတင်း ပြန်မေးလိုက်သည်။

"ကျွန်မက ဗီရာပါရှင့်၊ ဗိုလ်ချုပ်ကြီးက ကျွန်မကို သိတယ် မဟုတ်လားရှင့်"

ဗီရာက ရုရှဘာသာဖြင့်ပင် ပြောလိုက်ရာ တဘက်မှလူသည် အထူး အံ့အားသင့်သွားလျက်

"ဗီရာလား၊ ဘာဖြစ်လို့ တယ်လီဖုန်းဆက်ရတာလဲ မင်းက ဘယ်တော့မှ တယ်လီဖုန်း မဆက်ရဘူး"

"ဒီမယ် ကျွန်မက အရေးကြီးလို့ ဆက်တာပါ၊ အခု ဝန်ကြီးချုပ် ကီရင်ချင်ကိုနဲ့ စကားပြောချင် ပါတယ်"

"ဟာ မဖြစ်နိုင်ဘူး၊ သူက သိပ်အလုပ်များနေတယ်၊ ညစာစားပွဲ သွားရဦးမယ်၊ မူလက မင်းနဲ့ တွေ့ဆုံဖို့ အစီအစဉ်အတိုင်း တွေ့ရမယ်"

"ကျွန်မ တွေ့ဖို့အချိန်ကို ပြောင်းချင်တယ်၊ စောစောက ကြိုတွေ့ချင်တယ်၊ ကျွန်မပဲ ဒေါ်ချက်စတာ ဟိုတယ်ကို လာခဲ့မယ်"

"ဟာ မဖြစ်ဘူး၊ မင်းအတွက် အလွန်အန္တရာယ်များတယ်"

"ဒီမယ် ကျွန်မက မလာဘဲနေရင်များ ရှင်တို့အတွက် ပိုပြီး အန္တရာယ်များလိမ့်ဦးမယ်"

ဤသို့ ပြောပြီး ဗီရာသည် တယ်လီဖုန်းကို ပြန်ချလိုက်လေသည်။

ယခုတကြိမ်တွင် သူမသည် ဟိုတယ်မှ တယောက်တည်းလစ်ထွက်ရန် မကြိုးစားဘဲ ထုံးတမ်းစဉ်လာ အတိုင်း ထွက်ရန် စီစဉ်လေသည်။

သူမသည် လုံခြုံရေးအစောင့်နှစ်ဦးဖြစ်သူ အော်လီဖင်နှင့် မတ်ဂင်တီတို့အား မိမိ၏ မိတ်ဆွေမိသားစု အိမ်တအိမ်သို့ ခေတ္တ သွားလည်ပတ်လိုသည်ဟုဆိုကာ မော်တော်ကားတစီး စီစဉ်ခိုင်းလိုက်သည်။

ထိုအိမ်ကား စိန်ဂျိမ်းလမ်းရှိ သမ္မတကတော်၏ရင်းနှီးသောမိတ်ဆွေ ဂျက်နက်ဖာလေး (ကွယ်လွန်သူ) ၏ မိသားစု အိမ်ပင်ဖြစ်သည်။

ဗီရာ၏အကြံကား လုံခြုံရေးအစောင့်များနှင့်အတူ ထိုအိမ်သို့သွားပြီး ထိုအိမ်မှတဆင့် ပက်ထရစ် ခေါ် သူငယ်၏အကူအညီဖြင့် တယောက်တည်း လစ်ထွက်ရန်ပင်ဖြစ်သည်။ ယင်းအစီအစဉ်အတိုင်း သူမသည်

လုံခြုံရေးအစောင့်နှစ်ဦးနှင့်အတူ စိန်ဂျိမ်းလမ်းသို့ သွားလေသည်။

ဂျက်နက်ဖာလေးတို့အိမ် ရောက်သောအခါ လုံခြုံရေးအစောင့် အော်လီဖင်က ဗီရာနှင့်အတူ လိုက်ပါဆင်းလာလေသည်။

တံခါးဝသို့ ရောက်လျှင် ဗီရာက

"အခုဟာက ကျွန်မရဲ့မိတ်ဆွေ ဂျက်နက်ဖာလေး ကွယ်လွန်သွားတာကို လာပြီး သတင်းမေး အားပေးစကား ပြောဖို့ လာတာမို့ အချိန်ကြာမြင့်လိမ့်မယ်၊ တစ်နာရီခွဲလောက် ကြာချင် ကြာမယ်" ဟု ပြောလိုက်သည်။

လုံခြုံရေး အစောင့် အော်လီဖင်ကလည်း

"ကျွန်တော် စောင့်နေပါ့မယ်"

ဟု ပြောကာ တံခါး၏ အပြင်ဘက်တွင် ရပ်စောင့်နေလေသည်။

ထိုအခိုက် ပက်ထရစ်အမည်ရှိ သူငယ်က တံခါးလာဖွင့်ပေးသဖြင့် ဗီရာသည် အိမ်တွင်းသို့ လိုက်ဝင်သွားလေသည်။

ပက်ထရစ်က တံခါးကို ပြန်ပိတ်ထားလိုက်သည်။

ဗီရာသည် ပက်ထရစ်အား ယခုမှ ပထမဆုံးအကြိမ် တွေ့ဆုံခြင်း ဖြစ်သော်လည်း ဟန်ဆောင်လျက် အလွန်ရင်းနှီးစွာပင် စကားပြောလေသည်။

ပက်ထရစ်ကလည်း သူ့မိခင် ကွယ်လွန်သူ ဂျက်နက်ဖာလေး၏ အလွန် ခင်မင်ရင်းနှီးသော ဘီလီအစစ်ဟု ယုံကြည်လျက် စကားပြောလေသည်။

မိသားစုအကြောင်းများ စုံလင်စွာ ပြောဆိုကြပြီးနောက် ဗီရာက အဓိကအချက်ကို စပြောလေသည်။

"ဒါထက် ပက်ထရစ် တယ်လီဖုန်း ဆက်တုန်းက မင်းရဲ့အကူအညီ လိုတယ်လို ပြောခဲ့တယ် မဟုတ်လား။ အဲဒါက တခြား မဟုတ်ဘူးကွယ့်။ ငါ့မှာ တနေရာဆီသွားဖို့ ကိစ္စတခု ရှိနေတယ်။ အဲဒါကိုလည်း ဘယ်သူမှ မသိစေချင်ဘူး၊ ဒါက မဟုတ်တာလုပ်တဲ့ သဘောမျိုးလည်း မဟုတ်ဘူး။ အရေးကြီးတဲ့ လူတယောက်ကို သွားတွေ့ရုံပါပဲ၊ ခက်တာက အမေရိကန်သမ္မတကတော်ရဲ့ ဘဝ ဆိုတာက မလွယ်ဘူးကွယ့်။ သွားလေရာမှာ လုံခြုံရေး အစောင့်တွေက တကောက်ကောက် လိုက်ပါနေတယ်။ အခုလဲပဲ အိမ်ရှေ့မှာ သူတို့တွေက စောင့်နေကြတယ်။ ဒီတော့ ဒီအိမ်မှာပဲ ရှိနေတယ်လို့ သူတို့ထင်ပြီး စောင့်နေတုန်းမှာ ငါက သူတို့မသိအောင် တဘက်က ခဏ လစ်ထွက်သွားချင်တယ်၊ ပြီးတော့

တစ်နာရီအတွင်း ပြန်လာပြီး ဒီကနေပြီး လုံခြုံရေးအစောင့်တွေနဲ့ အတူ ဟိုတယ်ကို ပြန်သွားမယ်၊ ပက်ထရစ်က ကူညီစမ်းပါကွယ်"

ဤသို့ စည်းရုံးပြောပြီးနောက် ဗီရာသည် ပက်ထရစ်၏ အကူအညီဖြင့် အိမ်ဘေး ပန်းခြံထဲမှတဆင့် အပြင်ဘက်သို့ ထွက်လိုက်ရာ အိမ်ဘေးရှိ လမ်းတလမ်းသို့ ရောက်သွားလေသည်။

ထို့နောက် သူမသည် ဒေါ်ချက်စတာဟိုတယ်သို့ တက္ကစီကားတစီးဖြင့် သွားလေသည်။

ဟိုတယ်သို့ရောက်ရောက်ချင်း သူမသည် ဧည့်ခန်းရှိ ဓာတ်လှေကားဆီသို့ လျင်မြန်စွာ လျှောက်သွားပြီး ဓာတ်လှေကားမောင်းသူအား ဝန်ကြီးချုပ် ကီရင်ချင်ကို၏ အခန်းရှိရာသို့ ပို့ပေးရန် ပြောလိုက်သည်။

ဓာတ်လှေကားမောင်းသူက အံ့အားသင့်နေရာ ဗီရာက

"ကျွန်မနဲ့ ကြိုတင်ချိန်းထားပြီးသားပါရှင့်"

ဟု ပြောလိုက်သည်။ သည်တော့မှ ဓာတ်လှေကားမောင်းသူလည်း အပေါ်ထပ်သို့ လိုက်ပို့ပေးလေ သည်။

အပေါ်ထပ် စင်္ကြံတွင် လူလေးယောက် စကားပြောနေကြလေသည်။ ထိုလေးယောက်အနက် တယောက်ကို ဗီရာ ကောင်းစွာ မှတ်မိလေသည်။ ထိုသူကား ကာနယ် (ဗိုလ်မှူးကြီး) ဇုစ်ဆိုသူပင် ဖြစ်သည်။

ကာနယ်ဇုစ်သည် ဗီရာကိုမြင်လျှင် ရုတ်တရက် အံ့အားသင့်သွားသော်လည်း ဗီရာက ဝန်ကြီးချုပ် ကိုယ်တိုင်က သူမအားတွေ့ရန် စောင့်နေပါသည်ဟု ပြောလိုက်လေသည်။

ကာနယ်ဇုစ်သည် ဗီရာအား သီးသန့်အခန်းတခန်းသို့ ခေါ်သွားလေသည်။ ထိုအခန်း၏ အပြင်ဘက်တွင် ပေါ်လစ်ဗြူရိုအဖွဲ့ဝင် ဂါရာနင်ဆိုသူကို တွေ့ရလေသည်။

ဂါရာနင်က ဗီရာအား အပြစ်တင်သည့်ဟန်ဖြင့်

"ဒီမယ် ဗီရာ၊ မင်က ဝန်ကြီးချုပ်နဲ့ နောက်မှ တွေ့ရမယ်" ဟု ပြောလေသည်။

"ကျွန်မ တယ်လီဖုန်းဆက်ပြီးသားပါရှင့်၊ အခုပဲ တွေ့ရမှ ဖြစ်မယ်၊ စီစဉ်ပြီးပါပြီ"

"ဒါဖြင့် ခဏနေပါဦး၊ ဝန်ကြီးချုပ်ကို သွားမေးကြည့်ပါဦးမယ်"

ပြောပြောဆိုဆို ဂါရာနင်သည် အတွင်းဘက် အခန်းတခန်းသို့ ဝင်သွားလေသည်။

ခဏမျှ ကြာသော် သူသည် ပြန်ထွက်လာလေသည်။

"ဝန်ကြီးချုပ်က မင်းကို ခဏလေး တွေ့ဖို့ သဘောတူတယ်၊ သူက စိတ်ဆိုးနေပုံရတယ်"

"ကျွန်မကလည်း စိတ်တိုနေတာပါပဲ"

ဗီရာက ဘုကျကျပင် ပြန်ပြောလိုက်လေသည်။

"မင်း ဒီမှာပဲ စောင့်နေပါ၊ ဝန်ကြီးချုပ် ထွက်လာပါလိမ့်မယ်"

ခဏမျှ အကြာတွင် ဝန်ကြီးချုပ်ကီရင်ချင်ကို ထွက်လာသည်။

"ဗီရာ မင်းဟာ အခုလိုလာတာ အလွန် အန္တရာယ်များလှတယ်၊ ဒီကို မင်းလာဖို့ လုံးဝ မသင့်ဘူး"

ဝန်ကြီးချုပ်က စတင်ပြောရာ ဗီရာက

"ကျွန်မကလည်း သေရေးရှင်ရေးတမျှ အရေးကြီးနေလို့ စွန့်စားလာခဲ့ရတာပေါ့ ဝန်ကြီးချုပ်ရှင့်"

ဟု ပြန်ပြောလိုက်သည်။

"ကဲ တို့သိချင်တဲ့ လျှို့ဝှက်ချက်တွ သိခဲ့ရပြီလား"

"ဟုတ်ကဲ့ သိခဲ့ရပါပြီ"

"ဒါဖြင့် ခဏနေဦး၊ ဗိုလ်ချုပ်ကြီး ချူးကော့ဗ်စကီးကိုလည်း ခေါ်လိုက်ဦးမယ်"

"မခေါ်ပါနဲ့၊ ကျွန်မ အခု ပြောမယ့်စကားကို ဝန်ကြီးချုပ်တယောက်တည်းနဲ့ပဲ ပြောချင်တယ်"

"ဒါဖြင့်လဲ ကောင်းပါပြီ၊ မင်း အခုရလာတဲ့သတင်းက အမေရိကန် သမ္မတဆီက တိုက်ရိုက် ရခဲ့တာလား"

"ဟုတ်ကဲ့ သမ္မတဆီက ရခဲ့တာပါ၊ ညက သူနဲ့ကျွန်မအိပ်ပြီးတော့ သူက

ပြောခဲ့တာပါ၊ သူက အမှန်အတိုင်း ပြောတာပဲလို့ ယူဆမိပါတယ်"

"ကောင်းပြီ၊ ထိပ်သီးဆွေးနွေးပွဲမှာ အမေရိကန်ဘက်က ဘယ်လို ကြံစည်နေတယ်ဆိုတာ ငါ သိချင်တယ်။ မင်းသိခဲ့ရသလောက်ကို ပြောပြစမ်း"

"ကျွန်မက ပြောမပြနိုင်ဘူးရှင့်"

ဗီရာ၏ စကားကြောင့် ဝန်ကြီးချုပ်သည် အံ့အားသင့်သွားလေသည်။

ဗီရာက ခပ်တည်တည်ပြောလိုက်သည်ကို ဝန်ကြီးချုပ် ကီရင်ချင်ကိုသည် သူ့ကိုယ်သူ နားကြားလွဲ သွားလေသလားဟုလည်း ထင်လိုက်မိလေသည်။

"မင်း ဘာပြောလိုက်တာလဲ"

"ကျွန်မ စုံစမ်းသိရှိခဲ့ရတဲ့ လျှို့ဝှက်ချက်ကို ကျွန်မက ရှင့်ကို ပြောမပြနိုင်ဘူးလို့ ပြောတာပါ"

"ဘာကွ၊ မင်းက ငါ့ကို ပြောမပြဘူးလား"

ဝန်ကြီးချုပ်က မယုံနိုင်ဟန်ဖြင့် ထပ်မေးလိုက်သည်။

"ဟုတ်တယ်၊ ကျွန်မက ရှင့်ကို ပြောမပြနိုင်ဘူး၊ ပြောပြလိုက်ရင် ကျွန်မကို သေဒဏ်ပေးတဲ့ သေမိန့်ပေးသလို ဖြစ်သွားလိမ့်မယ်"

"ဗီရာ မင်းက ဘာတွေ လျှောက်ပြောနေတာလဲ၊ ဘာသေဒဏ်လဲ၊ ရှင်းရှင်းပြောစမ်းပါ"

ဝန်ကြီးချုပ်ကီရင်ချင်ကိုက နားမလည်ဟန်ဖြင့် ထပ်မေးရာ ဗီရာသည် အလွန်စိတ်နာကျည်းဟန်ဖြင့် ပွင့်လင်းစွာ ပြောလေတော့သည်။

"ရှင်တို့ ဘယ်လိုကြံထားတယ်ဆိုတာကို ကျွန်မ သိပါတယ်၊ ခိုင်လုံတဲ့နေရာက ကျွန်မ သတင်း ရခဲ့တယ်၊ ထိပ်သီးဆွေးနွေးပွဲမှာ အမေရိကန်ဘက်က လျှို့ဝှက်အကြံအစည်တွေကို ကျွန်မက ရှင်တို့ကို ပြောပြလိုက်ပြီးတာနဲ့ ကျွန်မ သေရလိမ့်မယ်၊ ကျွန်မက ရှင်တို့ရဲ့အတွင်းရေးတွေကို သိနေတော့ ကျွန်မ အသက်ရှင်နေဖို့ စိတ်မချရတော့ဘူး မဟုတ်လား၊ ဒါကြောင့် ရှင်တို့ရဲ့ ကေ-ဂျီ-ဘီ အဖွဲ့က ဒီနေ့ညပဲ သုတ်သင်ကွပ်မျက်ဖို့ အစီအစဉ်ရှိတယ်ဆိုတာကို ကျွန်မက သိနေပြီရှင့်"

ဗီရာ၏စကားကြောင့် ဝန်ကြီးချုပ် ကီရင်ချင်ကိုသည် အလွန် အံ့အားသင့်သွားမိလေသည်။

"ဟာ... မင်းကလည်း မဟုတ်တာတွေ ပြောနေပြန်ပြီ၊ ဒါကို မင်းက ဘယ်က ကြားခဲ့သလဲ"

"အမေရိကန်သမ္မတအိမ်တော်ဝင်းအတွင်းက သမ္မတရဲ့ ရုံးအဖွဲ့ဝင်တဦးဆီကတဆင့် ကြားခဲ့ရတယ်"

"နေပါဦး မင်းက ဘယ်လိုလုပ်ပြီး သမ္မတရဲ့ ရုံးအဖွဲ့ဝင်နဲ့ ဆက်သွယ်ရတာလဲ"

"ကျွန်မက အမေရိကန်သမ္မတကတော်နေရာ ရောက်နေတယ် မဟုတ်လားရှင့်"

"ဒါတော့ ဟုတ်ပါတယ်၊ ဒါပေမဲ့ မင်းကြားခဲ့တဲ့သတင်းက မဟုတ်ပါဘူး၊ အမေရိကန်တွေက မင်းကို သက်ာမကင်း ဖြစ်လာပြီး မင်းက ငါတို့ဘက်ကို လျှို့ဝှက်သတင်းပေးမှာ စိုးတဲ့အတွက် လုပ်ကြံ ခြေထိုးတဲ့ သတင်းလွှင့်တာ ဖြစ်မယ်ဒီမယ်၊ ဗီရာ မင်းသိခဲ့တာတွေကိုသာ ငါ့ကို ပြောပြစမ်းပါ၊ မင်းကို ငါတို့က အကြီးအကျယ် ဆုလာဘ်ချီးမြှင့်ပါ့မယ်၊ ကိုင်း အခုပဲ ငါ့ကို ပြောပြပေတော့"

"ကျွန်မ ရှင့်ကို စိတ်မချဘူး"

ဗီရာက ဤသို့ ပြောလိုက်ရာ ဝန်ကြီးချုပ်ကီရင်ချင်ကိုသည် ရုတ်တရက် ဒေါသထွက်မိသော်လည်း စိတ်ကို ပြန်ချုပ်လိုက်ဟန်တူသည်။

"ဒီမယ် ရဲဘော်ဗီရာ၊ မင်းဟာ ငါ့ကို စော်ကားသလို စကားမျိုး ပြောနေတယ်၊ မင်းက ငါ့ကို စိတ်ချအောင် အကျပ်ကိုင်ရမလို ဖြစ်နေပြီ၊ မင်းသိထားတာတွေကို မရရအောင် အတင်းညှစ်ထုတ် ယူလို့ ရတဲ့နည်းတွေ ရှိတယ်၊ နားလည်လား"

ခြိမ်းခြောက်၍ ပြောလိုက်ခြင်း ဖြစ်သော်လည်း ဗီရာသည် ကြောက်လန့်ပုံ မရချေ။

"ရှင်တို့က ကျွန်မကို လုပ်ချင်သလိုလုပ်နိုင်တယ်၊ ရှင့်ပတ်ဝန်းကျင်မှာ နှိပ်စက်ညှဉ်းပန်းတတ်တဲ့ လူတွေ၊ လူသတ်သမားတွေ အများကြီးရှိတယ်ဆိုတာ ကျွန်မသိပါတယ်၊ ဒါပေမဲ့ ရှင်တို့က ကျွန်မကို သတ်ရင် အမေရိကန်တွေရဲ့လျှို့ဝှက်အကြံအစည်တွေကို မသိရဘဲ ကျွန်မသေတဲ့ဆီ ပါသွားမှာပဲ၊ ဒါကြောင့် ကျွန်မက ရှင့်ကို မကြောက်ဘူး"

ဝန်ကြီးချုပ် ကီရင်ချင်ကိုသည် ရုတ်တရက် ဘာမှမပြောဘဲ ခေတ္တ စဉ်းစားနေပြီးနောက် တစုံတခု ဆုံးဖြတ်ချက် ချလိုက်ဟန်ဖြင့် သက်ပြင်းတချက်

ချလိုက်သည်။

"ကဲ ရဲဘော်ဗီရာ၊ မင်းဟာ အလွန်စိတ်ခ‌ေတ် ခိုင်မာပြင်းထန်တဲ့ အမျိုးသမီးတယောက်ဖြစ်တယ်၊ ဒါကြောင့် မင်းကို ငါက အနိုင်ပေးပါတယ်၊ မင်းပြောတာလဲ မှန်ပါတယ်၊ ကေ-ဂျီ ဘီ အကြီးအကဲ ဗိုလ်ချုပ်ကြီး ပီထရော့ဖ်ရဲ့မူလအစီအစဉ်က ကိစ္စပြီးရင် မင်းကို သုတ်သင်ကွပ်မျက်ဖို့ ရည်ရွယ်ထားတယ်၊ ဒါကို ငါက သဘောမကျပေမယ့် ဟိုတုန်းကတော့ မကန့်ကွက်ခဲ့ဘူး၊ ဒါပေမဲ့ အခု ငါဒီအမိန့်ကို ပြင်ဆင်ပေးပါ့မယ်၊ မင်းကို ကွပ်မျက်ဖို့အမိန့်ကို ငါက ပက်ဖျယ်ပေးပါ့မယ်၊ မင်းရဲ့အသက်အန္တရာယ် လုံးဝမရှိစေရပါဘူးလို့ ငါကိုယ်တိုင် အာမခံချက်ပေးပါတယ်"

"အဲဒီအာမခံချက် ခိုင်လုံကြောင်း အထောက်အထား လိုချင်ပါတယ်"

"ဘယ်လိုခိုင်လုံတဲ့ အထောက်အထားမျိုးလဲ၊ မင်းလိုချင်တာ စဉ်းစားလို့ရသလား"

"အခုတော့ စဉ်းစားလို့ မရသေးပါဘူး"

"ဒါဖြင့် ငါတခုစိတ်ကူးလို့ရတယ်၊ မင်းအနေနဲ့ ကြားနိုင်ငံတခု (ဆွီဒင် သို့မဟုတ် ဆွစ်ဇာလန်နိုင်ငံ)ကို သွားဖို့ ပြည်ဝင်ဗီဇာ ကြိုတင် ထုတ်ပေးပါမယ်၊ အဲဒီနိုင်ငံမှာ မင်းလွတ်လပ်စွာ နေနိုင်ဖို့ ငွေကြေး ရန်ပုံငွေလည်း လုံလောက်အောင် ပေးပါမယ်၊ အဲဒါကို ဘယ်လို သဘောရသလဲ"

"ဒါလဲ တယ်ပြီး စိတ်မချရဘူး၊ ရှင်တို့ရဲ့လူသတ်သမားတွေက ကျွန်မနောက်ကို ခြေရာခံလိုက်ပြီး သတ်ပစ်ရင် ရနိုင်တယ်၊ ကျွန်မအသက် အန္တရာယ်အတွက် ဒါထက်ပိုပြီး လုံခြုံစိတ်ချရတဲ့နည်းမှ ဖြစ်မယ်"

ဗီရာ၏စကားကို ဝန်ကြီးချုပ်သည် ရုတ်တရက် ပြန်မပြောနိုင်ဘဲ အတန်ကြာအောင် ဆိတ်ဆိတ်နေ၍ စဉ်းစားနေပြလေသည်။

ထို့နောက် အကြံတခု ရလာပြန်လေသည်။

"ဒီမယ် ဗီရာ၊ မင်းက အခု အမေရိကန်သမ္မတကတော်နေရာ ဝင်ပြီး ဟန်ဆောင်နေတာကို အားလုံး လက်ခံနေကြတယ် မဟုတ်လား"

"ဒါတော့ ဟုတ်ပါတယ်၊ အားလုံးကပဲ ကျွန်မကို သမ္မတကတော် အစစ်အဖြစ် လက်ခံနေကြပါတယ်"

"ဒီတော့ မင်းက အမြဲတမ်း ရာသက်ပန် အမေရိကန် သမ္မတကတော်အဖြစ် ဆက်ပြီး နေသွားရရင်ကော သဘောမကျဘူးလား၊ ဘယ်လို သဘောရသလဲ"

ထိုစကားကို ဗီရာသည် စဉ်းစားနေမိလေသည်။

အမေရိကန်သမ္မတဘရက်ဖို့ဒ်၏ ဇနီးအဖြစ် ရာသက်ပန် အမြဲနေသွားရမည်ဆိုလျှင် အန္တရာယ်မရှိဘဲ လုံခြုံစိတ်ချရမည်မှာ အမှန်ဖြစ်သည်။ သမ္မတဘရက်ဖို့ဒ်ကလည်း အတူနေ၍ ပေါင်းသင်းဆက်ဆံရ လွယ်ကူသည့် လူတယောက်ဖြစ်သည်။ မိမိ၏ချစ်သူ ရာဇင်ကို ချစ်သလို သမ္မတ ဘရက်ဖို့ဒ်အား ချစ်မြတ်နိုးရန် ခဲယဉ်းသော်လည်း အမေရိကန်သမ္မတကတော်အဖြစ် နေရသည့်ဘဝက ဂုဏ်သိက္ခာ ရှိပြီး အလွန်သာယာ ကြည်နူးဖွယ်ကောင်းသည်မှာ အမှန်ဖြစ်သည်။ မိမိအနေဖြင့် အလွန် ဝါသနာပါသော ပြဇာတ်မင်းသမီးအလုပ်ကို ရာသက်ပန် စွန့်လွှတ်ရမည် ဖြစ်လေသည်။

"နေပါဦးရှင့်၊ ကျွန်မက ဘယ်လိုလုပ်ပြီး အမေရိကန် သမ္မတကတော် (ဖတ်စ်လေဒီ) အဖြစ် ရာသက်ပန် နေနိုင်မှာလဲ"

"ဒါက လွယ်ပါတယ်၊ တကယ့်သမ္မတကတော်အစစ် ဘီလီကို ငါတို့က သုတ်သင်ကွပ်မျက်လိုက်ရင် မင်းတယောက်တည်းပဲ ကျန်တော့မယ် မဟုတ်လား၊ ဒါဟာ မင်းအတွက် အကောင်းဆုံး အာမခံချက်ပဲ"

ထိုစကားကိုကြားလျှင် ဗီရာသည် တုန်လှုပ်ချောက်ချားမိလေသည်။

"ကျွန်မက လူသတ်တာကိုတော့ သဘောမကျဘူး"

"ဒီမယ် ဗီရာ၊ လောကမှာ လူတွေဟာ မိမိအသက်ရှင်ရေးကိုသာ အဓိက ထားရမယ် မဟုတ်လား၊ ဒီအမျိုးသမီးဟာ တနေ့ကျရင် သဘာဝအလျောက် သေရမှာပဲ၊ နှလုံးရောဂါ၊ ကင်ဆာရောဂါလို ရောဂါတခုခုနဲ့ သေရမှာ သေချာတယ်။ အခု ကျုပ်တို့က သဘာဝအလျောက် မသေခင် မြန်မြန်သေအောင် လုပ်ပေးတဲ့ သဘောပါပဲ၊ လုံးဝ ဝေဒနာမခံစားရဘဲ အမြန်ဆုံး သေတဲ့နည်းနဲ့ လုပ်မှာပါ၊ ဒါကိုကော မင်းက ဘာပြောချင်သလဲ"

"ကျွန်မကတော့ ဘာပြောရမှန်းတောင် မသိပါဘူး"

"မင်းက ခိုင်လုံစိတ်ချရတဲ့ အာမခံချက်ကို လိုချင်တယ်မဟုတ်လား၊ ဒီနည်းဟာ တကယ်ခိုင်လုံတဲ့ အာမခံချက်ပဲ"

"ခိုင်လုံတာကိုတော့ ကျွန်မ လက်ခံပါတယ်"

"ဒါဖြင့် ဘာပြောစရာလိုသေးသလဲ၊ ကျုပ်တို့က သမ္မတကတော်အစစ် ဘီလီကို ဘယ်သူမှ မသိအောင် သုတ်သင်လိုက်မယ်"

"ဘယ်တော့ လုပ်မှာလဲ"

"နှစ်ဆယ့်လေးနာရီအတွင်း လုပ်မယ်၊ သူ သေသွားပြီဆိုရင် မင်းအတွက် ဘာအန္တရာယ်မှ မရှိတော့ဘူး၊ မင်း အခုရထားတဲ့ လျှို့ဝှက်သတင်းကို ကျုပ်ကို ပြောပြရုံပဲ၊ ဘယ့်နှယ့်လဲ သဘောတူတယ် မဟုတ်လား"

ဗီရာသည် သမ္မတကတော်အစစ် ဘီလီအတွက် စိတ်မကောင်းဖြစ်မိသော်လည်း ဝန်ကြီးချုပ် ပြောသလို မိမိအသက်ရှင်ရေးကို ဦးစားပေး စဉ်းစားရမည်ဟု စိတ်ထဲမှ ဆုံးဖြတ်လိုက်လေသည်။

"ကောင်းပြီလေ၊ ကျွန်မ လက်ခံပါမယ်၊ ဒါပေမဲ့ တခုတော့ ကျွန်မ တောင်းဆိုချင်ပါတယ်"

"ဘာတောင်းဆိုချင်တာလဲ"

"သမ္မတကတော်အစစ် သေဆုံးသွားပြီဆိုတာ သေချာအောင် အထောက်အထားတခုခု ပြမှ ဖြစ်မယ်"

"ဗီရာကလည်း ဒီအထိအောင်ပဲ သံသယ ရှိနေသေးတာကိုး၊ ကောင်းပြီလေ၊ ဘီလီသေသွားပြီးရင် သူ့အလောင်းကို ဓာတ်ပုံရိုက်ပြီး မော်စကိုမြို့ကနေ လန်ဒန်ရောက်အောင် ပို့ခိုင်းပြီး မင်းကို ပြပါမယ်၊ ဒီလိုဆိုရင်ကော မင်း ကျေနပ်မှာလား"

"ကျေနပ်ပါမယ်"

"ဒါဖြင့် နက်ဖြန်ကျရင် မင်း ဓာတ်ပုံတွေကို ကြည့်ရစေမယ်"

ထိုအခိုက် ဗီရာသည် ချစ်သူ ရာဇင်အား သတိရမိပြန်လေသည်။ သူမအနေဖြင့် အမေရိကန်သမ္မတ ကတော်အဖြစ် ရာသက်ပန် နေသွားရတော့မည်ဖြစ်ရာ မိမိ၏ဘဝသည် ရုံဖန်ရံခါ ငြီးငွေ့ဖွယ်ရာ ဖြစ်လိမ့်မည်ဟု တွေးမိလေသည်။ အထူးသဖြင့် ချစ်သူ ရာဇင်နှင့် တသက်လုံး တွေ့ဆုံခွင့် မရတော့သည်ကိုတော့ စဉ်းစားမိလေသည်။

ထို့ကြောင့် သူမသည် ဝန်ကြီးချုပ် ကီရင်ချင်ကိုကို စျေးဆစ်သလို အခွင့်အရေးတခု တောင်းဆိုရန် ဆုံးဖြတ်လိုက်လေသည်။

"ရှင်တို့က ဘီလီ သေဆုံးတာကို အထောက်အထားနဲ့ လန်ဒန်မြို့အရောက် သယ်ယူခဲ့မှာ မဟုတ်လား"

"ဟုတ်တယ်၊ အထူးလေယာဉ်တစီးနဲ့ လူတစ်ယောက်ကို တာဝန်ပေးပြီး သယ်ယူခဲ့မယ်"

"ဒါဖြင့် သယ်ယူလာမယ့်သူကို ကျွန်မ ရွေးချယ်ပေးချင်ပါတယ်"

"ကောင်းပြီး မင်းကြိုက်တဲ့လူကိုသာ ပြောပါ"

"ကေ-ဂျီ-ဘီ အဖွဲ့က မစ္စတာရာဇင်ကို ရွေးချယ်ပြီး တာဝန်ပေးစေချင်ပါတယ်"

ဤတွင် ဝန်ကြီးချုပ် ကီရင်ချင်ကိုသည် အံ့အားသင့်သွားလေသည်။

"ရာဇင်ဆိုတာ မင်းကို လေ့ကျင့်သင်ကြားပေးခဲ့သူ မဟုတ်လားဟင်"

"ဟုတ်ပါတယ်၊ သူဟာ ကျွန်မရဲ့မိတ်ဆွေတဦးဖြစ်ပါတယ်၊ သူ့ကို ကျွန်မ လုံးဝ ယုံကြည်စိတ်ချတယ်၊ ပြီးတော့ ရာဇင်က ကျွန်မ အမေရိကန်ပြည် လာခွင့်ရအောင်လဲ လုပ်မယ်။ ဒါမှ ကျွန်မက အမြဲတမ်း အမေရိကန်မှာ နေရတဲ့အခါ ကိုယ်နဲ့ ရင်းနှီးတဲ့ မိတ်ဆွေတယောက်အဖြစ် သူနဲ့ တခါတခါ စကားပြောခွင့် ရမယ်"

"ဒီလိုဆိုရင် မင်းက အမေရိကန်မှာ နေရတဲ့ဘဝမှာ ပြဿနာ ရှုပ်ထွေးလာနိုင်တယ်"

"ဒီလိုမဖြစ်အောင် လုပ်မှာပေါ့၊ ဘာပဲဖြစ်ဖြစ် သမ္မတကတော် ဘီလီ သေဆုံးကြောင်း အထောက်အထား ဓာတ်ပုံတွေကို ရာဇင်ကိုယ်တိုင် ယူလာမှ ကျွန်မ လက်ခံနိုင်မယ်။ နက်ဖြန် သူရောက်လာလို့ ကျွန်မနဲ့ တွေ့ရပြီး ဘီလီ အမှန်သေဆုံးကြောင်း သိရရင် ကျွန်မက ရှင်တို့လိုချင်တဲ့ လျှို့ဝှက်ချက်သတင်းကို ပေးနိုင်မယ်။ ဒါက ကျွန်မဘက်က တာဝန်ပါ၊ ရှင်တို့ဘက်ကလည်း တာဝန်ကျေအောင် လုပ်ပြဖို့လိုတယ်"

"ကျုပ်ဘက်က တာဝန် လုပ်ပါမယ်၊ နက်ဖြန်မနက်ဆိုရင် သမ္မတကတော်အစစ် ဘီလီဟာ သေဆုံးဖို့ သေချာပါတယ်"

ဝန်ကြီးချုပ် ကီရင်ချင်ကိုက ပြောရင်း ထိုင်ရာမှ ထလိုက်သည်။

*

# အခန်း (၁၁)

သတင်းစာဆရာ ပါကာသည် သမ္မတကတော်၏ သွားလာလှုပ်ရှားမှုကို လေ့လာ အကဲခတ် ကြည့်နေသဖြင့် လုံခြုံရေးအစောင့်နှစ်ဦးနှင့်အတူ ဟိုတယ်မှ ထွက်သွားသည်ကို လှမ်းမြင်လိုက်ရလေ သည်။

သမ္မတဇနီးမောင်နှံ၏ဟိုတယ်ခန်းတွင် တာဝန်ကျနေသူ လုံခြုံရေး အစောင့်အား မေးကြည့်သော အခါ သမ္မတကတော်သည် သူနှင့် ရင်းနှီးသော မိတ်ဆွေတဦးအိမ်သို့ အလည်သွားခြင်းဖြစ်ကြောင်း သိရလေသည်။

သို့သော် ပါကာအနေဖြင့် သမ္မတကတော် (အတု) သည် မိတ်ဆွေအိမ်သို့ သွားခြင်းမဟုတ်၊ သူမအား သုတ်သင်ကွပ်မျက်မည့်အကြောင်း သတင်းရသဖြင့် ဆိုဗီယက်အဖွဲ့မှ ပုဂ္ဂိုလ် ခပ်ကြီးကြီးတဦးထံ သွားတွေ့ခြင်း ဖြစ်ရမည်ဟု ပါကာက တွက်မိလေသည်။ ယခု သူမတွင် အမေရိကန်ဘက်မှ လျှို့ဝှက်ချက်များ ရရှိထားပြီဖြစ်၍ ဆိုဗီယက် အာဏာပိုင်များနှင့် စကားပြောရာ၌ ဈေးကိုင်နိုင်သည့် အခြေအနေမျိုး ရှိနေပြီဟုလည်း တွေးမိလေသည်။

ပါကာသည် စိတ်ရှည်ရှည်နှင့် စောင့်ကြည့်နေရာ တစ်နာရီခန့်ကြာသော် ဗီရာ ပြန်ရောက်လာသည်ကို တွေ့ရလေသည်။ သူမ၏ မျက်နှာအမူအရာမှာ စောစောကလို စိတ်ခေတ်ကျနေပုံမျိုး မဟုတ်တော့ဘဲ ရွှင်လန်း အားတက်နေသည့်ပုံမျိုး ဖြစ်နေလေသည်။ ဗီရာသည် လုံခြုံရေးအစောင့်များနှင့်အတူ သူမ၏ ဟိုတယ်ခန်းဆီသို့ တောက်လျှောက်သွားလေရာ ပါကာကလည်း ပြန်ကြားရေးမှူး နီရာထံသို့ ချက်ချင်းသွားတွေ့လေသည်။

ထိုအချိန်၌ နီရာသည် တယ်လီဖုန်းစကားပြောနေလေသည်။

"ဟေ့ နီရာ တို့ရဲ့စက္ကင်းလေဒီက မသေသေးဘူးကွ"

ပါကာက ပြောလိုက်ရာ နီရာက တယ်လီဖုန်းကို ပြန်ချလိုက်ရင်း ခေါင်းညိတ်ပြလေသည်။

"သိပါတယ်၊ အခုပဲ ပြန်ရောက်လာတယ်။ သူက အစီအစဉ်တချို့ ပြောင်းချင်လို့ ကျွန်မကို လှမ်းခေါ်နေတယ်။ အခု ကျွန်မ သူ့ဆီကို သွားရမယ်ရှင့်"

ပြောရင်း နီရာသည် မှတ်စုစာအုပ်နှင့် ခဲတံများယူပြီး ထလိုက်သည်။

"အခြေအနေကိုလည်း အကဲခတ်ကြည့်ခဲ့ပါဦး"

ပါကာက ပြောလိုက်လျှင် နိုရာသည် ခေါင်းညိတ်၍ သမ္မတကတော်၏အခန်းသို့ ထွက်သွားလေသည်။

ပါကာသည် နိုရာ၏ရုံးခန်းတွင်ပင် စကြံလျှောက်နေရင်း စဉ်းစားနေမိလေသည်။ သမ္မတကတော် အစစ် ဘီလီ၏ နေရာတွင် လူစားဝင်ကာ ဟန်ဆောင်နေသူ ဗီရာအနေဖြင့် လက်ရှိအခြေအနေ၌ ဘာလုပ်မည်နည်းဟု တွေးကြည့်မိသည်။ မိမိအနေဖြင့် ယခုအချိန်မှစပြီး ဗီရာ သွားလေရာနောက်သို့ ခြေရာခံလိုက်ကြည့်ရန်လည်း ဆုံးဖြတ်လိုက်လေသည်။

ခဏမျှအကြာတွင် နိုရာသည် ပြန်ရောက်လာပြီး

"ကျွန်မတို့ အလုပ်လုပ်နေတုန်း သံတမန်ဌာနက ဝီလီဆိုတဲ့လူက ရုတ်တရက် ရောက်လာပြီး သမ္မတကတော်နဲ့ အရေးတကြီး ကိစ္စရှိတယ် ဆိုတာနဲ့ ကျွန်မလည်း ရှောင်ထွက်ခဲ့ရတယ်ရှင့်" ဟု ပြောလေသည်။

ဤတွင် ပါကာ ချက်ချင်း မယုံသင်္ကာ ဖြစ်လာမိသည်။ သံတမန် ဌာနမှ ဝီလီက ဘာကိစ္စ သမ္မတကတော်အား အရေးတကြီး လာတွေ့ရလေသနည်း။

ထို့ကြောင့် သူသည် သမ္မတကတော်၏အခန်းတံခါးဝနားသို့ အသာသွား၍ အပြင်ဘက်မှ နားထောင်ကြည့်လေသည်။

တံခါးက အနည်းငယ်ဟနေသဖြင့် အတွင်းမှ အသံကို ကြားနေရလေရာ ဝီလီ၏အသံကိုကြားလျှင် အလွန် အံ့အားသင့်သွားမိသည်။

ထိုအသံမှာ လက်ဒ်ဘာရီဆိုင်အတွင်း သူ ပုန်းနေစဉ်က လက်ဒ်ဘာရီနှင့် အင်္ဂလိပ်လို စကား ပြောခဲ့သူ၏အသံ ဖြစ်နေသောကြောင့်ပင်တည်း။ အမေရိကန် သမ္မတရုံး သံတမန်ရေးရာဌာနမှ အရာရှိ ဝီလီသည် ဆိုဗီယက်သူလျှို ဖြစ်နေပါတကား။

ဝီလီ၏အသံကို နားစွန်နားဖျား ကြားနေရလေသည်။

"နောက်တစ်နာရီကြာရင် ခါတိုင်းနေရာကပဲ ရေဒီယိုနဲ့ ဆက်သွယ်ကြမယ်။ ဒီသတင်းက ကျုပ်ဆီ အခုပဲ ရောက်လာတယ်"

ပါကာသည် လျင်မြန်စွာ နိုရာထံသို့ ပြန်လာခဲ့လေသည်။

"လက်စသတ်တော့ ဝီလီက သူတို့လူဖြစ်နေတာကိုး"

"ဟင် ဟုတ်နိုင်ပါ့မလားရှင့်"

"ဟုတ်တယ်၊ ဝီလီကိုယ်တိုင်က ဗီရာကို အတွင်းကျကျ စကားပြောနေတယ်၊ နောက်တစ်နာရီကြာရင် သတင်းပို့မယ်ဆိုလားပဲ၊ အဲဒါ မော်စကိုမြို့ကို သတင်းပို့တာ ဖြစ်ရမယ်၊ ကျုပ်တော့ အတိအကျ သိရအောင် သွားစုံစမ်းမှဖြစ်မယ်"

"ရှင် ဘယ်ကိုသွားမှာလဲ"

"လက်ဒ်ဘာရီရဲ့ဆိုင်ကိုသွားမယ်၊ သူတို့မရောက်ခင် ကျုပ်က ကြိုတင်ပြီး သွားပုန်းနေမှ ဖြစ်မယ်"

*

ပါကာသည် လက်ဒ်ဘာရီဆိုင်ဘက်သို့ ထွက်လာရင်း သူ့အနေဖြင့် ဒုတိယအကြိမ် ထိုဆိုင်သို့ သွားခြင်းသည် အလွန်အန္တရာယ်များလှကြောင်းကို တွေးမိလေသည်။

သို့သော် မသွား၍မဖြစ်ချေ။ မိမိတို့ သံသယဖြစ်ရာမှ တကယ်သိရှိရသည့် သမ္မတကတော် အတုအကြောင်းကို သမ္မတဘရက်ဖို့ဒ် ကိုယ်တိုင်က လက်မခံဘဲ နေသဖြင့် ခိုင်လုံသော အထောက်အထား ပြနိုင်မှဖြစ်မည်။ ထို့ကြောင့် လက်ဒ်ဘာရီဆိုင်သို့ စွန့်စား၍ ထွက်လာရခြင်း ဖြစ်လေသည်။

ဆိုင်သို့ ရောက်သောအခါ မည်သူမှမရှိကြောင်း တွေ့ရသဖြင့် ပါကာသည် အသင့်ပါလာသော သော့တူဖြင့် အခန်းတံခါးကို ဖွင့်လိုက်ပြီး အသာတံခါးကို ပြန်ပိတ်ထားလိုက်လေသည်။

သူ၏ရည်ရွယ်ချက်ကား အကယ်၍ မော်စကိုမြို့သို့ သတင်းပို့သည် လျှို့ဝှက်ချက် ဝိုင်ယာလက် စက်သည် ဤဆိုင်အတွင်း၌ ရှိလျှင် သတင်းပို့နေသည်ကို အသေအချာ သိရှိရန်ပင်ဖြစ်သည်။

ထို့နောက် မှောင်နေသော အပေါ်ထပ်သို့တက်၍ မှောင်ထဲမှာပင် လက်နှင့် စမ်းသွားပြီး ယခင်တကြိမ်က ပုန်းခဲ့သော အမျိုးသမီးဝတ်စုံများ၏ ကြားထဲတွင် ဝင်ပုန်းနေလိုက်လေသည်။

ပါကာ စိတ်ရှည်ရှည်ဖြင့် စောင့်ရန် ဆုံးဖြတ်ထားပြီးဖြစ်သည်။

အတန်ကြာသောအခါ အောက်ထပ်မှ တံခါးမကြီးဖွင့်သံနှင့် လူဝင်လာသည့်ခြေသံများ ကြားရလေ သည်။ လူနှစ်ယောက်၏ခြေသံဖြစ်သည်။ မရေးမနှောင်းမှာပင် နောက်ထပ်လူများ ဝင်လာသံကို ကြားရလေသည်။

ခြေသံများသည် ပါကာ ပုန်းနေသော ရုံးခန်းတွင်းသို့ ဝင်လာပြီး မကြာမီ ရုံးခန်း၏ လျှပ်စစ်မီးများ လင်းလာလေသည်။ ပါကာသည် ပုန်းနေရာမှ ထွက်မကြည့်ဝံ့သဖြင့် အသံများကိုသာ နားစိုက် ထောင်နေလေသည်။

ထိုအခိုက်မှာပင် ဝီလီ၏ အသံကို ကြားရလေသည်။

"ဒီမယ် လက်ဒ်ဘာရီ၊ ဘာဂီနော့ဗ်နဲ့ ဖီဒင်တို့ ကျုပ်အခုပြောမယ့်စကားက သိပ်အရေးကြီးတယ်၊ ဒါကြောင့် ခင်ဗျားတို့ ဂရုစိုက်ပြီး နားထောင်ကြပါ။ ကျုပ် အခုရခဲ့တဲ့သတင်းက ထိပ်တန်း အာဏာပိုင်တွေဆီက ရလာတဲ့သတင်း ဖြစ်တယ်။ မူလအကြံအစည်တွေကို တမျိုးပြင်လိုက်တယ်၊ ကျုပ်တို့က အမြန်ဆုံး လှုပ်ရှားရမယ်လို့လဲ ညွှန်ကြားလိုက်တယ်။ အခု ကျုပ်တို့ ဆွေးနွေးပြီးလို့ လူချင်းခွဲလိုက်တာနဲ့ ဖီဒင်က ဝိုင်ယာလက်နဲ့ သတင်းပို့ရမယ်"

"ကျုပ်က အဆင်သင့်ပါပဲ"

ပြောလိုက်သူမှာ ဖီဒင်ဖြစ်ဟန်တူသည်။

ထိုအခါ လက်ဒ်ဘာရီ၏အသံကို ကြားရပြန်သည်။

"ဘာတွေဖြစ်ကုန်လို့လဲဗျ၊ မူလက အစီအစဉ်ကို ဘယ်လိုပြောင်းလိုက်တာလဲ၊ ကျုပ်သတင်းရတာက အမျိုးသမီးက စောစောကပဲ ဝန်ကြီးချုပ်နဲ့ လာတွေ့တယ်လို့ သတင်းရတယ်၊ အဲဒါ ဟုတ်ပါသလား"

"ဟုတ်တယ်၊ ဝန်ကြီးချုပ်နဲ့ သွားတွေ့တယ်၊ ဘာတွေ ပြောကြတယ် ဆိုတာကိုတော့ အသေးစိတ် မသိဘူး၊ ဒါပေမဲ့ အမျိုးသမီးက သူ့ကို ကွပ်မျက်လိမ့်မယ်ဆိုတာကို သိသွားတယ်"

ဝီလီ၏ အသံဖြင့်ပြောလိုက်ရာ လက်ဒ်ဘာရီသည် အံ့အားသင့်ဟန်ဖြင့်

"ဟင် ဘယ်လိုလုပ်ပြီး သိသွားတာလဲ" ဟု ပြန်မေးလိုက်လေသည်။

"ဒါတော့ မပြောတတ်ဘူး။ အခုလောလောဆယ် အမျိုးသမီးက ဝန်ကြီးချုပ်ကို အကျပ်ကိုင်နေတယ်။ သူရထားတဲ့ လျှို့ဝှက်ချက်တွေကို မပြောဘဲ ဈေးကိုင်ထားတယ်။ သူက အသက်အန္တရာယ်အတွက် အာမခံချက် ရရှိမှသာ လျှို့ဝှက်ချက်တွေကို ပြောမယ်လို့ ဆိုတယ်"

"ဘယ်လိုလုပ်ပြီး အာမခံချက် ပေးရမှာလဲဗျ"

လက်ဒ်ဘာရီက မေးလိုက်လေသည်။

"အဲဒါကို သူက ရသွားပြီဗျ၊ ကျုပ်ဆက်ပြီး ရှင်းပြပါ့မယ်။ တခု သေချာတာက ဗီရာ့ကို ကွပ်မျက်ဖို့ အမိန့်ကို ဝန်ကြီးချုပ်ကိုယ်တိုင်ကပယ်ဖျက်လိုက်တယ်။ သူ့ကို လက်ဖျားနဲ့တောင် မတို့ရဘူးတဲ့လေ"

"အဲဒါကို ကျုပ်လည်း ကြားပြီးပါပြီ၊ ကျုပ်မသိသေးတာတွေကိုသာ ပြောစမ်းပါ"

ဘာဂီနော့ဗ် အသံဖြင့် ခပ်ထန်ထန်မေးလိုက်သံကို ကြားရသည်။ ထိုအခါ ဝီလီက ဆက်ဖြေလေသည်။

"ကျုပ် နောက်တော့ ပြောပါ့မယ်၊ အခု အရေးကြီးဆုံးက မော်စကိုကို ဝိုင်ယာလက်နဲ့ သတင်းပို့ဖို့ ဖီဒင် အမြန်လုပ်ရမယ်၊ ပို့ရင်လည်း ဘယ်သူမှ မသိတဲ့ လျှို့ဝှက်သင်္ကေတနဲ့ ပို့ရမယ်။ မော်စကိုမြို့က ဗိုလ်ချုပ်ကြီး ပီထရော့ဗ်ဆီကို တိုက်ရိုက်ပို့ရမယ်၊ ပို့ရမယ့်အမိန့်ကတော့ အမေရိကန်သမ္မတကတော် ကို မနက်မိုးမလင်းခင် သုတ်သင်ကွပ်မျက်လိုက်ရမယ် ဆိုတာပဲ"

ထိုစကားကို ကြားလိုက်ရလျှင် ပါကာသည် ပုန်းနေရာမှ ကျောချမ်းသွားမိလေသည်။

"ဟာ ဘီလီကို ကွပ်မျက်လိုက်ရမယ့်တဲ့လား၊ ကျုပ်ဖြင့် မယုံနိုင်အောင် အံ့ဩမိတယ်။ ဒီအမိန့်က သေချာရဲ့လားဗျ"

"သေချာပါတယ်၊ အခု လန်ဒန်မြို့မှာ အမေရိကန်သမ္မတကတော် (ဖတ်စ်လေဒီ) တယောက်ရှိနေမှပဲ၊ နောက်ထပ် (ဖတ်စ်လေဒီ) တယောက် မလိုတော့ဘူး"

ဝီလီက ပြန်ပြောလိုက်လေသည်။

သည်တော့မှ လက်ဒ်ဘာရီက သဘောပေါက်သွားဟန်တူသည်။

"လက်စသတ်တော့ ဗီရာလိုချင်တဲ့ အာမခံချက်က ဒါဖြစ်နေတာကိုး"

"ဟုတ်တယ်၊ အလွန်ပိရိတဲ့ အာမခံချက်ဖြစ်တယ်၊ ကျုပ် ကြားရသလောက်တော့ ဝန်ကြီးချုပ် ကိုယ်တိုင်က ဒီအကြံကို စိတ်ကူးရခဲ့တာလို့ ဆိုတယ်။ ကဲ ဖီဒင် ကျုပ်အခုပြောမယ့်စကားတွေကို စာနဲ့ လိုက်မှတ်ထားရင် ကောင်းမယ်"

ဝီလီက ဤသို့ ပြောလိုက်ပြီး ခေတ္တ တိတ်ဆိတ်သွားလေသည်။ တဖန် ဝီလီ၏အသံကို ကြားရပြန်လေသည်။

"ဘီလီကို မနက်မိုးမလင်းခင် ကွပ်မျက်ပစ်ရမယ်၊ ဒါကို ရေးမှတ်ပြီးပြီလား။ ပြီးတော့ သူသေနေကြောင်း ထင်ရှားအောင် အလောင်းကို ဓာတ်ပုံ ရိုက်ရမယ်၊ အဲဒီဓာတ်ပုံတွေကို ရာဇင်က လန်ဒန်မြို့ကို ယူလာခဲ့ရမယ်။ ရာဇင်အတွက် သီးသန့်လေယာဉ်တစီး စီစဉ်ထားမယ်။ အဲဒီ လေယာဉ်ဆိုက်လာတာနဲ့ ဗီရာက အသင့်စောင့်နေပြီး ဓာတ်ပုံတွေကို စစ်ဆေးကြည့်လိမ့်မယ်။ ကဲ ခင်ဗျား ဝိုင်ယာလက်နဲ့ သတင်းပို့ဖို့ကို အမိက ဆောင်ရွက်ရမှာပဲ၊ ရှင်းရဲ့လား"

"ရှင်းပါတယ်"

ဖီဒင်ဆိုသူက ပြန်ပြောလိုက်သည်။

ထိုအချိန်တွင် ပါကာမှာ ပုန်းအောင်းနေသော နေရာတွင် စိတ်တုန်လှုပ် ချောက်ချား နေမိနေသည်။ အမေရိကန် သမ္မတကတော်နေရာတွင် လူစားထိုး လဲထားလိုက်ခြင်းက ပင်လျှင် တုန်လှုပ် ချောက်ချားဖွယ် ဖြစ်ခဲ့ရာ ယခုတော့ သမ္မတကတော်အစစ်အား သွေးအေးအေးဖြင့် သတ်ပစ်မည် ဆိုခြင်းမှာ မကြုံစည်စဖူး ချောက်ချားဖွယ်ရာ ဖြစ်နေတော့သည်။

သုတ်သင်ကွပ်မျက်ခြင်းကိုလည်း ယခုည မိုးမလင်းခင် ပြုလုပ်ကြပေလိမ့်မည်။

အပြင်ဘက်မှ အသံများ ကြားရပြန်လေသည်။

"ကဲ ကျုပ်တို့ ဖီဒင်က အခုပဲ အပေါ်ထပ်ကိုတက်ပြီး ဝိုင်ယာလက်နဲ့ သတင်းပို့ကြမယ်"

ဘာဂီနော့ဗ်ဆိုသူက ပြောလိုက်ခြင်းပင်ဖြစ်လေသည်။

"နောက်တခုရှိသေးတယ်၊ ရာဇင်က ဒီအင်္ဂလန်ပြည်က ဝက်စ်ရစ်ချ် လေဆိပ်ကို ဘယ်အချိန် ရောက်မှာလဲဆိုတာကို အတိအကျ မေးလိုက်ပါ"

ဝီလီကပြောလိုက်ရာ ဖီဒင်ဆိုသူက

"ကောင်းပြီ၊ မေးပြီး ခင်ဗျားကို အကြောင်းကြားမယ်"

ဟု ပြန်ပြောလိုက်လေသည်။

လက်ဒ်ဘာရီ၏အသံ ထွက်ပေါ်လာပြန်လေသည်။

"ခင်ဗျားတို့ပြန်သွားရင် မီးတွေကို ပိတ်သွားဖို့ မမေ့ပါနဲ့၊ တံခါးကိုလည်း ပြန်ပိတ်ခဲ့ပါ၊ သော့ရှိတယ် မဟုတ်လား"

"ဖီဒင်ဆီမှာ သော့တချောင်းရှိပါတယ်"

ဘာဂီနော့ဗ်က ပြန်ပြောလိုက်လေသည်။

ထို့နောက် စကားသံများ တိတ်သွားပြီး ဝီလီနှင့် လက်ဒ်ဘာရီတို့ ထွက်သွားသံ ကြားရလေသည်။ ရုရှလူမျိုး နှစ်ယောက်က အပေါ်ထပ်သို့ တက်သွားသည့်ခြေသံကို ကြားရလေသည်။

ပါကာအနေဖြင့် အကြီးအကျယ် အကြံရခက်နေလေသည်။

ယခုအချိန်တွင် သူသည် အကူအညီရမှ ဖြစ်မည်။ သို့သော် မည်သူ့ထံ ချဉ်းကပ် အကူအညီ တောင်းရမည်နည်း။ သေချာစွာ စဉ်းစားကြည့်လိုက်ပါသော်လည်း အကူအညီ ပေးနိုင်မည့်သူ တဦးတယောက်မှ မတွေ့မိချေ။

ယခု မိမိကြားနေရသော စကားတွေကို အမှန်ဖြစ်ကြောင်း တစုံတယောက်က လက်ခံ ယုံကြည်လာအောင် မည်သို့ပြောရပါမည်နည်း။

ရုရှတို့က ဤသို့ လုပ်ကြံပြီး အမေရိကန် သမ္မတကတော်အား သတ်ပစ်မှုဖြင့် စွပ်စွဲရန်လည်း လုံးဝ မလွယ်ကူချေ။ စွပ်စွဲနိုင်သည် ထားဦး၊ ဘီလီခမျာ သေဆုံးနေရှာတော့မည်။

ဟိုတယ်သို့ ပြန်ရောက်သောအခါ ပါကာသည် နည်းလမ်းတခုအား စဉ်းစားမိလေသည်။ ထိုနည်းမှတပါး တခြားနည်းလမ်း မရှိပါချေ။

ပါကာသည် မိမိအကြံအတိုင်း လုပ်ရန် ဆုံးဖြတ်လိုက်လေသည်။ ရှေးဦးစွာ နိုရာနှင့် တွေ့ရန် လိုအပ်သဖြင့် ဟိုတယ်သို့ ရောက်ရောက်ချင်း နိုရာကို ရှာလိုက်လေသည်။

နိုရာ၏အခန်းသို့ ရောက်သောအခါ ပါကာသည် မတွေ့ရသဖြင့် နိုရာ ဘယ်ရောက်နေပါလိမ့် ဟု စဉ်းစားကြည့်လေသည်။ သမ္မတကတော်၏ အခန်းသို့ ရောက်နေလေသလော။

သို့သော် ထိုနေ့အဖို့ သမ္မတကတော်က ညစာကို ဟိုတယ်၌မစားဘဲ အပြင်ဘက်တွင် ညစာစားရန် အစီအစဉ်ရှိကြောင်း လုံခြုံရေးအစောင့်ထံမှ သိရလေသည်။

ပါကာသည် နိုရာ၏ ရုံးခန်းသို့ သွားရှာကြည့်ပြန်လေသည်။

ရုံးခန်းအတွင်း၌ နိုရာသည် အလွန်စိုးရိမ်ပူပန်ဟန်ဖြင့် ထိုင်စောင့်နေရှာ

ပါကာကို မြင်မှ သက်ပြင်းချလိုက်လေသည်။

"ဟင် ရှင်ပြန်ရောက်လာမှကိုး၊ ကျွန်မဖြင့် စိတ်ပူလိုက်ရတာရှင်"

"ဘာတွေဖြစ်ခဲ့တယ်ဆိုတာကို ပြောပြစမ်းပါဦး"

ပြောပြောဆိုဆို နိုရာသည်။ ပါကာအား ဝမ်းသာအားရ ပွေးဖက်၍ ထားလိုက်သည်။

"ဒီမယ် ကျုပ်ဘာဖြစ်တယ်ဆိုတာက အရေးမကြီးပါဘူး၊ အခုပြောပြမယ့်စကားကိုသာ ဂရုစိုက်ပြီး နားထောင်စမ်းပါ။ ပြောမယ့်စကားတွေကလည်း အမှန်ချည်းပဲ"

ဤသို့အစချီကာ ပါကာသည် လက်ဒ်ဘာရီဆိုင်အတွင်း၌ သူ ကြားခဲ့ရသော အကြောင်းစုံကို အသေးစိတ် ပြောပြလိုက်လေသည်။

သူ၏ စကားဆုံးသောအခါ နိုရာသည် အကြီးအကျယ် တုန်လှုပ်အံ့အားသင့်သွားလေသည်။

"ဟင် ဘီလီကို သူတို့ သတ်ပစ်မယ်ဆိုတာ ဟုတ်နိုင်ပါ့မလားရှင့်"

"သေချာပါတယ်"

"ဒါဖြင့် ရှင်က သမ္မတကြီးနဲ့ သွားတွေ့မှ ဖြစ်မယ်၊ အရင်တခါ ရှင်သွားပြောတုန်းက မအောင်မြင်လို့ စိတ်ပျက်နေတာကို သိပါတယ်၊ ဒါပေမဲ့ အခုကိစ္စက သေရေး ရှင်ရေးမို့ သမ္မတကြီးကို သွားပြောဖို့ သင့်တယ်"

"ကျုပ် အဲဒီလို စဉ်းစားကြည့်ပြီးပါပြီ၊ သမ္မတကြီးက ဘာပြန်ပြီး ပြောမယ်ထင်သလဲ၊ ဟေ့ မောင်ရင်က ဘာလဲ ကျုပ်မိန်းမကို ကယ်တင်ဖို့အတွက် ရုရှနိုင်ငံကို စစ်တိုက်စေချင်လား၊ အခု ကျုပ်မိန်းမက ကျုပ်နဲ့အတူ ရှိနေတာပဲ၊ မောင်ရင်ပြောတာ ကျုပ်လုံးဝ မယုံဘူးလို့ ပြောမှာပဲ သေချာပါတယ်။ ဒါကြောင့် ကျုပ်ဟာ သမ္မတကို သွားပြောလို့ အကြောင်းမထူးဘူးလို့ ဆုံးဖြတ်မိတယ်"

"ဒါလဲ ဟုတ်တာပဲ၊ ဒါဖြင့် မော်စကိုမြို့က သံအမတ်ကြီး ယန်ဒါလ်နဲ့ ဆက်သွယ်ရင် မကောင်းဘူးလား၊ သူက ဘီလီရဲ့အသက်အန္တရာယ်အတွက် လေးလေးနက်နက် စဉ်းစားလိမ့်မယ် ထင်တယ်"

"ဒါလဲ မဖြစ်ဘူးကွယ့်၊ သံအမတ်ယန်ဒါလ်က ဘာမှမလုပ်ခင် သမ္မတနဲ့ တိုက်ရိုက် ဆက်သွယ်ပြီး အတည်ပြုချက် ရယူလိမ့်မယ်၊ ကျုပ်တို့ပြောတာကိုပဲ သူက ယုံကြည်လက်ခံတယ်ထားဦး၊ သူ့အနေနဲ့က ဘာတတ်နိုင်မှာလဲ၊

ဆိုဗီယက်အာဏာပိုင်တွေဆီကို သွားပြီး အမေရိကန် သမ္မတကတော်ကို ပြန်လွှတ်ပေးပါလို့ တောင်းဆိုလို့ ဖြစ်ပါ့မလား။ ရုရှတွေက သံအမတ်ကြီး ရူးနေပြီလို့ ဆိုလိမ့်မယ်။ မဖြစ်ဘူး နိုရာ၊ ဒီနည်းတွေက မဖြစ်ဘူး၊ ဒီတော့ တမျိုးစဉ်းစားရလိမ့်မယ်။ မော်စကိုက သံအမတ် ယန်ဒါလ်ရဲ့အကူအညီတော့ လိုလိမ့်မယ်၊ ကိုင်း နိုရာ မင်းစဉ်းစားကြည့်စမ်း၊ မော်စကိုမြို့မှာ ရှိတုန်းက ရင်းရင်းနှီးနှီး သိခဲ့တဲ့လူ ဘယ်သူများ ရှိသလဲ"

"ဘယ်သူ ရှိလို့လဲ ရှင့်"

"စဉ်းစားကြည့်ပါဦးလေ၊ တယောက်တော့ရှိတယ်၊ ဒီလူက သူလိုချင်တဲ့ အကူအညီတောင် ကျုပ်ကို ပြောပြဖူးတယ်။ သူဟာ တို့မော်စကိုမှာရှိတုန်းက ဘီလီနဲ့ အနီးကပ်ဆုံးပဲ ရှိခဲ့တယ်"

ဤတွင် နိုရာ သဘောပေါက်သွားလျက်...

"ဟို စကားပြန်လုပ်တဲ့သူလား"

ဟု ပြောလိုက်သည်။

"အေး ဟုတ်တယ်၊ သူ့နာမည်က ရာဇင်လို့ခေါ်တယ်၊ သူက အမေရိကန် ကပြားဖြစ်လို့ ရုရှမှာ အမေရိကန်ရေးရာပါရဂူ ဖြစ်လိမ့်မယ်၊ ဒါကြောင့် ရာဇင်က ဘီလီ ဘယ်မှာရှိတယ်ဆိုတာကို သိလိမ့်မယ်၊ ဒါပေမဲ့ သူ ဘီလီကို သုတ်သင်ကွပ်မျက်လိမ့်မယ်ဆိုတာတော့ သူ သိမယ် မထင်ဘူး၊ ဒီတော့ ရာဇင်နဲ့ ဆက်သွယ်လို့ရှိရင် ဘီလီ အသတ်ခံရတော့မယ်ဆိုတဲ့အကြောင်း ပြောရင်း၊ သူ့ကို ကျေးဇူးတုံ့ပြန်တဲ့အနေနဲ့ အမေရိကန်မှာ ခိုလှုံခွင့် ပေးမယ်လို့ ပြောမယ်၊ ရာဇင်က အမေရိကန်ပြည် ကို လာချင်နေတာအမှန်ပဲ၊ ဒီနည်းဟာ တို့အတွက် မျှော်လင့်ချက်ရှိတယ်"

"ဒါက ဟုတ်ပြီ၊ ကျွန်မတို့က ရာဇင်နဲ့ ဘယ်လိုလုပ်ပြီး ဆက်သွယ်မလဲ"

"သမ္မတကြီးက မော်စကိုက အမေရိကန်သံရုံးကို တိုက်ရိုက် ဆက်သွယ်နိုင်တဲ့ တယ်လီဖုန်းရှိတယ်၊ အဲဒီဖုန်းကနေတဆင့် သံအမတ်ကြီး ယန်ဒါလ်ကို လှမ်းခေါ်ရင် ဖြစ်နိုင်တယ်"

"နေပါဦးရှင့်၊ အဲဒီဖုန်းက သမ္မတကြီးနဲ့ သမ္မတကတော်တို့ နှစ်ဦးသာ သုံးခွင့်ရှိတယ်လေ"

"ဟုတ်တယ်လေ၊ ဒါပေမယ့် မင်းက သမ္မတကတော်ရဲ့ပြန်ကြားရေးမှူးပဲ၊ ဖတ်စ်လေဒီက ဆက်ခိုင်းလို့ ဆက်တဲ့သဘောမျိုး လုပ်ရမယ်၊ ကဲပါ အချိန်မရှိဘူး၊

မော်စကိုက သံအမတ်ကြီး ယန်ဒါလ်ဆီကိုသာ ရအောင် ဖုန်းဆက်စမ်းပါ၊ ဆက်လို့ရရင် ကျုပ်က ကြည့်လုပ်ပါ့မယ်"

ပါကာက အတင်းတိုက်တွန်းသဖြင့် နိုရာလည်း သမ္မတကြီး ကိုယ်ရေးအတွင်းရေးမှူး မစ္စမာတင်၏ အကူအညီဖြင့် သော့ခတ်ထားလေသော သီးသန့်တယ်လီဖုန်းဖြင့် မော်စကိုမြို့သို့ လှမ်းဆက်လိုက် လေသည်။

ပါကာလည်း နိုရာ၏ အနားမှ အသင့်ရပ်စောင့်နေလေသည်။

မကြာမီ မော်စကိုမြို့ရှိ အမေရိကန်သံအမတ် ယန်ဒါလ်နှင့် အဆက်အသွယ် ရလေသည်။

"ဟဲလို ဟဲလို"

"ဟဲလို သံအမတ်ကြီး ကျွန်မ နိုရာပါ"

"ဟဲလို နိုရာ ဘာများအရေးကြီးသလဲ၊ ကျုပ်က သမ္မတကြီးကိုယ်တိုင် အရေးပေါ် ဆက်သလားလို့"

"သမ္မတကြီးက မအားလို့ ဆက်ခိုင်းတာပါ၊ ဒီမယ် ကိစ္စကိုတော့ သမ္မတကြီးရဲ့မိန့်ခွန်းတွေ ရေးတဲ့ သတင်းစာဆရာ ပါကာက ပြောပြပါလိမ့်မယ်၊ သံအမတ်ကြီး ဖုန်းခဏ ကိုင်ထားပါ"

ပြောပြောဆိုဆို နိုရာက တယ်လီဖုန်း စကားပြောခွက်ကို ပါကာအား လှမ်းပေးလိုက်လေ သည်။

ပါကာလည်း ခပ်တည်တည်နှင့် သံအမတ်ကြီး ယန်ဒါလ်ကို ဆက်ပြောလေသည်။

"သံအမတ်ကြီးခင်ဗျား ကျွန်တော် ပါကာပါ၊ မော်စကိုမြို့က လူတယောက်ကို အရေးတကြီး သတင်းပေးပို့ ခိုင်းပါတယ်၊ ဒီလူက ကျွန်တော်တို့ မော်စကိုမြို့မှာ ရှိစဉ်က သမ္မတကတော်နဲ့ အတူလိုက်ပြီး စကားပြန်အဖြစ် တာဝန်ယူခဲ့သူပါပဲ၊ သူက အမေရိကန်မှာ မွေးဖွားပြီး အင်္ဂလိပ်စကား သိပ်ကျွမ်းတယ်၊ နာမည်က ရာဇင်လို့ ခေါ်ပါတယ်"

"ကျုပ်သိပြီ၊ ရာဇင်ဆိုတာ အရပ်မြင့်မြင့် ဆံပင်အနက်ရောင်နဲ့ အင်္ဂလိပ်စကား သိပ်အပြောကောင်းတဲ့ သူ မဟုတ်လား"

"ဟုတ်ပါတယ်၊ သူ့ကို သံအမတ်ကြီးက အမြန်ဆုံး ဆက်သွယ်ပြီး သတင်းစကား ပြောရမယ်"

"နက်ဖြန်ကျတော့ ဆက်သွယ်ပေးပါ့မယ်"

"မဟုတ်ဘူး ခင်ဗျ၊ ကိစ္စက အရေးကြီးလို့ အခုချက်ချင်း ဆက်သွယ်ပေးစေချင်ပါတယ်"

"ကောင်းပြီလေ၊ ကျုပ်တို့ ထောက်လှမ်းရေးကလူတွေကို ဆက်သွယ်လို့ရနိုင်ပါတယ်၊ သူ့ကို ဘာပြောရမှာလဲ"

"ကျွန်တော် ပြောပါ့မယ်၊ သံအမတ်ကြီးက လိုက်ရေးမှတ်ရင်ပိုပြီးကောင်းပါလိမ့်မယ်၊ ကျွန်တော်က ဖြည်းဖြည်းချင်း ပြောပါ့မယ်၊ သံအမတ်ကြီးကသာ တလုံးချင်း လိုက်ရေးမှတ်ပါတော့"

ဤသို့ပြောပြီး ပါကာသည် ရာဇင်ထံပေးပို့ရမည့် အကြောင်းကို တလုံးချင်း စတင်ပြောလေသည်။

"ကဲ ကျွန်တော် စတင်ပြောမယ်နော်၊ မစ္စတာရာဇင် ဖတ်စ်လေဒီက ခင်ဗျားရဲ့အကူအညီကို အရေးတကြီး တောင်းပါတယ်၊ ယခုည မော်စကိုမှာ ကေ-ဂျီ-ဘီက ကွပ်မျက်မယ့်ကိစ္စကို အလွန် စိုးရိမ်ပူပန်နေပါတယ်၊ ခင်ဗျားရဲ့ဗီရာကို လက်ရှိနေရာမှာ ရာသက်ပန် နေရဖို့ လုပ်လိုက်ပါတယ်၊ ဒါကြောင့် ဖတ်စ်လေဒီကို ခင်ဗျားက ဝင်ပြီး ကာကွယ်တားဆီးပေးချင်ပါတယ်၊ ဒီအတွက် ကျေးဇူးတုံ့ပြန်တဲ့အနေနဲ့ ခင်ဗျားကို အမေရိကန်နိုင်ငံကို လာခွင့်ပြုပါတယ်၊ ဖြစ်နိုင်ရင် အကျိုးအကြောင်းကို မော်စကိုက အမေရိကန်သံအမတ်ကြီးကတဆင့် လန်ဒန်မြို့မှာရှိနေတဲ့ ကျုပ်ဆီကို ပြန် အကြောင်း ကြားပါ၊ အဲဒါပါပဲ သံအမတ်ကြီး၊ ဒီသတင်းပေးပို့သူကိုတော့ ကျွန်တော့်နာမည် ပါကာလို့ပဲ ရေးလိုက်ပါ"

"ဒါက ဘာအဓိပ္ပာယ်လဲဗျ၊ ကျုပ် နားမလည်ပါလား"

သံအမတ်ကြီးက ပြောရာ ပါကာက

"ကိစ္စမရှိပါဘူး၊ ရာဇင်ကတော့ နားလည်ပါလိမ့်မယ်"

"ဘာလဲ စာက လျှို့ဝှက်သင်္ကေတဘာသာမျိုးနဲ့ စီရေးထားတာလား"

"ဟုတ်တယ် ဆိုပါတော့"

"ဒါဖြင့် ကောင်းပါပြီ၊ ကျုပ်တို့ ရာဇင်ကို အမြန်ဆုံး ဆက်သွယ်လို့ ရတာနဲ့ ဒီသတင်းကို ချက်ချင်းပေးလိုက်ပါ့မယ်"

"ဟုတ်ကဲ့ ခင်ဗျ၊ ကိစ္စက အလွန်အရေးကြီးလို့ပါ၊ သမ္မတကြီးကိုယ်တိုင်က အခုလို အမြန် ဆောင်ရွက်ခိုင်းပါတယ်၊ ကျေးဇူးတင်ပါတယ် သံအမတ်ကြီးခင်ဗျား"

ထိုမျှနှင့်ပင် ပါကာသည် စကားစကို ဖြတ်လိုက်သည်။

*

မော်စကိုမြို့တွင် ညဉ့်နက်နေပြီဖြစ်သော်လည်း ရာဇင်သည် စားပွဲတွင်ထိုင်၍ ရေးမှတ်စရာရှိသည် တို့ကို အပြီးသတ် ရေးမှတ်နေလေသည်။

ထိုအချိန်၌ သူသည် ချစ်သူဗီရာကို သတိရနေမိသည်။ မိမိတို့၏ လျှို့ဝှက် အကြံအစည် အောင်မြင်ပြီ ဖြစ်၍ မကြာမီ ဗီရာသည် မော်စကိုမြို့သို့ ချောမောစွာ ပြန်လည် ရောက်ရှိလာပေတော့မည်။ ဤသို့ တွေးမိကာ ကြည်နူးပီတိ ဖြစ်နေလေသည်။

သူ၏ ကြိုးပမ်းဆောင်ရွက်မှုဖြင့် မိမိတို့အကြံအစည် အစမှအဆုံး ချောမော အောင်မြင်ခြင်းအတွက် သူ့ကိုယ်သူလည်း ကျေနပ်နေမိသည်။

မကြာမီ သူသည် ချစ်သူဗီရာနှင့် ပျော်ရွှင်စွာ ပြန်တွေ့ဆုံရတော့မည် ဖြစ်ပေသည်။

ရာဇင်သည် အလုပ်ပြီး၍ စားပွဲမှ ထလိုက်စဉ် တယ်လီဖုန်းက လာသဖြင့် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ယခုချက်ချင်း တွေ့လိုကြောင်း အကြောင်းကြားလိုက်သဖြင့် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်၏ ရုံးခန်းသို့ သွားရလေသည်။

ပီထရော့ဗ်သည် လျှို့ဝှက် ကြေးနန်းစာတစောင်ကို လှေ့လာကြည့်ရာမှ ရာဇင်အား လှမ်းစကားပြော လေသည်။

"ကဲ ရာဇင်၊ မောင်ရင်တော့ အခုညပဲ မောင်ရင် အိပ်ရမှာ မဟုတ်ဘူး၊ အခုညပဲ မောင်ရင်က အရေးကြီးတဲ့ အထုပ်တထုပ်ကို ယူပြီး လေယာဉ်နဲ့ လန်ဒန်မြို့ကို သွားပို့ရမယ်၊ လန်ဒန်မြို့ပြင်က ကျုပ်တို့ ယာယီ လုပ်ထားတဲ့ လေဆိပ် ဝက်စ်ရစ်ချ်လေဆိပ်မှာ လေယာဉ်ဆိုက်တာနဲ့ ကျုပ်တို့လူက အသင့်စောင့်နေပြီး အထုပ်ကို လက်ခံယူလိမ့်မယ်၊ မောင်ရင် အဲဒီလေယာဉ်နဲ့ပဲ ချက်ချင်း ပြန်လာခဲ့ ရမယ်"

"ဗိုလ်ချုပ်ကြီး ခင်ဗျား၊ အထုပ်ကို သွားပို့ရုံတင်ပဲဆိုရင် တခြားလူတယောက်ကို လွှတ်လိုက်ရင်လည်း ဖြစ်တာပဲ မဟုတ်လား"

"မဟုတ်ဘူး၊ ဝန်ကြီးချုပ် ကီရင်ချင်ကိုက မောင်ရင် ကိုယ်တိုင် လာပို့ရမယ်လို့ တိတိကျကျ ညွှန်ကြားလိုက်တယ်။ ဒါကြောင့် မောင်ရင်ပဲ သွားရမယ်၊ နောက် သုံးနာရီကြာရင် သီးသန့် လေယာဉ်တစီးဟာ နကိုဗို လေဆိပ်က ထွက်လိမ့်မယ်၊ အခု မောင်ရင်က အိမ်ပြန်ပြီး ညစာ စားလိုက်ပါ၊ ကျုပ်ပဲ ကိုယ်တိုင်

အထုပ်ကို လာပေးမယ်၊ ပြီးတော့ ဒရိုင်ဘာက ကျုပ်ကို ချထားပေးခဲ့ပြီး မောင်ရင့်ကို လေဆိပ်အရောက် လိုက်ပို့ပေးလိမ့် မယ်"

"ဟုတ်ကဲ့ ကောင်းပါပြီ၊ ကျွန်တော် စောင့်နေပါ့မယ်"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်၏အခန်းမှ ထွက်လာခဲ့ပြီးသည့်နောက် ရာဇင်သည် ဘာကြောင့် ယခုလို လန်ဒန်မြို့ အရေးတကြီး စေလွှတ်ရသနည်းဟု စဉ်းစားနေမိလေသည်။ သို့သော် ကျေနပ်လောက် သော အဖြေကို စဉ်းစား၍ မရချေ။

ထို့နောက် သူသည် ရုံးခန်းကို ပိတ်ပြီး မော်တော်ကားမောင်း၍ သူ၏အိပ်ခန်းရှိရာသို့ ပြန်လာခဲ့လေသည်။

အိမ်ရှေ့ရောက်၍ မော်တော်ကား ဆိုက်လိုက်ချိန်တွင် မှောင်ရိပ်ထဲမှ အရပ်မြင့်မြင့် လူတယောက်သည် သူ၏ကားဆီသို့ ချဉ်းကပ်လာလေသည်။

သေချာစွာ ကြည့်လိုက်သောအခါ အမေရိကန်သံအမတ်ကြီး ယန်ဒါလ် ဖြစ်နေ၍ ရာဇင်သည် အံ့သြသွားလေသည်။

"မစ္စတာရာဇင် သိပ်အရေးကြီးတဲ့ သတင်းတခု ခင်ဗျားကို ပေးစရာ ရှိလို့ပါ၊ လူရှင်းတဲ့တနေရာကို သွားပြီး ပြောချင်ပါတယ်"

သံအမတ် ယန်ဒါလ်က အရေးတကြီး ပြောရာ ရာဇင်လည်း ဘာများပါလိမ့်ဟု သိချင်သဖြင့် ယန်ဒါလ်အား သူ့ကားပေါ်တင်ပြီး မလှမ်းမကမ်းရှိ လမ်းကြားတခုထဲသို့ မောင်းသွားလိုက်လေသည်။

လူသူရှင်းသော တနေရာသို့ ရောက်၍ ကားကို ရပ်လိုက်ပြီးနောက် ရာဇင်က

"ဘာများ အရေးတကြီး သတင်းပို့စရာ ရှိလို့လဲ" ဟု မေးလိုက်လေသည်။

"ကျုပ်တော့ နားမလည်ပါဘူး၊ ဒါပေမဲ့ ခင်ဗျားကတော့ ဖတ်ကြည့်ရင် နားလည်မယ်လို့ ဆိုတာပဲ၊ ကျုပ်ကိုယ်တိုင် လာပေးရမယ်ဆိုလို့ လာပေးရတာပါ၊ စာကတော့ ဒါပါပဲ၊ ကျုပ် ဒီကပဲ ဆင်းသွားတော့မယ်၊ ကျုပ်ရဲ့မော်တော်ကားက ဟိုနားဘက်မှာရှိတယ်"

ပြောပြောဆိုဆို အသံအမတ် ယန်ဒါလ်သည် အင်္ကျီအိတ်ထဲမှ စာရွက်တရွက် ထုတ်ယူ၍ ရာဇင်အား ပေးပြီး ချက်ချင်းပင် ကားပေါ်မှ ပြန်ဆင်းကာ လျှောက်ထွက်သွားလေသည်။

*

ရာဇင်သည် သူ၏ မောင်တော်ကားပေါ်မှာပင် တက်ထိုင်နေလေသည်။

သူသည် အမရိကန်သတင်းစာဆရာ ပါကာက ပေးလိုက်ပါသည် ဆိုသောစာကို သုံးခေါက်တိတိ ဖတ်ကြည့်ပြီး ဖြစ်သည်။ စာ၏အဓိပ္ပာယ်ကို ကောင်းစွာ သဘောပေါက်၍လည်း ရာဇင်သည် အလွန်အံ့အားသင့်၍ တုန်လှုပ်မိလေသည်။

စာ၏အဓိပ္ပာယ်က အမေရိကန် သမ္မတကတော်အစစ် ဘီလီအား သုတ်သင်ကွပ်မျက်ပြီး စက္ကင်းလေဒီ (ဗီရာ) ကတော့ သမ္မတကတော်နေရာတွင် အမြဲတမ်း ဆက်လက် ဟန်ဆောင်နေသွားမည် ဟူ၍ပင် ဖြစ်သည်။ ဗီရာသည် ရုရှနိုင်ငံသို့ ပြန်လာတော့မည် မဟုတ်ချေ။ တဖန် မိမိက ဘီလီ၏ အသက်ကို ကယ်ဆယ်နိုင်ပါက မိမိ (ရာဇင်) အား အမေရိကန်နိုင်ငံသို့ လာရောက် ခိုလှုံခွင့်ပေးမည်ဟူ၍လည်း ပါကာ၏ စာတွင် ဆိုထားပေသည်။

မိမိတို့၏ မူလအကြံအစည်တွင် ဘီလီအား သတ်ဖြတ်ရန် အစီအစဉ် လုံးဝမပါဘဲလျက် ယခုမှ ဘာကြောင့် ရက်ရက်စက်စက် သတ်ဖြတ်ရလေသနည်း၊ တဖန် ဝန်ကြီးချုပ် ကီရင်ချင်ကိုက သတ်ရန် အမိန့်ပေးသည် ဆိုလျှင် ဝန်ကြီးချုပ်သည် စိတ်ရူးပေါက်၍သာ ဖြစ်ရပေမည်။

တဖန် ဘီလီအား မိမိတို့ဘက်မှ သတ်လိုက်ကြောင်း သတင်းပေါက်ကြားသွားပါက အမေရိကန်က မခံမရပ်နိုင်အောင် နာကျည်း ဒေါသထွက်မည်သာမက ဆိုဗီယက်ယူနီယံသည် ကမ္ဘာတွင် အကြီးအကျယ် သိက္ခာကျသွားမည်မှာ သေချာပေသည်။ ဤအဖြစ်မျိုးကို ရာဇင်က မလိုလားမိချေ။

တဖန် အမေရိကန် သတင်းစာဆရာပါကာက သမ္မတကတော်အစစ် ဘီလီသည် မော်စကိုတွင် အဖမ်းခံနေရပြီး မိမိတို့လူ ဗီရာက လူစားဝင် ဟန်ဆောင်နေကြောင်း ရိပ်မိသွားခြင်းမှာ အလွန် အံ့သြဖွယ် ကောင်းနေပါသည်။

ပါကာ၏စာတွင် ဗီရာသည် သမ္မတကတော်နေရာတွင် အမြဲတမ်း နေသွားရတော့မည် ဟုလည်း ဆိုသည်။ အဓိပ္ပာယ်ကတော့ မိမိနှင့် ဗီရာတို့၏ ရှေ့ရေးကံကြမ္မာသည် ဘီလီ၏ ကံကြမ္မာနှင့် ဆက်စပ်နေပေသည်။ ဘီလီ သေဆုံးသွားပါက မိမိနှင့် ဗီရာတို့၏ ဆက်ဆံရေးသည်လည်း လုံးဝ မျှော်လင့်ချက် ရှိတော့မည်မဟုတ်ချေ။

အကယ်၍ ပါကာသည် မိမိတို့၏လျှို့ဝှက်အကြံအစည်ကို သိသွားပြီဆိုလျှင် အဘယ်ကြောင့် ချက်ချင်း ဖော်ထုတ်ခြင်း မပြုဘဲ နေရသနည်း။ ဘာကြောင့် အမေရိကန်သမ္မတသို့မဟုတ် စီအိုင်အေ ထောက်လှမ်းရေးတို့ထံသွား၍ ဖွင့်မပြောဘဲ နေရသနည်း။ ဤသည်မှာလည်း ထူးဆန်းနေပေသည်။

မည်သို့ပင်ဖြစ်စေ ပါကာက မိမိအား ယခုကဲ့သို့ ဆက်သွယ်ခြင်းသည် မိမိ၏ချစ်သူ ဗီရာနှင့် ပြန်လည်တွေ့ဆုံနိုင်ရန်မှာ သမ္မတကတော်အစစ် ဘီလီ အသတ်မခံရမှသာ ဖြစ်နိုင်တော့မည့်သဘော ဖြစ်နိုင်ပေသည်။ ဗီရာသည် အမေရိကန်သမ္မတဘရက်ဖို့ဒ်၏ ဇနီးအဖြစ် ရာသက်ပန် အမေရိကန်တွင် နေသွားရတော့မည်ဖြစ်သည်။

ရာဇင်သည် သူ၏ အနာဂတ်ရေ့ရေး အခြေအနေကို စဉ်းစားသုံးသပ်ကြည့်မိပြန်သည်။

သမ္မတကတော်အစစ် ဘီလီ အသတ်မခံရအောင် မိမိက ကြားဝင်ကယ်ဆယ်ပြီး လန်ဒန်မြို့သို့ ပို့ပေးနိုင်ပါက မိမိနှင့် ဗီရာတို့ လွတ်လပ်စွာ နေထိုင်ခွင့်ရအောင် ကြိုးစား၍ မဖြစ်နိုင်ပါလား။

ဤသို့ဆိုလျှင် မိမိတို့၏အနာဂတ်ရေ့ရေး ကံကြမ္မာသည် အဆင်ပြေ ဖြောင့်ဖြူးသွားမည် မဟုတ်ပါလား။

ရာဇင်သည် အပြန်ပြန် အလှန်လှန် စဉ်းစားပြီးနောက် မိမိကကြံလျှင် ဖြစ်နိုင်ရမည်ဟု ဆုံးဖြတ်လိုက်လေသည်။

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ဘီလီအား သုတ်သင်ကွပ်မျက်ပစ်မည့်အကြောင်း မိမိကို အသိမပေးဘဲ နေခြင်းကိုလည်း စဉ်းစားမိပြန်သည်။ မိမိနှင့် ဗီရာတို့ ချစ်ကြိုက်နေသည်ကို ပီထရော့ဗ်က ရိပ်မိသိရှိနေ၍လော။

မည်သို့ပင်ဖြစ်စေ သမ္မတကတော် ဘီလီ၏အသက်ကို ကယ်ဆယ်ရန် အရေးကြီးနေပေသည်။ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်နှင့် သူ့သတ်သမားများက ဘီလီထံသို့ မရောက်မီ မိမိက ကြိုတင် ရောက်သွားမှ ဖြစ်ပေမည်။

သို့မဟုတ်ပါက သူတို့သည် ဘီလီအား ကားပေါ်တင်ခေါ်ပြီး လူသူရှင်းသောတနေရာတွင် ပစ်သတ်ကာ မည်သူမှ မသိအောင် မြေကြီးထဲ မြှုပ်ပစ်လိုက်ကြပေမည်။

ရာဇင်၏အကြံကား ဘီလီကိုထားသောအိမ်သို့ အမြန်သွား၍ ခေါ်ထုတ်ပြီး နှစ်ယောက်သား အတူ ထွက်ပြေးကြရန်ပင် ဖြစ်သည်။ ပြေးရန်ကလည်း အထူးလေယာဉ်တစင်းက မိမိအတွက် အသင့် ရှိနေပေသည်။

လေဆိပ်သို့မသွားမီ အမေရိကန်သံအမတ် ယန်ဒါလ်ထံသို့ တယ်လီဖုန်းဆက်၍ အကျိုးအကြောင်း ပြောပြလိုက်လျှင် မိမိ၏အစီအစဉ်ကိုပါ ပါကာတို့ဘက်မှ သိသွားမည်ဖြစ်သည်။

မိမိက အထူးလေယာဉ်ဖြင့် လန်ဒန်မြို့သို့ ပစ္စည်းတခု သွားပို့ရန် စီစဉ်ထားပြီဖြစ်ရာ ကြံစည် ဖန်တီးရန် ရာဇင်က စိတ်ကူးရလေသည်။ ဘီလီရှိရာသို့ မသွားမီ အိမ်သို့ပြန်၍ လိုအပ်သော ပြင်ဆင်မှုများ ပြုလုပ်ရဦးမည်ဖြစ်သည်။

မိမိ၏အကြံအစည်သည် မည်မျှ အန္တရာယ်များလှသည် ကိုလည်း ရာဇင်က သဘောပေါက်သွားမိ လေသည်။ ခြေလှမ်းတချက် မှားသွားသည်နှင့် မိမိနှင့် ဘီလီတို့ နှစ်ယောက်စလုံး အသက်သေရမည်မှာ သေချာသည်။

ရာဇင်သည် ကားပေါ်ထိုင်စဉ်းစားနေရင်း သံအမတ်ကြီး ယန်ဒါလ် ပေးသွားသောစာရွက်ကို သတိပြုမိပြန်ရာ ထိုစာရွက်သည်လည်း အန္တရာယ်ဖြစ်နိုင်သောကြောင့် မီးခြစ်ဖြင့် မီးရှို့ပစ်လိုက် သည်။ ပြာများကိုလည်း ခြေမွပြီး လမ်းပေါ်သို့ ပစ်ချလိုက်လေသည်။

ယခုအချိန်မှစ၍ သတိကြီးစွာထား၍ ခြေလှမ်းလှမ်းရတော့မည်ဟု သူ့ကိုယ်သူ ဆင်ခြင်သတိပေးရင်း မော်တော်ကားကို စက်နှိုးကာ သူ၏ အိမ်သို့ မောင်းသွားလေသည်။

*

# အခန်း (၁၂)

ရာဇင်သည် သူ၏အိမ်တွင် အတူနေထိုင်သူ အန်ကယ်လုတော့ဖ် အမည်ရှိ ဦးလေးကြီးတဦး ရှိလေသည်။ အဘိုးကြီးက ရာဇင်၏အိမ်တွင် အတူနေရင်း အိမ်ကိုလည်း စောင့်ကြည့်ပေးပြီး စားစရာများလည်း ချက်ပြုတ်ကျွေးလေ့ရှိသည်။ ရာဇင်သည် အိမ်သို့ရောက်ရောက်ချင်း ခရီးထွက်ရန် အမြန် ပြင်ဆင်လေသည်။

ရှေးဦးစွာ သူတို့အိမ်တွင်ရှိသော သံသေတ္တာကြီးကြီးတခုကို ထုတ်ယူ၍ ဖုန်များခါကာ သန့်ရှင်းအောင် ပြုလုပ်ပြီးနောက် တူနှင့်သံ အသုံးပြုလျက် သေတ္တာတွင် အပေါက်ငယ်များ ဖောက်လိုက်သည်။ ဘီလီအား ထိုသေတ္တာကြီးထဲတွင် ဝင်နေစေပြီး လေယာဉ်ပေါ် တင်ယူသွားမည် ဖြစ်ရာ ဘီလီအနေဖြင့် သေတ္တာထဲနေရစဉ် အသက်ရှူနိုင်ရန် လေပေါက်များ ဖောက်လိုက်ခြင်းပင် ဖြစ်သည်။

ထို့နောက် ရာဇင်သည် သူ့နာမည်ဖြင့် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ထုတ်ပေးသော နိုင်ငံကူးလက်မှတ် ပတ်စ်ပို့ကို ယူလိုက်သည်။ ထို့နောက်သူ၏ ၉ မီလီမီတာ ပစ္စတိုသေနတ်ကို ကျည်ဆန်အပြည့် ထိုးလိုက်သည်။ ထိုသေနတ်ကို အသံမမြည်စေရန် ဆိုင်လင်ဇာ ခေါ် အသံထိန်းကိရိယာလည်း ရှိသဖြင့် ရာဇင်သည် ယင်းဆိုင်လင်ဇာကိုပါ ယူ၍ သေနတ်ပြောင်းဝတွင် တပ်ဆင်လိုက်ပြီးမှ ကုတ်အင်္ကျီအိတ်ထဲ ထည့်လိုက်သည်။

သံသေတ္တာကြီးအတွင်း ဘီလီဝင်နေသည့်အခါ သက်သောင့်သက်သာ ရှိစေရန်အတွက် စောင် တထည်ပါ ထည့်ခင်းလိုက်သည်။ သူ့တွင်ရှိသော ရုရှနိုင်ငံသုံး ရူဘယ်လ်ငွေအားလုံးကို ထုတ်ယူ၍ အန်အယ်လုတော့ဖ်အား ပေးလိုက်ပြီး စာရွက်တရွက်တွင်လည်း သူပိုင် ပစ္စည်းအားလုံး အန်ကယ် လုတော့ဖ်အား လွှဲပြောင်းပေးကြောင်း စာရေးကာ လက်မှတ်ရေးထိုးပေးလိုက်သည်။

"တကယ်လို့ ကျွန်တော်တခုခုဖြစ်ရင် အန်ကယ်ကြီးက ပစ္စည်း အားလုံးရအောင်လို့ ရေးထားတာပါ"

ရာဇင်က ဤသို့ပြောရာ အဘိုးကြီးက ထိတ်လန့်သွားလျက်

"ဟာ ဘာမှမဖြစ်အောင် နေမှပေါ့ကွယ်"

ဟု ပြောလေသည်။

"ကဲ အန်ကယ်ကြီး အချိန်သိပ်မရှိဘူး၊ သိပ်အရေးကြီးနေပါတယ်၊ သံသေတ္တာကြီးကို ကျွန်တော့်ကားပေါ် ဝိုင်းကူတင်ပေးပါဦး"

ရာဇင်က စကားကို ခပ်ပြတ်ပြတ်ပင် ပြောလိုက်လေသည်။

ရာဇင်က ကရင်မလင်နန်းတော်သို့ သူ၏ကားဖြင့် မောင်းသွားပြီး ဂိတ်ဝမှ လုံခြုံရေးအစောင့်အား သူ၏ ကေ-ဂျီ-ဘီ စိစစ်ရေး ကတ်ပြားကို ထုတ်ပြရာ ချက်ချင်းပင် ဝင်ခွင့်ရသဖြင့် ဘီလီအား ထားရှိသော အဆောင်သို့ တိုက်ရိုက်သွားလေသည်။

ထိုအဆောင်၏အပြင်ဘက်တွင် ဘောရစ်အမည်ရှိ ကေ-ဂျီ-ဘီ လက်နက်ကိုင်တဦး စောင့်ကြပ်လျက် ရှိသည်။

ရာဇင်သည် ထိုသူနှင့် သိကျွမ်းနေသဖြင့် အလ္လာပသလ္လာပ နှုတ်ဆက်စကားပြောရင်း

"ကျုပ်တို့ အမျိုးသမီးဆီကို ဧည့်သည်များ လာသေးသလားဗျ"

ဟု မေးကြည့်ရာ ဘောရစ်က

"ဘယ်သူမှ မလာဘူးဗျ" ဟု ပြန်ဖြေလေသည်။

ဤတွင် ရာဇင်သည် စိတ်ထဲမှ "တော်ပါသေးရဲ့၊ အချိန်မနှောင်းသေးဘူး" ဟု အောက်မေ့ကာ ဘီလီ၏ အခန်းသို့ ဆက်ဝင်သွားလေသည်။

ထိုအခန်းသို့ ရာဇင်သည် ဝင်နေထွက်နေကျ ဖြစ်သဖြင့် ကေ-ဂျီ-ဘီ အစောင့် ဘောရစ်သည် ကန့်သတ်တားဆီးခြင်း မပြုချေ။

ဘီလီသည် အချိန်မတော် ရာဇင် ဝင်လာသည်ကို မြင်လျှင် အံ့သြနေပုံရလေသည်။

"ရှင်က ဒီအချိန်ကြီး ဘာကိစ္စများ ရှိလို့ လာတာလဲ"

ဘီလီက မေးလိုက်သောအခါ ရာဇင်က အခန်းထဲ ရောက်နေသော်လည်း အဖြေမပေးသေးဘဲ အခန်းတွင်း၌ ခပ်တိုးတိုးဖွင့်ထားသော ရေဒီယိုကို အသံခပ်ကျယ်ကျယ် ဖွင့်လိုက်သည်။

အခန်းတွင်း၌ သူတို့ပြောမည့်စကား အပြင်ဘက်မှ မကြားနိုင်ရန် အသံခပ်ကျယ်ကျယ် ဖွင့်ထားလိုက်ခြင်း ဖြစ်လေသည်။

"သိပ်အရေးကြီးတဲ့စကား ပြောစရာရှိလို့ လာတာပဲ"

ရာဇင်က စကားစပြောလိုက်သည်။

"သတင်းထူးလို့လားရှင့်"

"သတင်းတော့ ထူးတယ်၊ ဒါပေမဲ့ ဘီလီ မျှော်လင့်နေတဲ့ သတင်းမျိုး မဟုတ်ဘူး"

"ဒါဖြင့်လည်း ပြောစမ်းပါဦးရှင့်"

"ပြောပါ့မယ်၊ မင်း စိတ်တုန်လှုပ် ချောက်ချားမှုတော့ မဖြစ်နဲ့"

"ဘာလဲ ရှင်တို့က ကျွန်မကို ပြန်မပို့သေးဘူးလို့ ပြောမှာမို့လား"

"မဟုတ်ဘူး၊ အဲဒါထက် ဆိုးတယ်၊ ဒီမယ် ဘီလီ၊ သူတို့က မင်းကို ကိစ္စတုံး ရှင်းပစ်လိုက်ကြမလို့ လုပ်နေကြတယ်"

"ဟင် ဘာပြောတယ်ရှင်"

"သူတို့က ခင်ဗျားကို သုတ်သင်ကွပ်မျက်ဖို့ စီစဉ်နေကြတယ်"

"သူတို့က ကျွန်မကို သတ်ပစ်မှာတဲ့လား"

"ဟုတ်တယ်၊ အခုညပဲ သတ်ဖို့ အစီအစဉ်ရှိတယ်။ သူတို့အကြံက သူတို့ရဲ့စက္ကင်းလေဒီကို သမ္မတကတော်အဖြစ် အမြဲတမ်း ဆက်ထားမလို့"

"ဟာ မဖြစ်နိုင်ပါဘူး"

ဘီလီက မယုံကြည်ဟန်ဖြင့် ပြန်ပြောလိုက်သည်။

"မယုံမရှိပါနဲ့၊ သေချာပါတယ်"

"ဒါဖြင့် ကျွန်မ သူတို့နဲ့တွေ့ပြီး စကားပြောချင်တယ်"

"စကားပြောဖို့ အကြောင်းမထူးနိုင်ဘူး၊ အခု သူတို့ ဒီကိုလာပြီး ခင်ဗျားကို ခေါ်ထုတ်ရင် ခင်ဗျား သေရမှာပဲ၊ ခင်ဗျားအဖို့ မျှော်စရာဆိုလို့ မျှော်လင့်ချက်တခုပဲ ရှိတယ်။ ကျွန်တော်က ဒီနေ့ည လန်ဒန်မြို့ကို ပစ္စည်းသွားပို့ဖို့ အစီအစဉ်ရှိတယ်။ လေယာဉ်တစီးလည်း အဆင်သင့် စောင့်နေတယ်။ ကျွန်တော်က ခင်ဗျားကို အဲဒီလေယာဉ်နဲ့ ခေါ်ထုတ်သွားဖို့ ကြိုးစားမယ်။ ဒါပေမဲ့ အချိန်က ဘာမှမရှိတော့ဘူး၊ အမြန်ဆုံး သွားမှ ဖြစ်မယ်"

ရာဇင်က ဤသို့ပြောလိုက်ရာ ဘီလီသည် ရုတ်တရက် ဘာမှ ပြန်မပြောဘဲ ဆိတ်ဆိတ်နေလိုက် သည်။

ရာဇင်သည် အံ့ဩနေမိလေသည်။ မိမိက ယခုလို ပြောလိုက်လျှင် ဘီလီသည် ပျာပျာသလဲနှင့် ထလိုက်မည်ဟု မျှော်လင့်မိရာ ယခုတော့ မတုန်မလှုပ် ငြိမ်နေသဖြင့် အံ့ဩမိခြင်းဖြစ်သည်။

"ဘီလီ ကျွန်တော်ပြောတာ ကြားတယ်မဟုတ်လား" ထပ်မေးလိုက်တော့မှ ဘီလီက

"ရှင်ပြောတာ ကြားပါတယ်၊ ဒါပေမဲ့ ကျွန်မ ရှင့်ကို မယုံကြည်နိုင်ဘူး"

ဟု ပြန်ပြောလိုက်လေသည်။

"ဟင် ဘာဖြစ်လို့ မယုံကြည်တာလဲ"

"ရှင်ဟာ တခါတုန်းက ကျွန်မကို လှည့်စားခဲ့ဖူးတယ်၊ ကျွန်မကို ထွက်ပြေးဖို့ ကူညီမယ်ဆိုပြီး ရှင်တို့က ကျွန်မကို အကွက်ဆင် အသုံးချခဲ့တယ်၊ နောက်တခါ အလိမ်မခံနိုင်ဘူး၊ ရှင်ဟာ ကေ-ဂျီ-ဘီ အရာရှိတဦး ဖြစ်တယ်ဆိုတာလဲ ကျွန်မ သိတယ်၊ ဒါကို ရှင်က ငြင်းချင်သေးသလား။ ကျွန်မ ရှင့်အကျီအိတ်ထဲက စိစစ်ရေးကတ်ပြားကို မြင်ခဲ့ပြီးပြီရှင့်"

ထိုစကားကြောင့် ရာဇင်သည် အလွန်အံ့အားသင့်နေမိစဉ်ပင် ဘီလီကပင် ဆက်ပြောပြန်သည်။

"ရှင်ဟာလေ သူတို့တွေနဲ့ ဘာမှမထူးဘူး၊ အခု ရှင်ကိုယ်တိုင်က သတ်ဖို့ ကြံစည်တာပဲ ဖြစ်နိုင်တယ်။ ဒါကြောင့် ကျွန်မကို လှည့်စားပြီး ခေါ်ထုတ်ဖို့ လုပ်တာ မဟုတ်လား၊ ကျွန်မ ရှင့်ကို ဘယ်နည်းနဲ့မှ စိတ်မချနိုင်ဘူး"

ဤတွင် ရာဇင်သည် အမှန်ကို ဝန်ခံရင်း ဆက်တောင်းပန်လေသည်။

"ဒီမယ် ဘီလီ ဒီတခါတော့ ယုံကြည်စမ်းပါဗျာ၊ ကျွန်တော်ဟာ ကေ-ဂျီ-ဘီ အရာရှိတဦးဖြစ်တယ် ဆိုတာ မှန်ပါတယ်၊ ဘီလီကို လှည့်စား အသုံးချခဲ့တာလဲ မှန်ပါတယ်၊ ဒါပေမဲ့ အခုတခါတော့ တကယ်ပြောတာပါ၊ သူတို့က ခင်ဗျားကို သတ်ပစ်ဖို့ ကြံစည်နေတာကိုသိလို့ လာကယ်တင်တာပါ။ အခုအချိန်မှာ ကျွန်တော်က ခင်ဗျားကို ဘယ်လို အသုံးချနိုင်မှာလဲ၊ ကျွန်တော့်အဖို့ကလည်း ဘာအကျိုးရှိမှာမို့လို့လဲ"

"ရှင်က ဘာဖြစ်လို့ ကျွန်မကို ကယ်ချင်ရတာလဲ"

"ဒါက အကြောင်းရှိလို့ ဖြစ်ပါတယ်၊ ကိုင်း ဘီလီ အချိန်က သိပ်မရှိတော့ဘူး၊ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်တို့က အခုညပဲ ဘီလီကို ခေါ်ထုတ်ပြီး ကွပ်မျက်မှာ သေချာပါတယ်။ ဒါကြောင့် အမြန်ဆုံး ဒီကထွက်ပြေးမှ ဖြစ်မယ်၊ အဝတ်အစား

မြန်မြန်လဲပါ၊ အပြင်ဘက်မှာ ကျွန်တော့်ကား အဆင်သင့် ရှိတယ်"

ရာဇင်က ထပ်ပြောတော့မှ ဘီလီသည် ယုံကြည်လာတော့သည်။

"ကောင်းပြီလေ၊ ကျွန်မ လိုက်ခဲ့ပါမယ်"

ရာဇင်သည် ဘီလီအား အဝတ်အစား အမြန်လဲခိုင်းပြီး သူကတော့ မီးဖိုခန်းထဲဝင်၍ ယခင်တကြိမ် အသုံးပြုခဲ့ဖူးသော လျှို့ဝှက်တံခါးမှ ထွက်ရန် ပြင်ဆင်လေသည်။

အံဖုံးတံခါးကို သံများဖြင့် အသေရိုက်ပိတ်ထားသဖြင့် အသင့်ပါလာသော သံနုတ်ကိရိယာဖြင့် သံများကို နုတ်ပစ်လိုက်လေသည်။

နောက်ဆုံး သံတချောင်းကို နုတ်ပြီးချိန်တွင် ဘီလီ၏ အခန်းပြင်မှ တံခါးကို တစုံတယောက် ဆွဲဖွင့်သံကြားလိုက်ရသဖြင့် ရာဇင်က ရင်ထဲမှ ဒိတ်ခနဲ ဖြစ်သွားလေသည်။

ရာဇင်သည် မီးဖိုခန်းနံရံတွင် အသာကပ်နေလိုက်ပြီး ငြိမ်သက်စွာနေရင်း ဘီလီ၏ အခန်းတွင်းသို့ အသာချောင်းကြည့်လိုက်လေသည်။

တံခါးဖွင့်၍ ဝင်လာသူကား ဗိုလ်ချုပ်ကြီး ပီထရော့ဗ်ဖြစ်ကြောင်း မြင်ရသောအခါ ရာဇင်သည် ပို၍ပင် ထိတ်လန့်သွားမိလေသည်။

"ဟဲလို အဝတ်အစားတွေ လဲထားလို့ပါလား၊ အပြင်ဘက် ထွက်မလို့လား"

ပီထရော့ဗ်က ဘီလီအား စတင်နှုတ်ဆက်လိုက်လေသည်။

"မဟုတ်ပါဘူး၊ ကျွန်မ ကျွန်မ ဒီမှာနေရတာ ငြီးငွေ့လာတာနဲ့ အဝတ်အစား လဲကြည့်တာပါ"

ဘီလီက ထစ်ထစ်ငေါ့ငေါ့ဖြင့် ပြန်ဖြေလိုက်လေသည်။ သူမ၏စိတ်ထဲတွင်ကား ရာဇင်ပြောသည့် အတိုင်း ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က မိမိအားသတ်ရန်လာပြီဟု ယုံကြည်ကာ အကြီးအကျယ် တုန်လှုပ် ချောက်ချားနေမိလေသည်။

"ဒါဖြင့် အတော်ပဲ၊ ကျုပ်က အခု မင်းကို အပြင်ဘက်ကို ခေါ်သွားမလို့ လာခဲ့တာ၊ ကျုပ်နဲ့အတူတူ လိုက်ခဲ့ပါ"

ဗိုလ်ချုပ်ကြီးက ဤသို့ ပြောလိုက်ရာ ဗီရာသည် ပို၍ပင် ကြောက်သွားမိလေသည်။

"ကျွန်မ အပြင်ဘက်ကို မထွက်ချင်ဘူးရှင့်၊ ကျွန်မ အိပ်ရာဝင်တော့မလို့"

"နောက်မှပဲ အိပ်ပါ၊ အခု ကျုပ်နဲ့ လိုက်ခဲ့ရမယ်၊ အတင်းအကျပ် မခေါ်ရပါစေနဲ့"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က လေသံ ခပ်တင်းတင်းဖြင့် ပြောလိုက်ရာ ဘီလီသည် ဘာမှ ဆက်မပြောဝံ့တော့ဘဲ လိုက်ရန်ပြင်ဆင်ရလေသည်။ မီးဖိုခန်းမှ ရာဇင်သည် အခြေအနေကို စောင့်ကြည့်နေခဲ့ရာ ပီထရော့ဗ်က ဘီလီအား ခေါ်ထုတ်သွားပြီး သတ်ပစ်တော့မည်ဟု တွက်ထားလိုက်မိလေသည်။

ထို့ကြောင့် ယခု မိမိက အမြန်လှုပ်ရှားမှ ဖြစ်ပေတော့မည်။ အခန်းထဲမှ မထွက်မီ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်အား အတင်းဖမ်း၍ ကြိုးနှင့် တုပ်ထားခဲ့ပြီး မိမိနှင့် ဘီလီတို့က လျင်မြန်စွာ ထွက်ပြေးလျှင် လွတ်မြောက်နိုင်စရာ ရှိသည်ဟု တွေးမိလေသည်။

ထိုအချိန်တွင် ပီထရော့ဗ်သည် ဘီလီအား ရှေ့မှ သွားစေကာ အခန်းတံခါးဝဆီသို့ လျှောက်သွားနေပြီ ဖြစ်သည်။

ရာဇင်သည် အသံထိန်းကိရိယာ တပ်ဆင်ထားသော ပစ္စတိုသေနတ်ကို အသင့်ထုတ်ကိုင်လိုက်ပြီး မီးဖိုခန်းထဲမှ ထွက်၍ အပြင်ဘက်ခန်းသို့ ဝင်လိုက်၏။

"ပီထရော့ဗ်"

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ရာဇင်၏အသံကို ကြားရလျှင် ချက်ချင်း ခြေလှမ်းတန့်သွားကာ အံ့အားသင့်လျက် လှည့်ကြည့်လိုက်လေသည်။

"ခင်ဗျား ဒီဘက်ကို ပြန်လျှောက်လာခဲ့ပါ"

ရာဇင်က သေနတ်ဖြင့် ချိန်လျက် အမိန့်ပေးလိုက်သည်။

ပီထရော့သည် ဘာမှမပြောဘဲ အရှုံးပေးဟန်ဖြင့် ရာဇင်ရှိရာသို့ ခြေတလှမ်း တိုးလာလေသည်။ တချိန်တည်းမှာပင် သူသည် အလွန် လျင်မြန်စွာ လက်တဘက်ဖြင့် ကုတ်အင်္ကျီအတွင်းမှ သေနတ်ကို ဆွဲယူလေသည်။

သို့သော် ရာဇင်က ဦးအောင်တချက်ပစ်လိုက်သည်။

ကျည်ဆန်က ရင်ဘတ်တည့်တည့်သို့ ထိမှန်သွားရာ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် မှောက်ထိုး လဲကျကာ ငြိမ်သက်သွားလေသည်။

ပစ္စတိုသေနတ်တွင် ဆိုင်လင်ဇာ တပ်ထားသဖြင့် အသံကလည်း

ကျယ်လောင်စွာ မပြည့်ချေ။

ရာဇင်သည် အံ့အားသင့် တုန်လှုပ်နေသူ ဘီလီအား မီးဖိုခန်းတွင်းသို့ လျင်မြန်စွာ ခေါ်သွားလေသည်။

သည်တော့မှ ဘီလီသည် ရာဇင်အား ကျေးဇူးတင်ဟန်ဖြင့်

"ကျွန်မ အခု ရှင့်ကို ယုံကြည်လာပါပြီ။ ကျွန်မတို့ ထွက်ပြေးလို့ လွတ်ပါ့မလားဟင်"

ဟု မေးလေသည်။

"ဒါတော့ မသိဘူး၊ လွတ်အောင်တော့ ကြိုးစားရမှာပဲ"

*

ရာဇင်သည် သူ၏မော်တော်ကားဖြင့် ဘီလီကို တင်ဆောင်ခေါ်၍ မြို့၏ အနောက်တောင်ဘက်ရှိ လေဆိပ်သို့ မောင်းသွားလေသည်။ မီးဖိုခန်းမှတဆင့် အဆောက်အအုံ အပြင်ဘက်သို့ ထွက်ရာ၌ အခက်အခဲ မရှိချေ။ သို့သော် ရာဇင်၏ မော်တော်ကားဖြင့် ဂိတ်ဝသို့ ထွက်သောအခါ ကေ-ဂျီ-ဘီ အစောင့်တဦးက ဖမ်းတားလေသည်။

ထိုအစောင့်သည် ရာဇင်အား မသိသဖြင့် စိစစ်ရေးကတ်ပြားပြရန် တောင်းဆိုလေသည်။ ရာဇင်က သူ၏ ကေ-ဂျီ-ဘီ ကတ်ပြားကို ထုတ်ပြလေတော့မှ ကျေနပ်သွားလေသည်။

"ဒီအမျိုးသမီးကကော"

"သူက ရာဇဝတ်မှုတခုမှ သက်သေဖြစ်တယ်၊ အခု ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က သူ့ကို လူတီယန်ကာ အကျဉ်းထောင်မှာ စစ်ဆေးဖို့အတွက် ပို့ခိုင်းလို့ ခေါ်သွားမလို့ပါ"

ရာဇင်က ခပ်တည်တည်နှင့် ပြောလိုက်ရာ ကေ-ဂျီ-ဘီ အစောင့်က ကျေနပ်ဟန်ဖြင့် ခွင့်ပြုလိုက် သဖြင့် ရာဇင်လည်း ကားကို မောင်းထွက်ခဲ့ လေသည်။

လမ်းတွင် ရာဇင်က ဘီလီအား ရှင်းပြလိုက်လေသည်။

"အခု လေဆိပ်ကို အမြန်ဆုံး သွားရမယ်၊ သူတို့ဘက်က လိုက်မလာခင် ရောက်အောင်သွားဖို့ အရေးကြီးတယ်၊ မကြာခင် သူတို့က ဗိုလ်ချုပ်ကြီး ပီထရော့ဗ်ကို လိုက်ရှာရင် တွေ့မှာပဲ၊ ပြီးတော့ ဘီလီရဲ့အခန်းအပြင်ဘက်က

တာဝန်ကျ အစောင့် ဘောရစ်ကို စစ်ဆေးလိုက်ရင် ခင်ဗျားရဲ့အခန်းမှာ ကျွန်တော်ရှိနေတာလဲ သိသွားလိမ့်မယ်။ သူတို့က လေဆိပ်ကျရင် တားဆီးဖို့ ကြိုးစားကြလိမ့်မယ်၊ ဒါပေမဲ့ ကျွန်တော်တို့ အရင်ဦးရင်တော့ တားလို့ရမှာ မဟုတ်ဘူး"

"လေဆိပ်ကျတော့ ကျွန်မက ဘာလုပ်ရမှာလဲ"

"ဘာမှ လုပ်စရာမလိုဘူး၊ ဟိုကျတော့ သိပါလိမ့်မယ်"

ထိုအချိန်၌ သူတို့၏ မော်တော်ကားသည် မြို့ပြင်သို့ ရောက်နေပြီဖြစ်လေသည်။

လေဆိပ်အနီးသို့ရောက်သောအခါ ရာဇင်သည် လမ်းမကြီးမှ မြေနီလမ်းတခုအတွင်းသို့ ချိုးကွေ့ မောင်းလိုက်သည်။ ထိုနေရာ၌ သစ်ပင်တောအုပ်များရှိရာ မော်တော်ကားကို သစ်ပင်များဘက်သို့ မောင်းသွားပြီး ရှေ့မီးလုံးများကို ပိတ်လိုက်သည်။

"ကိုင်း ဘီလီ၊ အခုဟာ လွတ်မြောက်ဖို့ နောက်ဆုံးအဆင့်ပဲ၊ ခင်ဗျားအဖို့ နည်းနည်းတော့ ပင်ပန်းလိမ့်မယ်၊ ဒါပေမဲ့ သိပ်မကြာပါဘူး"

ဤသို့အစချီကာ ရာဇင်က ဘီလီအား သူ၏ ကားထဲတွင် အသင့်ပါလာသော သံသေတ္တာကြီးကွင်းသို့ ခေတ္တဝင်နေရမည့်အကြောင်း ပြောပြလိုက်သည်။

"ဘယ်လောက်ကြာကြာ နေရမှာလဲရှင့်"

"လေယာဉ်ပေါ် ရောက်ပြီးလို့ လေယာဉ် စထွက်ပြီဆိုရင် သေတ္တာကို ဖွင့်ပြီး ခင်ဗျားကို ပြန်ထုတ်ပေးမှာပါ"

ဘီလီသည် ဘာမှဆက်မပြောတော့ဘဲ ရာဇင်ဖွင့်ပေးသော သံသေတ္တာကြီးတွင်းသို့ ဝင်လိုက်လေ သည်။

ရာဇင်က သေတ္တာကို ပြန်ပိတ်၍ သော့ခတ်လိုက်ပြီးနောက် မော်တော်ကားကို စက်နှိုးကာ လေဆိပ်သို့ ဆက်လက် မောင်းသွားလေသည်။ သူ၏စိတ်ထဲတွင်ကား လေဆိပ်၌ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်၏လူများ ရောက်နှင့်ပြီး စောင့်နေမည်လောဟု စိုးရိမ်နေမိလေသည်။

*

လေဆိပ်သို့ ရောက်သောအခါ မည်သူမှ စောင့်နေခြင်း မရှိသဖြင့် ရာဇင်သည် အားတက်သွားမိလေ သည်။

မော်တော်ကားကို လေဆိပ် အဆောက်အအုံအနီးတွင် ရပ်လိုက်ပြီးနောက် မရှေးမနှောင်းမှာပင် အဆောက်အအုံအတွင်းမှ ဗိုလ်ကြီးအဆင့်ရှိ ကေ-ဂျီ-ဘီ အရာရှိတဦး ထွက်လာလေသည်။ သူ့တွင် လက်နက်တစုံတရာ မပါသဖြင့် ရာဇင်လည်း စိတ်ထဲမှ သက်သာသလို ဖြစ်သွားမိလေသည်။

"မစ္စတာရာဇင်ဆိုတာ ခင်ဗျားလား"

ကေ-ဂျီ-ဘီ ကပ္ပတိန် (ဗိုလ်ကြီး) က စတင်မေးလိုက်သည်။

"ဟုတ်ပါတယ်၊ ကျုပ် ရာဇင်ပါပဲ"

"ကျုပ်ဟာ ကေ-ဂျီ-ဘီ ကပ္ပတိန် မက်ရှ်လော့ဖြစ်ပါတယ်။ ကျုပ်က ခင်ဗျားကိုစောင့်ပြီး အမြန်ဆုံး ထွက်ခွာနိုင်အောင် ကူညီဆောင်ရွက်ပေးဖို့ အမိန့်ရထားပါတယ်။ ဒါပေမဲ့ အရင်ဆုံး ခင်ဗျားရဲ့ စိစစ်ရေး ကတ်ပြားနဲ့ ပတ်စ်ပို့ လက်မှတ်ကြည့်ပါရစေ"

ဤတွင် ရာဇင်သည် သူ၏ ကေ-ဂျီ-ဘီ စိစစ်ရေးကတ်ပြားနှင့် နိုင်ငံကူးလက်မှတ် (ပတ်စ်ပို့) တို့ကို ထုတ်ပြလိုက်ရာ ကပ္ပတိန်မက်ရှ်လော့သည် ယူကြည့်ပြီးနောက် ကျေနပ်သွားပုံ ရလေသည်။

"ကောင်းပါပြီ၊ ခင်ဗျားအတွက် အထူးလေယာဉ်တစင်း အသင့်ရှိပါတယ်။ ဒီလေယာဉ်ပေါ်မှာ လေယာဉ်မှူးနဲ့ အဖွဲ့အပြင် ခင်ဗျားတယောက်တည်းပဲ လိုက်ပါသွားရလိမ့်မယ်၊ လေယာဉ်က ခုချက်ချင်းထွက်ပြီး လန်ဒန်မြို့ပြင်ဘက်က ဝက်စ်ရစ်ချ်လေဆိပ်ကို အရောက်ပို့ပေးလိမ့်မယ်။ ဒါထက် ခင်ဗျားနဲ့အတူ ပစ္စည်းအထုပ်တခု ပါလာလိမ့်မယ်လို့ ကျုပ်သိရပါတယ်။ အထုပ်က ဘယ်မှာလဲ"

ဤတွင် ရာဇင်က ပြုံးလိုက်သည်။

"အထုပ်ဆိုတာက ကျုပ်ကားပေါ် ပါလာတဲ့ သံသေတ္တာတလုံးပါပဲ၊ လန်ဒန်ရောက်ရင် ကျုပ်က ဒီသေတ္တာကို ဝန်ကြီးချုပ် ကီရင်ချင်ကို လက်ကို အပ်ရပါမယ်"

"သြော် သံသေတ္တာလား၊ ဒါကို တချို့လူတွေက ပစ္စည်းအထုပ်လို့ ပြောတာနဲ့ တူပါတယ် "

"ဟုတ်ကဲ့၊ အခု ကျုပ်ကားပေါ်က သေတ္တာကို လေယာဉ်ပေါ် သယ်ဖို့ အလုပ်သမား နှစ်ယောက် လိုပါတယ်"

ဤသို့ပြောပြီး ရာဇင်သည် သူ၏ မော်တော်ကားဆီသို့ လျှောက်သွားလေသည်။

မကြာမီ ကပ္ပတိန် မက်ရှ်လေ့သည် လေဆိပ်အလုပ်သမားနှစ်ဦး နှင့်အတူ ရောက်လာလေသည်။ ရာဇင်သည် သေတ္တာကို ကားပေါ်မှချ၍ လေယာဉ်ပေါ် သယ်တင်ရန် ပြောရင်း

"လေဆိပ်ပေါ်ကျတော့ သေတ္တာကို ခရီးသည်ထိုင်တဲ့ အခန်းမှာပဲ ထားခိုင်းပါ၊ ကျုပ်က တချိန်လုံး မျက်ခြည်မပြတ် ကြည့်နေရမယ်လို့ ညွှန်ကြားချက်ရှိလို့ပါ"

ဟု ပြောလိုက်ရာ ကပ္ပတိန် မက်ရှ်လေ့ကလည်း ခေါင်းညိတ်လျက် အလုပ်သမားများအား ဆက်လက် ညွှန်ကြားလိုက်သည်။

ထို့နောက် ရာဇင်က သူသည် ထွက်ခါနီး သတင်းပို့ရမည်ဖြစ်၍ တယ်လီဖုန်းဆက်လိုကြောင်း ပြောရာ ကပ္ပတိန် မက်ရှ်လေ့က လေဆိပ်ရုံးခန်းတခန်းရှိ တယ်လီဖုန်းကို ညွှန်ပြလိုက်သည်။

ရာဇင်လည်း ကပ္ပတိန်မက်ရှ်လေ့အား လေယာဉ်အနီးတွင် စောင့်ခိုင်းလိုက်ပြီးနောက် ရုံးခန်းတံခါးကို သေချာစွာ ပြန်ပိတ်၍ တယ်လီဖုန်းဆက်လေသည်။

သူဆက်သော တယ်လီဖုန်းကား မော်စကိုမြို့ရှိ အမေရိကန်သံအမတ် ယန်ဒါလ်ထံသို့ ဖြစ်လေသည်။

တဘက်မှ သံရုံးဝန်ထမ်းတဦးက ပြန်ဖြေသောအခါ ရာဇင်က

"သံအမတ်ကြီးနဲ့ ပြောချင်ပါတယ်၊ မစ္စတာပါကာနဲ့ ပတ်သက်ပြီး ပြောချင်ပါတယ်လို့ ပြောပါ" ဟု ပြောလိုက်သည်။

ချက်ချင်းလိုပင် သံအမတ်ကြီး ယန်ဒါလ်၏အသံကို ကြားရလေသည်။

"ဟဲလို ကျုပ် သံအမတ် ယန်ဒါလ် စကားပြောနေပါတယ်။ ခင်ဗျား မစ္စတာရာဇင်လား"

"ဟုတ်ပါတယ်၊ အမေရိကန်သမ္မတကတော် (ဖတ်စ်လေဒီ) ဆီကို တိုက်ရိုက် အကြောင်းကြားစရာ ရှိပါတယ်၊ သံအမတ်ကြီးက ကျွန်တော် ပြောတာကို လိုက်ရေးမှတ်ရင် ကောင်းပါမယ်"

"ပြောသာပြောပါ၊ စာရွက်နဲ့ ခဲတံ အသင့်ရှိတယ်"

"ဟုတ်ကဲ့ ကျွန်တော်ပြောတာသာ လိုက်ရေးမှတ်ပါ၊ သမ္မတကတော်သို့ ကျွန်တော် ရာဇင် လန်ဒန်မြို့သို့ ပစ္စည်းနှင့်အတူ လာနေပြီ၊ နံနက်စောစော ဝက်စ်ရစ်ချ်လေဆိပ်ကို ရောက်မည်။ လေဆိပ်မှာ လာကြိုနေစေလိုသည်။ ဝတ်စုံဝတ်လျှင် သားမွေးကုတ်အင်္ကျီပါ ဝတ်ခဲ့ပါ။ လေယာဉ် ဆိုက်သည်နှင့် လေယာဉ်ပေါ်သို့ တက်ခဲ့စေလိုသည်။ လေယာဉ်ပေါ်ကျမှ ဆက်လက် ညွှန်ကြား ပါမည်။ (ပုံ) ရာဇင် အကြောင်းပြန်ဖို့ကတော့ ဒါပါပဲ၊ ရှင်းရဲ့လားခင်ဗျ"

"ကျုပ်ကတော့ ဘာမှ နားမလည်ပါဘူး၊ ဒါပေမဲ့ ဖတ်စ်လေဒီကတော့ သဘောပေါက်လိမ့်မယ် ထင်ပါတယ်"

"ဒါဖြင့် သံအမတ်ကြီးက ရေးမှတ်ထားတာကို တခေါက် ပြန်ဖတ်ပြစမ်းပါ"

ရာဇင်က ပြောလိုက်လျှင် သံအမတ်ယန်ဒါလ်သည် တခေါက် ဖတ်ပြလေသည်။

"ဟုတ်ကဲ့၊ မှန်ပါတယ်၊ အဲဒီစာအတိုင်း သမ္မတကတော်ဆီ အမြန်ဆုံး ဆက်သွယ် အကြောင်းကြား ပေးပါ"

"စိတ်ချ၊ ကျုပ်အခု ချက်ချင်း ဆက်သွယ်သတင်းပို့ပါ့မယ်"

"ကျေးဇူးပါပဲ၊ ဒါဖြင့် ကျွန်တော်လည်း သွားရတော့မယ်၊ ဒါပါပဲခင်ဗျ"

ရာဇင်သည် တယ်လီဖုန်းကို ပြန်ချလိုက်ပြီး ပြန်ထွက်လာရာ အဆောက်အအုံ အပြင်ဘက်၌ ကပ္ပတိန်မက်ရှ်လေ့က စောင့်နေပြီး လေယာဉ်ဆီသို့ ခေါ်သွားလေသည်။

လေယာဉ်ပေါ်သို့ နှစ်ယောက်စလုံး တက်သွားကြပြီးနောက် ကပ္ပတိန် မက်ရှ်လေ့က

"ဟောဒီမယ် ခင်ဗျားရဲ့ သံသေတ္တာ"

ဟု ပြောရင်း လေယာဉ်ထိုင်ခုံအနီးရှိ သေတ္တာကို ညွှန်ပြလိုက်သည်။

ရာဇင်က ကျေနပ်ဟန်ဖြင့် ခေါင်းညိတ်ပြလိုက်ရာ ကပ္ပတိန်မက်ရှ်လေ့သည် လက်ဆွဲနှုတ်ဆက် လေသည်။

"ခင်ဗျားက ဒီလေယာဉ်နဲ့ပဲ ပြန်လာရမှာမို့ ကျုပ်စောင့်နေပါ့မယ်"

"ကျေးဇူးတင်ပါတယ်၊ ကျွန်တော့် မော်တော်ကားကိုလည်း ကြည့်ထားလိုက်ပါ"

ရာဇင်က ပြောရင်း သူ၏ မော်တော်ကားသော့ကို လှမ်းပေးလိုက်လေသည်။

ကပ္ပတိန်က နှုတ်ဆက်ပြီး ပြန်ဆင်းသွားသောအခါ လေယာဉ်မောင်းအဖွဲ့ဝင်တဦးက လေယာဉ် တံခါးကို ပြန်ပိတ်လိုက်သည်။

ရာဇင်သည် ထိုင်ခုံတခုတွင် ခြေပစ်လက်ပစ် ထိုင်ချလိုက်ရင်း စဉ်းစားနေမိလေသည်။

ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် မိမိ၏ သေနတ်ကျည်ဆန် ထိမှန်၍ သေသွားလေပြီလား။ သူ့အား တစုံတယောက်က တွေ့သွားပြီလား။ တွေ့သွားလျှင် အကြီးအကျယ် ပြဿနာ ဖြစ်လာပေတော့မည်။

ရာဇင်သည် သူ၏ကုတ်အင်္ကျီအိတ်ကို လက်ဖြင့် အသာစမ်းကြည့်လိုက်ပြီး ပစ္စတိုသေနတ် ပါလာသေးကြောင်း သိရသဖြင့် အားတက်သွားမိပြန်သည်။

ထိုအခိုက်မှာပင် လေယာဉ်သည် စတင်လှုပ်ရှားထွက်ခွာစပြုလေသည်။

*

မော်စကိုမြို့တွင် မိုးလင်းစပြုနေပြီဖြစ်သည်။

ကရင်မလင်နန်းတော်တနေရာတွင် ကေ-ဂျီ-ဘီ အဖွဲ့ အကြီးအကဲ ဗိုလ်ချုပ်ကြီ ပီထရော့ဗ်၏ ဆီဒင်မော်တော်ကားကြီးသည် မူလရောက်ရှိစဉ်က ရပ်ထားသောနေရာ၌ပင် ဆက်လက်ပြီး ရပ်စောင့်နေလေသည်။

ကား၏ရှေ့ခန်းတွင် ယာဉ်မောင်းသူ ကွန်စတာတင်နှင့် ဆူကိုလော့ဆိုသူ ခေတ်ပုံဆရာတို့ ထိုင်နေကြသည်။ ကား၏နောက်ပိုင်းတွင်ကား ဗိုလ်ချုပ်ကြီး ပီထရော့ဗ်၏ ယုံကြည်စိတ်ချရဆုံး ကိုယ်ရံတော် (ဘော်ဒီဂတ်) နှစ်ဦးဖြစ်သော ကပ္ပတိန် မာစကီနှင့် ကပ္ပတိန် ဒိုဂမ်လ်တို့ ထိုင်နေကြသည်။

သူတို့စောင့်နေကြသည်မှာ အချိန် အလွန်ကြာနေပြီဖြစ်ရာ ကပ္ပတိန် မာစကီသည် စိတ်မရှည်ဟန်ဖြင့် အပြင်ဘက်သို့ လှမ်းကြည့်ရင်း

"ကြာလိုက်တာဗျာ၊ အခု မိုးတောင်လင်းလာပြီ၊ ကျုပ်တို့ တယ်မကြိုက်ချင်ဘူး၊ ဒီကိစ္စက ညတွင်းချင်း ပြီးအောင် လုပ်ရမယ့်ကိစ္စ ဖြစ်တယ်"

ဟု ပြောလိုက်လေသည်။

ကပ္ပတိန် ဒိုဂမ်လ်က ပြန်မေးလိုက်သည်။ မာစကီအနေဖြင့်ကား အကြံအစည်တခုသည် မူလ ရည်မှန်းထားသည့်အချိန်အတွင်း ပြီးစီးမှသာ

ချောမောအောင်မြင်နိုင်သည်ဟု ယုံကြည်လေသည်။ သူတို့၏ ဆရာကြီး ပီထရော့ဗ်သည် ယခု အလွန်ကြာနေခြင်းကိုလည်း နားမလည်နိုင်အောင် ဖြစ်နေမိလေသည်။

သူတို့၏ မူလအကြံအစည်ကိုလည်း မာစကီးက ပြန်လည် စဉ်းစားမိလေသည်။ အစီအစဉ်အရ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် အမျိုးသမီးအား ကားပေါ်သို့ ခေါ်လာမည်ဖြစ်သည်။ အမျိုးသမီးသည် သတိမေ့နေမည် ဖြစ်သည်။ ကားပေါ် ရောက်သောအခါလည်း မျက်နှာကို အုပ်ထားရမည်ဖြစ်ပြီး ယာဉ်မောင်း ကွန်စတာတင်က မော်တော်ကားကို မြို့ပြင်ရှိ သင်္ချိုင်းသို့ အမြန်ပင် မောင်းသွားရမည် ဖြစ်သည်။ သင်္ချိုင်းတွင် အလောင်းကို မြေမြှုပ်ရန် တွင်းတခု အသင့်တူးပြီးသား ရှိနေမည်ဖြစ်သည်။ သင်္ချိုင်းရောက်လျှင် မာစကီက အမျိုးသမီးအား သေနတ်နှင့်ပစ်သတ်ရမည်။ ထို့နောက် ဓာတ်ပုံဆရာ ဆုကိုလော့စ်က အမျိုးသမီးအလောင်းကို ဓာတ်ပုံရိုက်ယူရမည်။ ဓာတ်ပုံရိုက်ပြီးသည်နှင့် ကပ္ပတိန် ဒိုဂမ်လ်က အမျိုးသမီး၏မျက်နှာကို လုံးဝ မမှတ်မိအောင် ရုပ်ပျက်သွားစေရန် အက်စစ် (ငရဲမီး) ဖြင့် ပက်ဖျန်းရမည်ဖြစ်သည်။ ပြီးလျှင် အလောင်းကို တွင်းထဲပစ်ရန်နှင့် မြေဖို့လိုက်ကြရမည်ဖြစ်ပါသည်။ ထို့နောက် လူတို့အားလုံး ကေ-ဂျီ-ဘီ ဌာနချုပ်သို့ ပြန်လာပြီး ဓာတ်ပုံများ ကူးကာ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်လက်သို့ အပ်ကြရမည်။ ပီထရော့ဗ်ကတဆင့် ဓာတ်ပုံများကို ရာဇင်အား ပေးမည် ဖြစ်သည်။

ဤကား သူတို့၏ မူလအကြံအစည်ဖြစ်ပြီး ယခုအချိန်အထိ အကောင်အထည် မဖော်ရသေးဘဲ ဖြစ်နေပေသည်။

မာစကီသည် စဉ်းစားရာမှ လက်ပတ်နာရီကို ငုံ့ကြည့်လိုက်သည်။

"အခုဆိုရင် ကျုပ်တို့ စောင့်နေတာ သုံးနာရီ ကျော်သွားပြီ၊ မိုးလည်း လင်းနေပြီ၊ အခြေအနေကို ကျုပ်တော့ သဘောမကျဘူး၊ ဘာဖြစ်နေသလဲဆိုတာ သွားကြည့်မှ ကောင်းမယ် ထင်တယ်"

မာစကီက ဤသို့ပြောရာ သူ၏အဖော် ကပ္ပတိန်ဒိုဂမ်လ်က

"ကျုပ်တော့ မပြောတတ်ဘူး၊ ကျုပ်တို့ကို အမိန့်ပေးထားတာက ဒီမှာပဲ စောင့်နေဖို့ ဖြစ်တယ်။ ခင်ဗျား ဝင်သွားရင် ဗိုလ်ချုပ်ကြီးကို အနှောင့်အယှက်ပေးရာ ရောက်နေပါဦးမယ်" ဟု ပြန်ပြောလေ သည်။

"ဘာပဲဖြစ်ဖြစ်ဗျာ၊ ကျုပ်တော့ သွားဝင်ကြည့်လိုက်မယ်၊ ပြဿနာဖြစ်လာတော့မှ ကြည့်ရှင်းတာပေါ့"

ပြောပြောဆိုဆို ကပ္ပတိန် မာစကီသည် သမ္မတကတော် ဘီလီကိုထားသည့် အဆောင်ဆီသို့ ထွက်သွားလေသည်။ အဆောင်အပြင်ဘက်တွင် လုံခြုံရေးအစောင့် ဘောရစ်ဆိုသူကို တွေ့ရလေသည်။

"ဟဲလို ဘောရစ်၊ အထဲမှာ ဘယ်သူတွေရှိသလဲ"

မာစကီက မေးလိုက်လေသည်။

"ဟုတ်ကဲ့၊ အမျိုးသမီး ရှိပါတယ်၊ ပြီးတော့ မစ္စတာရာဇင်လည်း ရှိပါတယ်"

"အလို ရာဇင်လည်း ရောက်နေသလား"

မာစကီက အံ့အားသင့်စွာဖြင့် ပြန်မေးလိုက်လေသည်။

"ဟုတ်ကဲ့ခင်ဗျ၊ သူရောက်နေတာ အခုဆိုရင် လေးနာရီကျော်သွားပြီ၊ နောက်တော့ ဗိုလ်ချုပ်ကြီး ပီထရော့ဗ် လာပါတယ်၊ သူလည်း အခု အဆောင်ထဲမှာပဲ ရှိနေပါတယ်"

"သူတို့ တယောက်မှ ပြန်ထွက်မလာကြသေးဘူးလား"

"မထွက်လာသေးပါဘူး"

"ဒါဖြင့် ကျုပ်အနေနဲ့ ကိစ္စအရေးကြီးလို့ ဗိုလ်ချုပ်ကြီးနဲ့ ဝင်တွေ့မှ ဖြစ်မယ်၊ ကျုပ်ဝင်နိုင်အောင် တံခါးဖွင့်ပေးစမ်းပါ"

မာစကီက ပြန်ပြောလိုက်လျှင် ဘောရစ်ဆိုသူလည်း သော့ပိတ်ထားသော အဆောင်တံခါးကို သော့ဖွင့်ပေးလိုက်သည်။

ကပ္ပတိန် မာစကီးသည် တံခါးကို ဖွင့်၍ ဝင်လိုက်သည်နှင့် အံ့အားသင့် တုန်လှုပ်သွားမိလေသည်။

အကြောင်းမူကား ဗိုလ်ချုပ်ကြီး ပီထရော့ဗ်သည် ကြမ်းပြင်ပေါ်တွင် မလှုပ်မယှက် လဲကျနေသည်ကို မြင်လိုက်ရသောကြောင့်ပင်တည်း။

မာစကီသည် အပြင်ဘက်ရှိ ဘောရစ်အား လှမ်းအော်ခေါ်လိုက်ရင်း ဗိုလ်ချုပ်ကြီး ပီထရော့ဗ်အနီးတွင် ဒူးထောက်၍ ကိုယ်ကို သေချာစွာကြည့်လိုက်ရာ သေနတ်ကျည်ဆန် ထိမှန်ထားသော ဒဏ်ရာကို မြင်ရလေသည်။

ထို့နောက် လက်ကောက်ဝတ်နေရာကို ကိုင်၍ သွေးခုန်နှုန်းကို အသာ စမ်းကြည့်လိုက်သည်။

"ဟာ တော်သေးတယ်၊ မသေသေးဘူး"

ဟု ပြောရင်း ဝင်လာသူ အစောင့် ဘောရစ်အား

"ဟေ့ သူနာပြုကားတစီး အမြန်ခေါ်လိုက်စမ်း၊ ပြီးတော့ တပ်လှန့်နိုးတဲ့ အချက်ပေးခလုတ် ကိုလည်း နှိပ်လိုက်ပါ"

ဟု အမိန့်ပေးလိုက်လေသည်။ လုံခြုံရေးအစောင့် ဘောရစ်သည် လျင်မြန်စွာ ပြန်လှည့် ထွက်သွားလေသည်။

သည်တော့မှ ကပ္ပတိန်မာစကီသည် သူ၏ ပစ္စတိုသေနတ်ကို အသင့်ပြင် ထုတ်ကိုင်ပြီး အခန်းတွင်းသို့ လှည့်ပတ်ကြည့်လေသည်။

ဤအဆောင်အတွင်း၌ ဘီလီနှင့် ရာဇင်တို့ ရှိရဦးမည်ဖြစ်ရာ သူတို့ ဘယ်ရောက်နေကြ လေသနည်း။

မာစကီသည် ဧည့်ခန်းမှတဆင့် အိပ်ခန်းအတွင်းသို့ ဝင်ကြည့်ရာ မည်သူမျှ မရှိကြောင်း တွေ့ရလေသည်။ တဖန် ရေချိုးခန်းနှင့် မီးဖိုခန်းသို့ သွားကြည့်တော့လည်း မည်သူမျှ မရှိချေ။

အမေရိကန်သမ္မတကတော် ဘီလီနှင့်ရာဇင်တို့ နှစ်ဦးစလုံး ပျောက်နေကြလေသည်။

သူတို့နှစ်ဦး ထွက်ပြေးသွားကြောင်း ထင်ရှားနေပေပြီ။ သို့သော် မည်သို့မည်ပုံ ထွက်ပြေးသွားကြလေ သနည်း။

ဤတွင် မာစကီသည် မီးဖိုခန်းရှိ လျှို့ဝှက်အံဖုံးတံခါးကို ချက်ချင်းပင် သတိရမိလေသည်။

ထို့ကြောင့် အံဖုံးတံခါးရှိရာသို့ ပြေးကြည့်ရာ တံခါးက နေရာတကျ ပိတ်ထားသည်ကို တွေ့ရလေ သည်။ သို့သော် အသေရိုက်ထားသော သံများကို နုတ်ပစ်ထားကြောင်းကို သတိပြုမိပြန်သည်။

မာစကီသည် အံဖုံးတံခါးကို ဖွင့်၍ လက်နှိပ်ဓာတ်မီးဖြင့် ထိုး၍ ကြည့်ပြီးနောက် ရာဇင်နှင့် ဘီလီတို့သည် အံဖုံးတံခါးမှ ထွက်ပြေးခြင်း ဖြစ်ရမည်ဟု ကောက်ချက်ချမိလေသည်။

ရာဇင်လို ဝါရင့် ကေ-ဂျီ-ဘီ အရာရှိတစ်ဦးအား ဘာကြောင့် အခုလို လုပ်ရသည်ကိုကား စဉ်းစားရခက်နေပေသည်။ အမေရိကန် ထောက်လှမ်းရေး (စီ-အိုင်-အေ) က ရာဇင်အား ငွေဖြင့် ပေါက်၍ ဝယ်ယူလိုက်ခြင်းဖြစ်လေသလား။

သို့မဟုတ် ရာဇင်သည် မူလကပင် အမေရိကန်ဘက်သား နှစ်ဘက်သူလျှို ဖြစ်နေသလား။ သို့တည်းမဟုတ် ရာဇင်သည် အမေရိကန်သမ္မတကတော်အား ကွပ်မျက်မည့်အကြောင်း သတင်းရ၍ နောက်ပိုင်း ဆုလာဘ် မျှော်ကိုးပြီး ကယ်တင်ရန် ကြိုးစားခြင်း ဖြစ်လေသလော။

မည်သို့ပင်ဖြစ်စေ အမေရိကန်သမ္မတကတော်အား မော်စကိုမြို့မှ ခေါ်ထုတ်သွား၍ မည်သို့မှ မဖြစ်နိုင်သောကြောင့် ရာဇင်၏အပြုအမူသည် အဓိပ္ပာယ်မရှိ ဖြစ်နေပေသည်။

မာစကီသည် အဆောင်အပြင်ဘက်သို့ ထွက်လာသောအခါ ကေ-ဂျီ-ဘီ အဖွဲ့ဝင်များ မော်စကို ရဲတပ်ဖွဲ့မှ စုံထောက်များ ရောက်ရှိနေကြပြီဖြစ်သည်။ ထိုအချိန်တွင် သူနာပြု ကားတစီး မောင်းထွက်သွားသည်ကို မြင်ရလေသည်။

သူသည် မော်တော်ကားဆီသို့ ပြန်လာပြီး ယာဉ်မောင်း ကွန်စတာတင်အား ကရင်မလင် နန်းတော်၏ သီးသန့်ဆေးရုံသို့ အမြန်မောင်းခိုင်းလေသည်။ လမ်းတွင် မာစကီက ဒိုဂမ်လ်နှင့် ဆူကိုလော့တို့အား ဖြစ်ပျက်ပုံကို ပြောပြလိုက်လေသည်။

"ယခုအတိုင်းဆိုရင် အဖြစ်မှန်ကို ဗိုလ်ချုပ်ကြီး ပီထရော့ဗ်ကသာ ပြောပြနိုင်မည်။ ဒါလည်း သူမသေမှ ဖြစ်မှာ" မာစကီက စကားကို အဆုံးသတ်လိုက်သည်။

သူတို့ ဆေးရုံသို့ ရောက်သောအခါ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်အား ခွဲစိတ်ကုသခန်းထဲ၌ အထူးကု ဆရာဝန်ကြီးများက ဝိုင်းဝန်းကုသလျက် ရှိနေကြပြီဖြစ်သည်။ မာစကီတို့လူစုလည်း အခြေအနေကို သိလိုသဖြင့် ထိုင်စောင့်နေကြလေသည်။

အချိန် တစ်နာရီကျော်ကျော်ကြာမှ ဆရာဝန်များ အဖွဲ့ခေါင်းဆောင် ခွဲစိတ်ကုသရေး အထူးကု ဆရာဝန်ကြီးက ပြင်ဘက်သို့ ထွက်လာပြီး မာစကီးတို့အား အားပေးစကား ပြောလေသည်။

"အခုအတိုင်းဆိုရင် ဗိုလ်ချုပ်ကြီးဟာ အသက်ရှင်ဖို့ များပါတယ်၊ ခင်ဗျားတို့အနေနဲ့ သူနဲ့တွေ့ပြီး မေးမြန်း စုံစမ်းချင်မယ်ဆိုတာ ကျုပ် နားလည်ပါတယ်။ ဒါပေမဲ့ လက်ရှိအခြေအနေအရ နောက်နှစ်ရက် သုံးရက်အတွင်းကို ခင်ဗျားတို့ ဗိုလ်ချုပ်ကြီးနဲ့ စကားပြောလို့ ရမှာ မဟုတ်ဘူး၊ လူနာရဲ့အခြေအနေအကြောင်းကိုတော့ ကျုပ်တို့ နေ့စဉ် ခင်ဗျားတို့ကို သတင်းပို့ အစီရင်ခံပါမယ် လေ"

ကပ္ပတိန်မာစကီသည် မည်သို့မှ မတတ်နိုင်ဘဲ မိမိတို့အနေဖြင့်

ဆက်လက်လုပ်ကိုင် ဆောင်ရွက်စရာ ရှိသည်တို့ကို ဆောင်ရွက်ရန်အတွက် ကေ-ဂျီ-ဘီ ဌာနချုပ်ရှိ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်၏ ရုံးခန်းသို့ ချက်ချင်း သွားလေတော့သည်။

*

မော်စကိုမှ လန်ဒန်သို့ ပျံသန်းသွားရသည့် လေယာဉ်ခရီးမှာ သုံးနာရီခွဲခန့် ဖြစ်လေသည်။

ရာဇင်သည် လေယာဉ်ထွက်၍ ခဏမျှအကြာတွင် သေတ္တာကြီးကို အမြန်ဖွင့်လိုက်လေသည်။ အတွင်း၌ကား ဘီလီသည် ကွေး၍နေကာ မျက်စိမှိတ်ထားသည်ကို တွေ့ရလေသည်။

ရာဇင်က သူမအား ညင်သာစွာပွေ့၍ အပြင်ဘက်သို့ ထုတ်လိုက်လေသည်။

ဘီလီသည် မျက်လုံးဖွင့်ကြည့်လေသည်။

ရာဇင်က သူမ၏လက်ချောင်းနှင့် ပခုံးများကို နှိပ်ပေးလိုက်ရာ ဘီလီသည် နေသာထိုင်သာ ရှိသွားဟန်ဖြင့် လေယာဉ်ထိုင်ခုံတွင် မှီရင်းမှ အိပ်ပျော်သွားလေသည်။

ရာဇင်လည်း စိတ်လက်ချ စီးကရက်တလိပ် သောက်နေပြီးနောက် သူကိုယ်တိုင် အိပ်ငိုက်လာသဖြင့် အိပ်လိုက်လေသည်။

နောက် နှစ်နာရီခန့်ကြာမှ သူသည် ရုတ်တရက် ပြန်နိုးလာရာ ထိုအချိန်၌ ဘီလီသည် နိုးနေပြီ ဖြစ်ကြောင်း တွေ့ရလေသည်။

"ဟဲလို ဘီလီ၊ ဘယ့်နှယ့်လဲ နေလို့ကောင်းရဲ့လား"

ရာဇင်က မေးလိုက်ရာ ဘီလီသည် ခေါင်းညိတ်ပြလေသည်။

"ဟုတ်ကဲ့ သက်သာပါတယ်၊ အခု ကျွန်မတို့ ဘယ်ရောက်နေပြီလဲ"

"နောက်တစ်နာရီလောက်ကြာရင် လန်ဒန်ကို ရောက်တော့မယ်လေ"

"ဒီလိုဆိုရင် ကျွန်မတို့ လွတ်မြောက်ဖို့ စိတ်ချရပြီလားဟင်"

"စိတ်ချရပြီလို့ ထင်တာပဲ"

"ဒါဖြင့် တော်ပါသေးရဲ့၊ ကျွန်မတော့ ရှင့်ကို ကျေးဇူးတင်လို့ မဆုံးပါဘူး၊ အခုလို ရှင်က ကျွန်မကို ကူညီတာဟာ ရှင့်အတွက် အလွန်အန္တရာယ် များပါတယ်၊ ရှင်က ဘာကြောင့် ကူညီရတာလဲ"

"ဒီအကြောင်းကို ပြောရရင် အရှည်ကြီးပဲ၊ ဖြည်းဖြည်းမှ ပြောပြမယ်၊ လောလောဆယ် အားရှိသွားအောင် ဟောဒါလေး နည်းနည်း သောက်လိုက်ပါဦး"

ပြောပြောဆိုဆို ရာဇင်သည် သူ၏ အင်္ကျီအိတ်တွင်းမှ ဗော့ဒ်ကာ အရက်ပုလင်းပြားတခု ထုတ်ယူ၍ ဘီလီအား တိုက်လိုက်လေသည်။

"ကဲ အခု ကျွန်မ အားရှိလာပြီ၊ ရှင့်အကြောင်း ပြောပြစမ်းပါဦးရှင့်"

ဘီလီက ထပ်၍ မေးပြန်ရာ ရာဇင်လည်း ဇာတ်လမ်း၏အစ ဖြစ်ပေါ်လာပုံ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်က ဘီလီနှင့် ရုပ်ချင်းအလွန်ဆင်သူ ပြဇာတ်မင်းသမီး ဗီရာအား ကိဗ်မြို့တွင် တွေ့ခဲ့ရာမှ အစ အမေရိကန်သမ္မတ ကတော်နေရာ လူစားထိုးရန် အကြံအစည် ဖြစ်ပေါ်ခဲ့ပုံများကို ပြောရင်း သူနှင့် ဗီရာတို့ ချစ်ကြိုက်ရည်ငံခဲ့ပုံများကိုပါမကျန် ပြောပြလိုက်သည်။

"နောက်ပိုင်းကျတော့ ခင်ဗျားတို့ရဲ့သတင်းစာဆရာ ပါကာက ခင်ဗျား မော်စကိုမြို့မှာ ရှိနေကြောင်းနဲ့ ခင်ဗျားကို ဒီနေ့ည သုတ်သင် ကွပ်မျက်ဖို့ ရုရှအာဏာပိုင်တွေက စီစဉ်နေတာကို တနည်းနည်းနဲ့ သိသွားတယ်၊ သူက အမေရိကန် သံအမတ် ယန်ဒါလ်ကတဆင့် ကျွန်တော့်ကို ဆက်သွယ်ပြီး ခင်ဗျားအသတ်မခံရအောင် အကူအညီ တောင်းတယ်၊ ဒီအချိန်ကျတော့ ကျွန်တော်တို့ရဲ့ အထက်လူကြီးတွေဟာ အလွန်ရက်စက်တဲ့ လူယုတ်မာတွေပါလားလို့ သဘောပေါက်လာမိတယ်၊ ဒါကြောင့် ကျွန်တော်ဟာ ကိုယ့်အသက်ကို စွန့်ပြီး ခင်ဗျားအသက်ကို ကယ်ဖို့ ဆုံးဖြတ်လိုက်တာပဲ"

ရာဇင်ပြောနေစဉ် ဘီလီသည် အလွန်အံ့သြဟန်ဖြင့် ငေးပြီး နားထောင်နေလေသည်။

စကားဆုံးသွားတော့မှ ဘီလီက

"ရှင်ဟာ ကျွန်မကိုကယ်ဖို့အတွက် ဗိုလ်ချုပ်ကြီးပီထရော့ဗ်ကို သေနတ်နဲ့ ပစ်ခဲ့တယ်၊ ဒီတော့ ရှင် ဘာဖြစ်မလဲ" ဟု မေးလိုက်သည်။

"ဒါတော့ ခင်ဗျားအပေါ် မူတည်နေပါတယ်"

"ဘာကိုဆိုလိုတာလဲရှင့်၊ ကျွန်မက ဘာလုပ်ပေးနိုင်မှာလဲ၊ ရှင်က ဘာလိုချင်တာလဲ"

"ကျွန်တော်တို့ ဗီရာတို့ နှစ်ယောက်စလုံး အသက်ရှင်တာကို လိုချင်ပါတယ်၊ အခု ဒီလေယာဉ် ဆိုက်တာနဲ့ ဗီရာကိုယ်တိုင် လာကြိုနေလိမ့်မယ်၊ အဲဒါကို ကြိုတင် စီစဉ်ထားပြီးပြီ။ သူကတော့ ခင်ဗျားကို မြင်ရင် တုန်လှုပ်ချောက်ချားသွားမှာပဲ၊

ဒါပေမဲ့ ကျွန်တော်က သူ့ကို နှစ်သိမ့် ဖျောင့်ဖျပြီး ပြောပြပါ့မယ်၊ လန်ဒန်ရောက်တာနဲ့ ခင်ဗျားနဲ့ ဗီရာတို့ဟာ နေရာချင်း လဲလိုက်ကြရမယ်။ လူချင်းလဲတဲ့ဆီမှာ ပိုပြီးအဆင်ပြေအောင် ဗီရာကိုပါ ခင်ဗျားအခု ဝတ်ထားသလို ဝတ်လာခိုင်းထား တယ်၊ ပြီးတော့ ခင်ဗျားက ဗီရာနဲ့ ကျွန်တော့်ကို လုံခြုံတဲ့တနေရာရာမှာ ခေတ္တဝှက်ထား ပေးရမယ်၊ လေဆိပ်ကထွက်ရာမှာ ခင်ဗျားက အမေရိကန် သမ္မတကတော် ဖြစ်နေတော့ ဘယ်သူကမှ တားမှာ မဟုတ်ဘူး"

"ဖြစ်နိုင်ပါတယ်၊ လန်ဒန်မြို့ အနောက်ပိုင်းမှာ ကျွန်မနဲ့ အလွန်ခင်မင်တဲ့ မိတ်ဆွေတဦးရဲ့အိမ် ရှိပါတယ်"

"ပြီးတော့ ကျွန်တော်နဲ့ ဗီရာတို့အတွက် အမေရိကန်နိုင်ငံကူးလက်မှတ် ရအောင် စီစဉ်ပေးစေချင် ပါတယ်"

"ဒါလဲ စီစဉ်လို့ ရပါတယ်"

"နောက်တခုက အင်္ဂလန်ပြည်က ပလတ်စတစ် ဆာဂျရီ ခွဲစိတ်ကုသရေး အထူးကုဆရာဝန်တဦးနဲ့ ဆက်သွယ်ဖို့ လိုတယ်၊ ကျွန်တော်နဲ့ ဗီရာနှစ်ယောက်စလုံးဟာ နဂိုရုပ်ပျောက်ပြီး ရုပ်အသွင်တမျိုး ဖြစ်အောင် မျက်နှာကို ပြောင်းပစ်လိုက်ရမယ်။ ဒါမှလဲ ကျွန်တော်တို့အနေနဲ့ ရုရှ ကေ-ဂျီ-ဘီ ထောက်လှမ်းရေးရဲ့နောက်ပိုင်းရန်ကို စိတ်ချရမယ်"

"စီစဉ်ပေးလို့ ဖြစ်ပါတယ်"

"နောက်ဆုံး အမေရိကန်ကို ရောက်သွားလို့ အခြေကျသွားတဲ့အခါ ကျွန်တော့်အတွက် သတင်းထောက် အလုပ်ဖြစ်ဖြစ်၊ ကျောင်းဆရာအလုပ်ဖြစ်ဖြစ် ရအောင်ရယ် ဗီရာကိုလည်း ပြဇာတ် မင်းသမီးအဖြစ် အလုပ်ရအောင် ကူညီစေချင်ပါတယ်"

"စိတ်ချပါ၊ ကျွန်မ ကူညီနိုင်ပါတယ်"

"ကောင်းပါပြီ၊ နောက်ဆုံးတခု ပြောချင်ပါသေးတယ်၊ အခု ခင်ဗျားရင်ဆိုင်တွေ့ကြုံခဲ့တဲ့ အဖြစ်အပျက်တွေကို ဘယ်သူမှ မသိပါစေနဲ့၊ လုံးဝ မပေါက်ကြားအောင် လျှို့ဝှက်ထားစေချင် ပါတယ်၊ ဘာဖြစ်လို့လဲဆိုတော့ ခင်ဗျားကို ကျွန်တော်တို့ ဖမ်းဆီးချုပ်နှောင်ထားခဲ့တာကို ခင်ဗျားယောကျ်ား သို့မဟုတ် အမေရိကန် အစိုးရက သိသွားရင် အမေရိကန်နဲ့ ဆိုဗီယက် ယူနီယံတို့ဟာ အကြီးအကျယ် ထိပ်တိုက်တွေ့ပြီး ကမ္ဘာ့ငြိမ်းချမ်းရေးကိုပါ ထိခိုက်စရာ အကြောင်းတွေ ရှိပါတယ်"

ရာဇင်၏ စကားကို ဘီလီကလည်း နားလည်သဘောပေါက်ပုံရလေသည်။

"ကျွန်မတယောက်တည်းအနေနဲ့ကတော့ ပြန်လည် ကလဲ့စားချေချင်တဲ့စိတ်ရှိတာ အမှန်ပါပဲ။ ဒါပေမဲ့ ကျွန်မစိတ်ကို ထိန်းပါမယ်။ အခု ရှင့်ကို ကတိပေးပါတယ်။ ကျွန်မ ဒီအကြောင်းကို ဘယ်သူ့ကိုမှ မပြောပါဘူး"

ဤတွင် ရာဇင်သည် ကျေနပ်သွားဟန်ဖြင့် ပြုံးလိုက်လေသည်။

"ဒီလိုဆိုရင် ခင်ဗျားကို ကျွန်တော် ကူညီခဲ့တာကို ပြန်လည် ကျေးဇူးဆပ်ရာလည်း ရောက်ပါမယ်၊ ပြောရင်းဆိုရင်း အရဏ်တက်ချိန်တောင် နီးလာပြီ၊ အခုနေအခါ မော်စကို မြို့မှာတော့ ဘာတွေဖြစ်ကုန်မလဲ မသိဘူး"

*

မော်စကိုမြို့ ကေ-ဂျီ-ဘီ ဌာနချုပ် အဆောက်အအုံအတွင်းရှိ ဗိုလ်ချုပ်ကြီး ပီထရော့ဗ်၏ ရုံးခန်းထဲတွင် ကပ္ပတိန် မာစကီသည် စာရွက်စာတမ်းများနှင့် လန်ဒန်မှ ပို့လိုက်သော လျှို့ဝှက် သတင်းပို့ချက်များကို လေ့လာကြည့်ရှုနေလေသည်။ သူနှင့်အတူ ကပ္ပတိန် ဒိုဂမ်လ်နှင့်အခြား ကေ- ဂျီ-ဘီ အရာရှိသုံးဦးတို့လည်း ရှိနေကြသည်။ သူတို့သည် စက္ကင်းလေဒီ လျှို့ဝှက် စီမံချက် အကြောင်းကို သိထားသူများ ဖြစ်ကြလေသည်။

ကပ္ပတိန်မာစကီသည် ဗိုလ်ချုပ်ကြီး ပီထရော့ဗ်၏ စာရွက်စာတမ်းများကို အသေးစိတ် လေ့လာ ကြည့်ပြီးသောအခါ ဖြစ်ပျက်ပုံ အမှန်ကို သဘောပေါက်မိလေသည်။ အမေရိကန်သမ္မတကတော် အစစ် ဘီလီအား ကွပ်မျက်ရန် အစီအစဉ်ကို ရာဇင်က တနည်းနည်းဖြင့် သိရှိသွားပြီး ဘီလီအား သယ်ထုတ်သွားကြောင်း ထင်ရှားနေပြီ ဖြစ်သည်။

မာစကီသည် လေဆိပ်သို့ တယ်လီဖုန်း ဆက်ကြည့်သောအခါ ရာဇင်သည် လန်ဒန်မြို့သို့ လေယာဉ်ဖြင့် ထွက်ခွာသွားရာ၌ သံသေတ္တာကြီးတလုံး ယူဆောင်သွားကြောင်း သိရလေသည်။

ဤတွင် မာစကီးသည် သူ၏ ယူဆချက် မှန်ကန်လေပြီဟု တထစ်ချ ဆုံးဖြတ်လိုက်လေသည်။

လန်ဒန်မြို့တွင် အမေရိကန် သမ္မတကတော်အစစ် ဘီလီနှင့် မိမိတို့ လူ ဗီရာတို့နှစ်ယောက် ထိပ်တိုက်တိုးကြလျှင်ကား မိမိတို့ ကေ-ဂျီ-ဘီအဖွဲ့ လုပ်ကြံမှုကြီးသည် ဘွင်းဘွင်းကြီး ပေါ်သွားကာ အကြီးအကျယ် ပြဿနာ ပေါ်လာပေတော့မည်။

ထို့ကြောင့် ကပ္ပတိန် မာစကီသည် လန်ဒန်မြို့ရှိ ဝန်ကြီးချုပ် ကီရင်ချင်ကိုထံသို့ ချက်ချင်း အကြောင်းကြားရန် ဆုံးဖြတ်လိုက်လေသည်။

*

လန်ဒန်မြို့ ကရဲရစ်ချ်ဟိုတယ်တွင် သတင်းစာဆရာ ပါကာသည် နိုရာနှင့်အတူ နံနက်စာ စားရန် ပြင်ဆင်နေစဉ် သမ္မတ၏ အရေးပေါ် သီးသန့် တယ်လီဖုန်း လာသဖြင့် ပါကာသည် နိုရာအား ချက်ချင်း နားထောင်ခိုင်းလိုက်သည်။

ထင်သည့်အတိုင်းပင် တယ်လီဖုန်းဆက်သူမှာ မော်စကိုမြို့မှ အမေရိကန်သံအမတ် ယန်ဒါလ် ဖြစ်နေလေသည်။

သံအမတ်ကြီးက လိုရင်းကို တိုက်ရိုက်ပြောသည်။

"ဟဲလို နိုရာလား၊ သမ္မတကြီးဇနီးမောင်နှံ အိပ်တုန်းလား၊ ကိစ္စမရှိပါဘူး၊ မစ္စတာပါကာကိုသာ ပြောလိုက်ပါ၊ ကျုပ်က သူ ညွှန်ကြားတဲ့အတိုင်း ရာဇင်နဲ့ ဆက်သွယ်ပါတယ်၊ နောက်ပိုင်းကျတော့ ရာဇင်က ကျုပ်ကို ပြန်ဆက်သွယ်တယ်၊ သူက ပါကာကို အကြောင်းကြားပေးဖို့ ပြောတယ်။ သူပြောတာကို ကျုပ်က စာနဲ့ ရေးမှတ်ထားတယ်။ အခု ကျုပ် ဖတ်ပြမယ်၊ နိုရာက လိုက်ရေးမှတ်ရင် ကောင်းမယ်"

သံအမတ် ယန်ဒါလ်က ဆက်လက်၍ ရာဇင် တယ်လီဖုန်း ဆက်ပြောပြချက်များကို သူရေးမှတ်ထား သည့်အတိုင်း ဖတ်ပြလေသည်။

နိုရာလည်း လိုက်ရေးမှတ်လိုက်ပြီးနောက်

"ဟုတ်ကဲ့ ကျေးဇူးတင်ပါတယ် သံအမတ်ကြီးရှင့်"

ဟု ပြန်ပြောပြီး ရေးမှတ်ထားသော ရာဇင်အကြောင်းကြားချက်ကို ဖတ်ကြည့်ပြီး နားမလည်နိုင် အောင် ဖြစ်နေလေသည်။ စာထဲတွင် သမ္မတကတော် ဘီလီအကြောင်း လုံးဝမပါချေ။ ဘီလီ၏ အသက်ကို ရာဇင်က ကယ်ဆယ်ရန် မတတ်နိုင်သဖြင့် ဘီလီ သေဆုံးရှာပြီလား။ သို့သော် ရာဇင်အနေနှင့် လုံခြုံရေးကြောင့် လျှို့ဝှက်ထားခြင်း ဖြစ်သလောဟုလည်း တွေးမိပြန်လေသည်။

ထို့ကြောင့် ရာဇင်၏ လေယာဉ် ဆိုက်မည့် ဝက်စရစ်ချ်လေဆိပ်သို့ သွားရန် ဆုံးဖြတ်လေသည်။

*

ရုရှဝန်ကြီးကီရင်ချင်ကိုသည် ဒေါ်ချက်စတာ ဟိုတယ်၌ ဗီရာအကြောင်းကို စဉ်းစားနေမိလေသည်။ ဗီရာသည် အညတရ ပြဇာတ်မင်းသမီးတဦး ဖြစ်လင့်ကစား စိတ်ခေတ် ခိုင်မာပြင်းထန်သော အမျိုးသမီးတယောက် ဖြစ်သည်ကို

သုံးသပ်မိလေသည်။

သူမ၏ဆန္ဒအတိုင်း နောက်တစ်နာရီ ကြာလျှင် ရာဇင်သည် မော်စကိုမြို့မှ ရောက်လာပြီး သမ္မတကတော်ဝ် အစစ် ဘီလီ သေဆုံးပုံ ဓာတ်ပုံများ ယူဆောင်လာပေတော့မည်။

ထိုအခါ မိမိသည် ဗီရာထံမှ အမေရိကန်သမ္မတ၏ လျှို့ဝှက် အကြံအစည်များ သိရတော့မည်ဖြစ်ရာ ထိပ်သီး ဆွေးနွေးပွဲ၌ မိမိတို့ဘက်မှ အသာရရန် သေချာနေပေပြီဖြစ်သည်။

ထိုအခိုက် ဗိုလ်ချုပ်ကြီး ချူကော့ဗ်စကီးက အရေးတကြီး ဆွေးနွေးစရာ ရှိပါသည်ဟု ဆိုသဖြင့် ဝန်ကြီးချုပ် ကီရင်ချင်ကိုသည် သူ၏ ရုံးခန်းထဲသို့ သွားပြီး ကော့ဗ်စကီးနှင့် တွေ့ဆုံလေသည်။

ရုံးခန်းထဲတွင်ကား ချူကော့ဗ်စကီးသည် စိတ်ရှုပ်နေဟန်ဖြင့် စကြံ့န် လျှောက်နေလေသည်။

"ကဲ ချူကော့ဗ်စကီး၊ ဘာများ အရေးတကြီး ပြောစရာရှိလို့ပါလဲ"

ဝန်ကြီးချုပ်က မေးလိုက်ရာ ချူကော့ဗ်စကီးသည် ရုတ်တရက် ဘာမှ ပြန်မပြောဘဲ သူ၏အိတ်ထဲမှ စာရွက်တရွက်ကို ယူပြီး လှမ်းပေးလိုက်လေသည်။

"ဒီစာ အခုပဲ မော်စကိုမြို့က ပေးပို့လိုက်တဲ့ ဝိုင်ယာလက်သတင်း ဖြစ်ပါတယ်၊ လျှို့ဝှက်သင်္ကေတနဲ့ ပို့တာကို အဓိပ္ပာယ်ပြန်ရေးထားပြီး ဖြစ်ပါတယ်၊ ဖတ်သာ ကြည့်ပါတော့"

ချူကော့ဗ်စကီးက ပြောလိုက်ရာ ဝန်ကြီးချုပ် ကီရင်ချင်ကိုသည် စာရွက်ကို ဖတ်ကြည့်ပြီး အကြီးအကျယ် တုန်လှုပ်သွားမိလေသည်။

"ဟာ ပီထရော့ဗ် သေနတ်ပစ်ခံရတယ် ဆိုပါလား၊ ရာဇင်က အမေရိကန် သမ္မတကတော်ကို ခေါ်ပြီး လန်ဒန်ကို လေယာဉ်နဲ့ ထွက်ပြေးသွားပြီတဲ့"

ပါးစပ်မှ ရေရွတ်ရင်းကီရင်ချင်ကိုသည် အကြီးအကျယ် ဒေါသဖြစ်လာလေသည်။

"ဘယ်လိုလုပ်ပြီး ဒီလိုဖြစ်ရတာလဲ"

ဝန်ကြီးချုပ် ကီရင်ချင်ကိုက စိတ်တိုတိုနှင့် စာကို လုံးခြေပစ်ရင်း ချူကော့ဗ်စကီးအား ဟစ်အော် မေးလိုက်လေသည်။

"ဒါတော့ မပြောတတ်ဘူး၊ ဒီသတင်းပို့ချက်ထဲ ပါလာတာပဲ သိရပါတယ်။ တခုရှိတာက ရာဇင်အနေနဲ့ သုတ်သင်ကွပ်မျက်ဖို့ အစီအစဉ်ကို တနည်းနည်းနဲ့ သိသွားပုံရတယ်၊ သူက ဟိုအမျိုးသမီးကို သုတ်သင် ကွပ်မျက်ဖို့ကို မဖြစ်နိုင်လို့ ဗိုလ်ချုပ်ကြီး ပီထရော့ကို သေနတ်နဲ့ပစ်ပြီး အမျိုးသမီးကို ကယ်ထုတ်ထွက်ပြေးဟန်တူပါတယ်။ ဒီအတိုင်းဆိုရင် ရာဇင်ဟာ အမေရိကန်သမ္မတကတော်အစစ် ဘီလီကို အသက်ရှင်လျက် လန်ဒန်အရောက် ခေါ်လာနေပြီ ဖြစ်ပါတယ်"

ချူကော့ဗ်စကီးက ပြောလိုက်လျှင် ဝန်ကြီးချုပ် ကီရင်ချင်ကိုသည် ပို၍ ဒေါသထွက်ကာ စားပွဲကို လက်သီးဖြင့် ထုလိုက်လေသည်။

"ဒီလိုဆိုရင် ဘယ်ဖြစ်မလဲ၊ ကျုပ်တို့လုပ်ခဲ့တာတွေ အားလုံး ပျက်စီးကုန်လိမ့်မယ်၊ ဗီရာက သမ္မတကတော်အဖြစ် ဟန်ဆောင်ခဲ့တာလဲ ပေါ်ပြီး ကျုပ်တို့အားလုံး ဒုက္ခရောက်လိမ့်မယ်၊ အမေရိကန်က သိသွားပြီး အကြီးအကျယ် ပြဿနာပေါ်မှာ သေချာတယ်၊ ဒီလိုအဖြစ်မခံနိုင်ဘူး၊ ကျုပ်တို့ တခုခုလုပ်မှ ဖြစ်မယ်"

"ဝိုင်ယာလက် သတင်းအရဆိုရင် ရာဇင်တို့ရဲ့လေယာဉ်ကို မော်စကိုမြို့ကို ပြန်လှည့်ခိုင်းဖို့ နောက်ကျနေပါပြီ"

ဗိုလ်ချုပ်ကြီး ချူကော့ဗ်စကီး ထောက်ပြလိုက်သည်ကို ကီရင်ချင်ကိုက လက်မခံဘဲ ခေါင်းခါပြကာ ခေတ္တ စဉ်းစားနေလေသည်။

မကြာမီ သူသည် အကြံတခု ရလာလေသည်။

"လေယာဉ်ပြန်ခိုင်းဖို့ နောက်ကျပေမယ့် ကျုပ်တို့ တခြားနည်းလမ်းတွေ လုပ်ဖို့ နောက်မကျသေးဘူး"

သူသည် လက်ပတ်နာရီကို ကြည့်လိုက်ပြီးမှ ဆက်ပြောလေသည်။

"ရာဇင်ပါတဲ့လေယာဉ်ဟာ မကြာခင် ဆိုက်လာတော့မယ်၊ ကောင်းပြီ၊ ကျုပ်တို့ အမေရိကန်သမ္မတ ကတော် ဘီလီကို ကွပ်မျက်ဖို့ မအောင်မြင်ပေမယ့် အခု အင်္ဂလန်ပြည်မှာ ကွပ်မျက်ရင် ဖြစ်နိုင်တယ်၊ လေယာဉ်ဆိုက်ဆိုက်ခြင်း လုပ်မှကို ဖြစ်မယ်၊ အချိန်ကတော့ သိပ်မရှိဘူး၊ ဒီတာဝန်ကို ဘယ်သူ့ကို ပေးရင် ကောင်းမလဲ၊ ဒီအလုပ်မျိုး ကျွမ်းကျင်တဲ့သူ ဘယ်သူရှိသလဲ"

"ဒါမျိုးဆိုရင် ဘာဂီနော့ဗ်က အတော်ဆုံးပါပဲ"

ဗိုလ်ချုပ်ကြီး ချူကော့ဗ်စကီးက ဤသို့ ပြောလိုက်လျှင် ဝန်ကြီးချုပ် ကီရင်ချင်ကိုက

"ဒါဖြင့် ဘာဂီနော့ဗ်ကို အခု ချက်ချင်း ကျုပ်ဆီလွှတ်လိုက်ပါ" ဟု အမိန့်ပေးလိုက်လေသည်။

*

## အခန်း ( ၁၃ )

ပါကာသည် လန်ဒန်မြို့ပြင်ဘက် ဝက်စ်ရစ်ချ် လေဆိပ်အဆောက်အအုံအတွင်းမှ အပြင်ဘက်သို့ လှမ်းကြည့်ရင်း မော်စကိုမြို့မှ ရောက်လာမည့် လေယာဉ်ကို စောင့်နေလေသည်။

သူရောက်နေသည်မှာ နာရီဝက်ခန့် ရှိသွားပြီဖြစ်သည်။ လေဆိပ်အဆောက်အအုံ၌ လူဝင်မှု ကြီးကြပ်ရေး အရာရှိများက လူအဝင်အထွက်ကို စစ်ဆေးသော်လည်း ပါကာအနေဖြင့် အမေရိကန် သမ္မတအိမ်တော်ရုံးအဖွဲ့ဝင်တဦးဖြစ်ကြောင်း စိစစ်ရေးကတ်ပြား ပါလာသဖြင့် အခက်အခဲ မရှိဘဲ ဝင်ခွင့်ရလေသည်။

မကြာမီ သမ္မတကတော် (အတု) သည်လည်း ဤလေဆိပ်သို့ လာမည်ဖြစ်ရာ သူမအနေဖြင့် အခက်အခဲ မရှိဘဲ ဝင်ရောက်ခွင့်ရလိမ့်မည်ဟု ပါကာက တွက်မိလေသည်။

အဆောက်အအုံ အပြင်ဘက်တွင်ကား ဆိုဗီယက်လက်နက်ကိုင် အစောင့်နှစ်ဦးရှိနေပြီး တဦးက ပါကာကို မြင်လျှင်

"လေယာဉ်ကွင်းကို ဘယ်သူမှ ဆင်းခွင့်မရှိဘူး၊ ခင်ဗျားက ပြတင်းပေါက်နားကပဲ စောင့်ရမယ်" ဟု အင်္ဂလိပ်စကား မတတ်တတတ်နှင့် ပြောလေသည်။

ပါကာလည်း အဆောက်အအုံ အတွင်းပြတင်းပေါက်နားမှပင် စောင့်နေလိုက်သည်။

သမ္မတကတော်အတု ဗီရာသည် ဤလေယာဉ်ကွင်းသို့လာ၍ မော်စကိုမြို့မှ ရောက်လာမည့် ရာဇင်အား မလွဲမသွေ တွေ့ဆုံလိမ့်မည်ဟု ပါကာ တထစ်ချ တွက်ထားလေသည်။

နိုရာ၏ပြောပြချက်အရ ဗီရာသည် ယမန်နေ့ညက အအေးမိနေသည်ဟု ဆိုကာ သမ္မတဘရက်ဖို့ဒ်နှင့် အတူမအိပ်ဘဲ သီးခြားအခန်းတခန်းတွင် အိပ်သဖြင့် ဟိုတယ်မှ ထွက်ရန် အခက်အခဲရှိမည် မဟုတ်ဟုလည်း စဉ်းစားမိလေသည်။

ပါကာ၏စိတ်ထဲတွင် သံသယဖြစ်နေသော အချက်ကား ယခု ရာဇင်လာလျှင် သမ္မတကတော်အစစ် ဘီလီ မသေမပျောက်ပဲ ပါလာမည်လော။

သို့တည်းမဟုတ် ဘီလီကို သတ်ပြီး အလောင်းကို ရိုက်ကူးထားသည့် ဓာတ်ပုံတွေသာ ပါလာမည်လောဟူ၍ပင်ဖြစ်သည်။ သမ္မတကတော်အတု ဗီရာကမူ ဘီလီ သေဆုံးနေပြီဟု တထစ်ချ ယူဆထားမည် ဖြစ်ပေသည်။

ပါကာသည် ဤသို့ စဉ်းစားနေစဉ်မှာပင် မော်စကိုမြို့မှ ဆိုဗီယက် လေယာဉ်သည် လေယာဉ်လမ်းကြောင်းပေါ်သို့ စတင် ဆင်းသက်လာလေသည်။

လေဆိပ်အဆောက်အအုံ တံခါးဝဆီသို့ လှမ်းကြည့်လိုက်သောအခါ သမ္မတကတော်အတု ဗီရာ ရောက်လာပြီဖြစ်ကြောင်းတွေ့ရလေသည်။ သူမသည် သားမွေးကုတ်အင်္ကျီရှည်ကြီး ဝတ်ဆင်ထားပြီး သူမနှင့်အတူ သံတမန်ရေးရာဌာန အရာရှိ ဝီလီလိုက်ပါလာသောအဖြစ်ကို ပါကာက သတိပြုမိလေ သည်။

ဝီလီသည် ဗြိတိသျှ လူဝင်မှုကြီးကြပ်ရေး အရာရှိများအား တစုံတရာ တီးတိုးပြောလိုက်ရာ အရာရှိများက နားလည်ဟန်ဖြင့် ခေါင်းညိတ်ပြလိုက်ကြသည်။

ထို့နောက် ဝီလီသည် ဗီရာအား တစုံတခု ပြောပြီးနောက် လေဆိပ်အပြင်ဘက်၌ ရပ်ထားသော အော်စတင် မော်တော်ကားဆီသို့ လျှောက်သွားလေတော့သည်။

ဗီရာတယောက်တည်း လေဆိပ်အဆောက်အအုံ အပြင်ဘက်သို့ လျှောက်သွားလေသည်။

ပါကာသည်လည်း အသာစောင့်ကြည့်နေရာ ဗီရာသည် ဆိုဗီယက် အစောင့် လက်နက်ကိုင်နှစ်ဦးအား ပြုံး၍ တစုံတခုပြောလိုက်ရာ အစောင့်နှစ်ဦးက ဦးညွှတ်အလေးပြု လိုက်သည်ကို မြင်ရလေသည်။

ဗီရာလည်း လေယာဉ်ကွင်းအလယ်သို့ ဆက်လျှောက်သွားလေသည်။

မော်စကိုမြို့မှလာသည့် ဆိုဗီယက်လေယာဉ်သည် လေယာဉ်ပြေးလမ်းကြောင်းမှ ကွေ့လာပြီး အလုပ်သမားနှစ်ဦးက လှေကားကို လေယာဉ် အနီးသို့ ကပ်ထောင်လိုက်လေသည်။

လေယာဉ်တံခါးပွင့်လာသည်နှင့် ဗီရာသည် ပြေးသွားကာ လှေကားမှတဆင့် လေယာဉ်ပေါ်သို့ တက်သွားလေသည်။ အဝေးမှ လှမ်းကြည့်နေသူ ပါကာသည် ရှေ့လျှောက် ဘာတွေ ဖြစ်လေမည်နည်းဟု စဉ်းစားရင်း ဆက်လက် စောင့်ကြည့်နေလိုက်သည်။

*

ထိုလေယာဉ်ကွင်းအတွင်း၌ ဆိုက်ထားသော ဟယ်လီကော်ပတာ

(ရဟတ်ယာဉ်) ကြီးတစင်း ရှိနေရာ ရဟတ်ယာဉ်၏ဘေးနားတွင် စက်ပြင်လုပ်သားဝတ်စုံ ဝတ်ထားသူတယောက်သည် စက်ပြင်နေလေ သည်။ သူသည် မော်စကိုမြို့မှလာသည့် လေယာဉ်ကို ကျောပေးထားလေသည်။ ထို့ကြောင့် သူသည် ဗီရာ ရောက်လာပြီး လေယာဉ်ပေါ်တက်သွားသည်ကို မမြင်လိုက်ချေ။ သူ့အနေဖြင့် တတ်နိုင်သလောက် သူ၏ မျက်နှာကို လူမမြင်အောင် တမင်တကာ ကျောပေး၍ နေခြင်းဖြစ်သည်။ နောက်ပိုင်း သူ၏ပုံသဏ္ဌာန်ကို တစုံတယောက်က မှတ်မိမည်ကို စိုးရိမ်သောကြောင့်လည်းဖြစ်သည်။

အကြောင်းမူကား ထိုလူသည် တကယ့်စက်ပြင် အလုပ်သမား မဟုတ်။ ဝန်ကြီးချုပ် ကီရင်ချင်ကိုက တာဝန်ပေးခိုင်းစေလိုက်သော ရုရှ လူသတ်သမား ဘာဂီနော့ဗ်ဆိုသူပင် ဖြစ်သည်။

ဘာဂီနော့ဗ်သည် ကျောပေးနေသော်လည်း နားစွင့်နေသဖြင့် ဆိုဗီယက် လေယာဉ် ဆိုက်လာသံကို ကောင်းစွာ ကြားရလေသည်။ ယခု လေယာဉ်ရပ်သွားပြီး ခရီးသည်များ ဆင်းလာတော့မည်ဟု မှန်းဆရတော့မှ သူသည် လှည့်ကြည့်လိုက်လေသည်။

လေဆိပ်အဆောက်အအုံ ပြတင်းပေါက်နား၌ အရပ်မြင့်မြင့် လူတယောက် (ပါကာ) နှင့် အပြင်ဘက်တွင် ရပ်နေသူ လက်နက်ကိုင် အစောင့်နှစ်ဦးကို လှမ်းမြင်ရလေသည်။

ဘာဂီနော့ဗ်သည် စက်ပြင်ကိရိယာများပါသော တွန်းလှည့်တခုကို တွန်း၍ ဆိုဗီယက်လေယာဉ် တဘက်သို့ သွားလေသည်။

ထိုအချိန်၌ လေယာဉ်ပေါ်မှ မည်သူမှ ဆင်းမလာသေးချေ။

ဘာဂီနော့ဗ်သည် တွန်းလှည်းအတွင်းမှ သေတ္တာတခုကို ထုတ်ယူလိုက်သည်။ ထို့နောက် သေတ္တာကို တွန်းလှည်းပေါ်တင်၍ အဖုံးကို ဖွင့်လိုက်သည်။

သူသည် အဆင်သင့်ဖြစ်နေပေပြီ။ ထို့ကြောင် လေယာဉ်ပေါ်မှ ဆင်းလာသူများကို မျက်ခြည်မပြတ်ပင် စောင့်ကြည့်နေလေသည်။ ဗီရာသည် လေယာဉ်ပေါ်သို့ ရောက်ရောက်ခြင်း မည်သူ့ကိုမှ မတွေ့ရသဖြင့် စိုးရိမ်တုန်လှုပ်သွားမိ လေသည်။

သို့သော် ခဏအကြာမှ လေယာဉ်တံခါးဘေးတွင် ရပ်နေသူ ရာဇင့်ကို မြင်လိုက်ရသဖြင့် ဝမ်းမြောက် အားတက်သွားမိလေသည်။

သူမအနေဖြင့် ချစ်သူရာဇင်ကို ဝေးနေရသည်မှာ ကြာပြီဖြစ်၍ ဗီရာသည်

ပြေးဖက်၍ ဝမ်းသာအားရ ဖြစ်သွားလေသည်။

"ဗီရာ ငါမင်းကို သိပ်ချစ်တယ်"

ရာဇင်က ပြောလိုက်ပြီးနှစ်ယောက်သား နမ်းရှုပ်လိုက်ကြသည်။

ခဏကြာမှ ဗီရာက လူချင်းခွာလိုက်ပြီး

"ခါတ်ပုံတွေကော ပါခဲ့လား"

ဟု မေးလိုက်သည်။

"ခါတ်ပုံတွေတော့ မပါဘူးကွယ့်၊ ဒါပေမဲ့ တခြားဟာတခု ပါလာတယ်"

ပြောပြောဆိုဆို ရာဇင်က လေယာဉ်၏တဘက်ခန်းတွင်းမှ တစုံတယောက်ကို လက်ယပ်ခေါ်လိုက် လေသည်။

လေယာဉ်၏ အတွင်းခန်းမှ သမ္မတကတော်အစစ် ဘီလီသည် တလှမ်းချင်း လျှောက်ထွက်လာရာ ဗီရာသည် အကြီးအကျယ် အံ့ဩ တုန်လှုပ်သွားမိလေတော့သည်။

သူမနှင့် တထေရာတည်း ရုပ်ချင်းဆင်တူရုံမက ယခု သားမွေးကုတ်အင်္ကျီပါ ဆင်တူဝတ်ထားသော ဘီလီကို ကြည့်ပြီး ဗီရာမှာ မယုံကြည်နိုင်အောင် ဖြစ်နေမိလေသည်။

ထိုအခိုက် ရာဇင်က အမျိုးသမီးနှစ်ဦး၏ကြားတွင် ဝင်ရပ်လိုက်သည်။

"မင်းတို့နှစ်ယောက်ဟာ တယောက်အကြောင်း တယောက် သိပြီးသားပဲ"

"ဒီမယ်ရှင့်၊ ကျွန်မ နားမလည်ပါလား"

ဗီရာက ပြောလျှင် ရာဇင်က

"ငါ့အနေနဲ့ ဒီလိုလုပ်ရတာဟာ မင်းနဲ့ငါ နှစ်ယောက်စလုံး အကျိုးအတွက်ဖြစ်တယ်"

ဟု ပြောလိုက်လေသည်။

သို့သော် ဗီရာက သဘောကျပုံ မရချေ။

"ရှင် ဘယ်လိုလုပ်လိုက်တာလဲရှင့်၊ ဒီအတိုင်းဆိုရင် ကျွန်မရဲ့ဘဝ ဆုံးပြီ"

"မဟုတ်ဘူးလေ၊ ဒီလိုလုပ်မှ ဖြစ်မှာမို့ လုပ်ရတာပါ၊ တို့က လူသတ်သမားတွေမှ မဟုတ်ဘဲ"

ရာဇင်ကပြောပြီးနောက် ဘီလီက ဗီရာအား လှမ်းစကားပြောလေသည်။

"ဒီမယ် ဗီရာ၊ ရှင်ဘာမှ မစိုးရိမ်ပါနဲ့၊ ရှင့်အတွက် ဘာမှကို စိုးရိမ်စရာ အန္တရာယ် မရှိပါဘူး၊ ကျွန်မ တာဝန်ယူပါတယ်။ ရာဇင်ကို ဘာမှအပြစ်တင်မနေပါနဲ့၊ သူက ကျွန်မအသက်လဲ မသေစေချင်ဘူး၊ ရှင့်ကိုလည်း လက်မလွှတ်ချင်လို့ ဒီလိုလုပ်လိုက်ရတာပါ၊ အခု ကျွန်မအသက်ကို ရာဇင်က ကယ်လိုက်တဲ့အတွက် ကျွန်မက ကျေးဇူးတင်တဲ့အနေနဲ့ ရှင်တို့နှစ်ယောက်စလုံးကို ကူညီ စောင့်ရှောက်ပါမယ်။ ကျွန်မနဲ့ ရာဇင်က ဒီအစီအစဉ်ကို လုပ်ဖို့ စဉ်းစားပြီးကြပါပြီ"

ဗီရာသည် အံ့အားသင့်လွန်း၍ ဘာမှ မပြောနိုင်ဘဲရှိစဉ် ဘီလီကပင် ဆက်၍ ပြောပြန်လေသည်။

"ကျွန်မဆိုရင် ဆင်းရဲဒုက္ခ တွေ့ကြုံခဲ့ရပေမယ့် အခု အသက်ပြန်ရှင်လာရသလို ရှင်လည်း အခုလက်ငင်း စိတ်ဆင်းရဲရပေမယ့် ဘာမှ မပူပါနဲ့ အားလုံးအဆင်ပြေသွားမှာပါ"

ဗီရာသည် ဘီလီအား စူးစိုက်ကြည့်ရင်း စဉ်းစားမိလေသည်။ မိန်းမချင်း ကိုယ်ချင်းစာတရား ဖြစ်ပေါ်မိကာ ဘီလီအနေဖြင့် မည်မျှစိတ်ဆင်းရဲခဲ့ရှာမည်ကိုပါ စဉ်းစားမိလေသည်။

"ဟုတ်ကဲ့၊ ကျွန်မ နားလည်ပါပြီ၊ ရှင့်အနေနဲ့ ဒုက္ခဆင်းရဲအမျိုးမျိုး ခံစားနေရတာကို ကျွန်မ အထူးဝမ်းနည်းပါတယ်၊ တောင်းပန်ပါတယ်"

"ကိစ္စမရှိပါဘူး ဗီရာ၊ ကျွန်မရှင့်ကို ခွင့်လွှတ်ပါတယ်၊ နောက်ပိုင်း အားလုံး အဆင်ပြေသွားမှာပါ"

ဘီလီက ပြောပြပြီးနောက် ရာဇင်က အစီအစဉ်ကို ပြောလေသည်။

"ကိုင်း အချိန်သိပ်မရှိဘူး၊ ကျုပ်တို့ လုပ်စရာတွေ ရှိသေးတယ်၊ လေယာဉ်ကွင်း အပြင်ဘက် ရောက်တာနဲ့ ဘီလီက မူလနေရာ သမ္မတကတော်အဖြစ် ပြန်ရောက်နေရမယ်၊ အခု ကျုပ်တို့ လေယာဉ်ပေါ်က ဆင်းကြမယ်၊ နှစ်ယောက်စလုံးက မျက်နှာကို ရုတ်တရက် မမှတ်မိအောင် ကုတ်အင်္ကျီကော်လာကို လည်ပင်းမှာ ထောင်ထားလိုက်ပါ၊ တယောက်စီ ဆင်းကြရမယ်၊ ကဲ ဘယ်သူက အရင် ဆင်းချင်သလဲ"

*

ပါကာသည် ပြတင်းပေါက်မှနေ၍ လေယာဉ် လှေကားဆီသို့ အာရုံစိုက်ကြည့်ရင်း သည်းထိတ်ရင်ဖို ဖြစ်နေမိလေသည်။

လေယာဉ်ပေါ်မှ အမျိုးသမီးတဦးတည်း ပြန်ဆင်းလာလျှင် ဗီရာပင် ဖြစ်ပေမည်။ ဤသို့ဆိုလျှင် သမ္မတကတော်အစစ် ဘီလီကတော့ သေရှာပြီဟု ယူဆရပေတော့မည်။ ရုရှတို့ဘက်မှ အနိုင်ရသွား သည့်သဘောပင် ဖြစ်သည်။ အကယ်၍ အမျိုးသမီးနှစ်ယောက် ဆင်းလာပါက ဘီလီ မသေဘဲ အသက်ရှင်လျက် ရောက်ရှိလာမည်ဖြစ်ပြီး ရုရှတို့ဘက်မှ ရေးနိမ့်သွားပြီဟု ယူဆရပေမည်။

ဤသို့ ပါကာက ရင်တဖိုဖိုနှင့် စဉ်းစားရင်း ကြည့်နေစဉ်မှာပင် လေယာဉ်ပေါ်မှ သားမွေးကုတ် အင်္ကျီနှင့် အမျိုးသမီးတဦးဆင်းလာသည်ကို မြင်ရလေသည်။ သူမ၏နောက်မှ သားရေဂျာကင်အင်္ကျီ ဝတ်ထားသူ လူတယောက်သည်လည်း လိုက်ဆင်းလာလေသည်။

ထိုသူကား ရာဇင်ပင်ဖြစ်ကြောင်း ပါကာက မှတ်မိလေသည်။

သူသည် ပွင့်နေသော လေယာဉ်တံခါးပေါက်ဆီသို့ ဆက်ကြည့်နေမိပြန်သည်။

နောက်ထပ် အမျိုးသမီးတဦး (ဘီလီ) ဆင်းလာပါစေဟု စိတ်ထဲမှ ကျိတ်၍ ဆုတောင်းနေမိသည်။

ထိုအချိန်၌ ပါကာသည် သူ၏ရင်ထဲမှ နှလုံးခုန်နှုန်း ခါတိုင်းထက် ပို၍ လျင်မြန်စွာ ခုန်နေကာ အသက်မရှူနိုင်အောင်ပင် ဖြစ်နေမိလေသည်။

*

လေယာဉ်တဘက်မှ အသင့်စောင့်နေသူ ဘာဂီနော့ဗ်သည် လေယာဉ်ပေါ်မှ အမျိုးသမီး ဆင်းလာသည်ကို မြင်သည်နှင့် တွန်းလှည်းပေါ်ရှိ သေတ္တာငယ်ထဲမှ ပစ္စည်းတခုကို ထုတ်ယူလိုက်သည်။

ထိုအချိန်၌ အမျိုးသမီးက လှေကား၏ အောက်ဆုံးထစ်သို့ ရောက်နေပြီး ရာဇင်ကို စောင့်နေသည့် အနေဖြင့် ခေတ္တ ရပ်နေလိုက်သည်။

ဘာဂီနော့ဗ်က ထုတ်ယူလိုက်သော ပစ္စည်းကား အလွန်ပြင်းထန်သော ဗုံးတမျိုးဖြစ်သည်။ ပေါက်ကွဲသည့်နေရာတွင် လူရှိပြီး ထိမှန်သွားပါက အရိုးအသား တခြားစီ စေ့စေ့ညက်ညက် ကြေသွားစေနိုင်လောက်အောင် ပြင်းထန်သည့် ဗုံးမျိုးဖြစ်သည်။

ဘာဂီနော့ဗ်သည် သားမွေးကုတ်အင်္ကျီ ဝတ်ထားသော အမျိုးသမီးနှင့်

သူမ၏ဘေးနားသို့ ရောက်လာသူ ရာဇင်ကို ကောင်းစွာ မြင်နေရလေသည်။

(မှတ်ချက်။ ။ ဘာဂီနော့ဗ်အနေဖြင့် စောစောက ဗီရာ ရောက်လာသည်ကို မမြင်လိုက်သောကြောင့် အခု အမျိုးသမီးသည် သမ္မတကတော် အစစ် ဘီလီပင်ဖြစ်သည်ဟု ယူဆလေသည်)

သူ၏တာဝန်မှာ လေယာဉ်ပေါ်မှ ဆင်းသက်လာသူ အမေရိကန်သမ္မတကတော်အား သုတ်သင် ကွပ်မျက်ရန် ဖြစ်၍ ဘာဂီနော့ဗ်သည် အမျိုးသမီးနားတွင် ကပ်နေသော ရာဇင်ကို မငဲ့ကွက်နိုင်တော့ ဘဲ သူ၏လက်မှ ဗုံးကို တအားလွှဲပစ်ပေါက်လိုက်လေသည်။

ဤသို့ ပစ်လိုက်စဉ်မှာပင် လေယာဉ်တံခါးဝ၌ နောက်ထပ် အမျိုးသမီးတဦး ရပ်နေသည်ကို ရုတ်တရက် လှမ်းမြင်လိုက်ရပြန်လေသည်။ လေယာဉ်ပေါ်မှ အမျိုးသမီးက လှေကားအောက်မှ အမျိုးသမီးနှင့် ရုပ်ချင်း တထေရာတည်း တူနေသဖြင့် အလွန် အံ့အားသင့်သွားမိလေသည်။

သို့သော် ပစ်လွှတ်လိုက်သော ဗုံးက စက္ကန့်ပိုင်းအတွင်း ပေါက်ကွဲတော့မည်ဖြစ်၍ ဘာဂီနော့ဗ်သည် သူ၏ တွန်းလှည်းအနီး မြေပြင်ပေါ်သို့ ဝပ်ချလိုက်ပြီး နေလိုက်ရတော့သည်။

ဗုံးက ဂယ်လီနိုက် ခေါ် အလွန်ပြင်းထန်သော ပေါက်ကွဲမှုအင်အား ရှိသဖြင့် မြေကြီးတခုလုံး သိမ့်သိမ့် တုန်သွားအောင် ကြောက်မယ်ဖွယ်ရာ ပေါက်ကွဲသွားလေသည်။

ဘာဂီနော့ဗ်သည် ဗုံးပေါက်ကွဲပြီးသည်နှင့် လေးဘက်တွား၍ လေယာဉ်စက်ပြင်ရုံကြီးဘက်သို့ သွားလေသည်။ နောက်သို့ ပြန်လှည့်ကြည့်လိုက်သောအခါ မီးခိုးလုံးကြီးများကြား၌ စောစောက အမျိုးသမီးနှင့် ရာဇင်တို့ ရပ်နေရာတွင် ဘာမှမရှိတော့။ လေယာဉ် လှေကားသည်လည်း မရှိတော့ကြောင်း တွေ့ရလေသည်။ ဗုံးပေါက်ကွဲမှု အရှိန် ပြင်းထန်လွန်းသဖြင့် အားလုံး ကြေမွ ပျက်စီး ပျောက်ကွယ်ကုန်ပြီဖြစ်လေသည်။

လေယာဉ်ပေါ်မှ အမျိုးသမီးကမူ တံခါးအနီးတွင် ယိုင်လဲကျသွားလေသည်။

အမျိုးသမီးနှစ်ယောက် ဖြစ်နေသည်ကို ဘာဂီနော့ဗ်က စဉ်းစား၍ မရသော်လည်း သူ၏တာဝန် ပြီးစီးသွားပြီဟု ဆုံးဖြတ်ကာ လွတ်ရာသို့ ရှောင်ထွက်သွားလေသည်။

*

ဖုံးပေါက်ကွဲမှုအရှိန်က ပြင်းထန်လှသဖြင့် ပြတင်းပေါက်မှန်များ ကွဲကုန်ကာ ပါကာ၏ မျက်နှာတွင် မှန်စမှန်နများ ထိမှန်ပြီး သွေးများထွက် ၍နေလေသည်။

သို့သော် ထိခိုက်နာကျင်မှုကို ဂရုမစိုက်နိုင်ဘဲ ပါကာသည် ရုပ်ချင်း တူနေသူ အမျိုးသမီးနှစ်ဦး အကြောင်းကိုသာ စဉ်းစားနေမိလေသည်။ ဤအတိုင်းဆိုလျှင် ရာဇင်သည် ဘီလီအား ကယ်ဆယ်နိုင် ခဲ့ပြီး လေယာဉ်ပေါ်၌ ဘီလီနှင့် ဗီရာတို့ ပက်ပင်းတွေ့ ဆုံမိကြမည်ဖြစ်ပေသည်။ ထို့နောက် ဗီရာနှင့် ရာဇင်တို့က ရှေးဦးစွာ လေယာဉ်ပေါ်မှ ဆင်းလာကြခြင်း ဖြစ်ပေလိမ့်မည်။

လေဆိပ် အဆောက်အအုံ အပြင်ဘက်ရှိ ရှုရှုလက်နက်ကိုင် အစောင့်နှစ်ဦးသည် ဖုံးပေါက်ကွဲမှုကြောင့် အံ့အားသင့် တုန်လှုပ်ကာ မြေပြင်ပေါ်တွင် ဝပ်လျက်ပင် ရှိနေကြသေးသည်။

လေဆိပ်အဆောက်အအုံ ဝင်ဝတွင်ကား သံတမန်အရာရှိ ဝီလီက မော်တော်ကားပေါ်မှ ဆင်းကာ ပြေးဝင်လာလေသည်။

ပါကာသည်လည်း လေယာဉ်ရှိရာသို့ တအားပြေးသွားလေသည်။

ထိုအချိန်၌ လေယာဉ်ပေါ်မှ ဘီလီသည် လဲကျနေရာမှ ဒယီးဒယိုင် ဖြစ်လျက်နှင့်ပင် ကြိုးစား မတ်တပ်ထနေရာ သူမ၏ နောက်နားမှ လေယာဉ်မှူးနှင့် အဖွဲ့သားသုံးဦးပါ ရောက်နေပြီဖြစ်သည်။

လေယာဉ်အနီးသို့ ရောက်လျှင် ပါကာသည် ဘီလီအား လှမ်းအော်ခေါ်လိုက်လေသည်။

"ဘီလီ ဘီလီ ဒီမှာ ကျုပ်ပါဗျ၊ ပါကာရယ်ပါ၊ အောက်ဆင်းစရာ လှေကားတော့ မရှိဘူး၊ ခုန်သာချလိုက်ပါ၊ ကျုပ် အောက်က ဖမ်းပါမယ်၊ လေယာဉ်မှူးအဖွဲ့က ကူညီပါလိမ့်မယ်"

လေယာဉ်မောင်း အဖွဲ့ဝင်များက ဘီလီအား ကူညီ၍ အောက်သို့တွဲလွဲချပေးရာ ပါကာက

"လွှတ်ချလိုက်တော့"

ဘီလီလည်း အောက်သို့ကျလာရာ ပါကာ၏ကိုယ်ပေါ်သို့ တည့်တည့်မတ်မတ်ကျပြီး နှစ်ယောက်စလုံး မြေပြင်သို့ လဲကျသွားလေသည်။

သို့သော် ဘာမှ မဖြစ်သောကြောင့် ပါကာက လျင်မြန်စွာ ထပြီး ဘီလီအား ဆွဲထူပေးလိုက်သည်။

"ဘီလီ ဘာမှ မဖြစ်ဘူးနော်"

ပါကာက မေးရာ ဘီလီက ခေါင်းညိတ်ပြလေသည်။

"ဒါဖြင့် ဒီက မြန်မြန်ထွက်မှ ဖြစ်မယ်"

ပြောရင်း ပါကာသည် ဘီလီအား လေဆိပ် အဆောက်အအုံတွင်းသို့ ခေါ်သွားလေသည်။

ထိုအချိန်၌ သံတမန်အရာရှိ ဝီလီက ရောက်နေပြီး

"ကဲ လာပါ၊ မြန်မြန်သွားကြမယ်"

ဟု ပြောကာ ဘီလီအား အပြင်ဘက်သို့ ခေါ်ထုတ်သွားလေသည်။

ချက်ချင်းပင် မော်တော်ကားဖြင့် မောင်းထွက်သွားစဉ် ဘီလီသည် ပါကာအား ကျေးဇူးတင်ဟန်ဖြင့် လက်ပြနှုတ်ဆက်သွားလေသည်။

သည်တော့မှ ပါကာလည်း လျင်မြန်စွာ ဖြစ်ပျက်သွားပုံကို ပြန်စဉ်းစား သုံးသပ်မိလေသည်။

စောစောက အမျိုးသမီးနှစ်ဦး ရှိခဲ့သည်မှာ အမှန်ပင်ဖြစ်သည်။ ယခုတော့မူ အမေရိကန်သမ္မတ ကတော်တဦးသာ ကျန်ရှိနေတော့သည်။

ရုရှဂုန်ကြီးချုပ် ကီရင်ချင်ကိုသည် သူ့ထံသို့ လာရောက် သတင်းပို့သူ ဘာဂီနော့ဗ်၏ ပြောပြချက်ကို ကြားရပြီး အလွန်အံ့သြနေမိလေသည်။

"ဘယ်လိုလဲကွ၊ အမျိုးသမီးနှစ်ယောက် ဖြစ်နေတယ်လား"

"ဟုတ်တယ်၊ ရုပ်ချင်းက တထေရာတည်းတူတဲ့ အမျိုးသမီးနှစ်ယောက် ဖြစ်နေပါတယ်"

"မင်း လေယာဉ်အောက်ဘက်ကို ရောက်နေတဲ့ အမျိုးသမီးကို သုတ်သင်ဖုံးခွဲပစ်လိုက် သလား"

"ဟုတ်ကဲ့၊ သူနဲ့အတူရှိနေတဲ့ လူတယောက်လည်း ပါသွားတယ်"

"ဒီလူဟာ ရာဇင်ပဲဖြစ်မယ်၊ ဒီကောင်သေတာပဲ ကောင်းတယ်၊ ဘာဂီနော့ဗ် မင်း အမေရိကန် သမ္မတကတော်ကို လုံးဝ သုတ်သင်လိုက်တယ်နော်"

"မှန်ပါတယ်၊ ကျွန်တော်သုံးတဲ့ ဗုံးကိုက လူကို စေ့စေ့ညက်ညက် ကြေမွအောင် ပြင်းထန်တဲ့ ဗုံးမျိုးပါ"

"ကောင်းပြီ၊ လေယာဉ်ပေါ်က နောက် အမျိုးသမီးတယောက်ကကော သေသွားသလား"

"သူက မသေဘူးခင်ဗျ၊ လေယာဉ်အောက်က မိန်းမသာ သေသွားတာပါ"

"အေး ကောင်းပြီ၊ မင်းသွားပေတော့"

ဝန်ကြီးချုပ်က ပြောလိုက်လျှင် ဘာဂီနော့ဗ်လည်း ထွက်သွားလေသည်။

သည်တော့မှ ဝန်ကြီးချုပ် ကီရင်ချင်ကိုသည် ဗိုလ်ချုပ်ကြီး ချူကော့ဗ်စကီးနှင့် ပြန်လည်သုံးသပ် ဆွေးနွေးလေသည်။

"ဒီအတိုင်းဆိုရင် ဗီရာက သူ့သဘောနဲ့သူ လေယာဉ်ကွင်းကို သွားတာဖြစ်မယ်။ ဒါကြောင့် ဟိုမှာ အမျိုးသမီးနှစ်ယောက် ဆုံကြတာ ဖြစ်လိမ့်မယ်။ ခက်နေတာက အခုသေသွားသူဟာ အမေရိကန် သမ္မတကတော် ဘီလီပဲလား၊ ဗီရာလား ဆိုတာက ကျုပ်မသိဘူး"

"သိနိုင်တဲ့တနည်းတော့ ရှိပါတယ်၊ တကယ်လို့ သေသွားတဲ့သူဟာ ဗီရာ ဖြစ်နေရင် သူက ဒီကိုလာတော့မှ မဟုတ်ဘူး၊ သေတာက ဘီလီဖြစ်ရင် ဗီရာ ဒီကို မုချလာမှာပဲ"

ဗိုလ်ချုပ်ကြီး ချူကော့ဗ်စကီးက ပြောသည်ကို ဝန်ကြီးချုပ် ကီရင်ချင်ကိုက လက်မခံဟန်ဖြင့် ခေါင်းခါပြလေသည်။

"မဟုတ်ဘူးဗျ၊ ခင်ဗျားတွက်ပုံတွက်နည်းက မှားနေပြီ။ သမ္မတကတော်အစစ် ဘီလီ သေသွားရင် လည်း ဗီရာက ဒီကို လာမှာမဟုတ်ဘူး၊ သူက တဦးတည်းသော သမ္မတကတော်အဖြစ် ကျန်နေမှာမို့ လာစရာလည်း မလိုတော့ဘူး။ သူမရဲ့ဘဝ လုံခြုံမှုအတွက် ပိုင်နေပြီ မဟုတ်လား။ အခုကိစ္စမှာ ဗီရာက လေယာဉ်ဆီကို သွားလိုက်တာကြောင့် အားလုံး လွဲချော်ကုန်တယ်၊ ဘာပဲဖြစ်ဖြစ် ကျုပ်တို့ ဘာမှ မတတ်နိုင်တော့ဘူး၊ ထိပ်သီးဆွေးနွေးပွဲမှာ ကျုပ်တို့က အလျှော့ပေးပြီး မကျူးကျော်ဖို့ အရေးအတွက် စာချုပ်ချုပ်ရုံပဲရှိတယ်၊ ကျုပ်ကိုယ်တိုင် အမေရိကန် သမ္မတကို ဖုန်းဆက်လိုက်မယ်။ လက်ရှိ သမ္မတကတော်ဟာ ဗီရာလား၊ ဘီလီလားဆိုတာကို ကျုပ်တို့က ဘယ်လိုမှ မသိနိုင်တော့ဘူး"

*

အဲယားဖို့စ် ဝမ်း ခေါ် အမေရိကန်သမ္မတ၏ အထူးဂျက်လေယာဉ်ကြီးသည် အတ္တလန္တိတ်သမုဒ္ဒရာ ပေါ်မှ ဖြတ်ကျော်ကာ ဝါရှင်တန်မြို့ဆီသို့

ဦးတည်ပျံသန်းလျက်ရှိလေသည်။

လေယာဉ်တနေရာသို့ အမှုထမ်းများ၏အခန်းတွင် ပါကာနှင့် နိုရာတို့သည် လန်ဒန်မြို့ထုတ် တယ်လီဂရပ်ဖစ်သတင်းစာကို အတူဖတ်ရင်း ထိုင်လိုက်လာကြလေသည်။

သတင်းစာမျက်နှာဖုံးတွင် လန်ဒန်ထိပ်သီးဆွေးနွေးပွဲကြီးကို အောင်မြင်စွာပြီးဆုံးသွားကြောင်း အာဖရိကတိုက်၌ ငြိမ်းချမ်းရေးရရှိရန် အာမခံချက်ပေးသည့်အနေဖြင့် အမေရိကန်နှင့် ဆိုဗီယက် နှစ်နိုင်ငံခေါင်းဆောင်ကြီးများက မကျူးကျော် မစွက်ဖက်ရေး သဘောတူစာချုပ်လက်မှတ်ရေးထိုး ချုပ်ဆိုလိုက်ကြပြီဖြစ်ကြောင်း အကျယ်တဝင့် ရေးသားဖော်ပြထားလေသည်။ ပါကာနှင့် နိုရာတို့သည် သတင်းစာကိုချ၍ လေယာဉ်ရှေ့ပိုင်းဘက်သို့ လှမ်းကြည့်လိုက်ကြသည်။

လေယာဉ်ကြီးပေါ်တွင် အားလုံး ဝမ်းမြောက်ရွှင်မြူးနေကြရာ သမ္မတဘရက်ဖို့ဒ်က ပြုံးနေပြီး သမ္မတကတော် ဘီလီကလည်း ဖန်ခွက်တခွက်ကိုလက်မှကိုင်ကာ ဝန်ထမ်းများရှိရာသို့ ပြုံးရွှင်စွာဖြင့် လျှောက်လာလေသည်။

ဘီလီသည် ပါကာနှင့် နိုရာတို့ ထိုင်နေရာသို့ ချဉ်းကပ်လာလေသည်။

"ရှင်တို့ နှစ်ယောက်စလုံးကို ကျေးဇူးတင်လို့ မဆုံးပါဘူး။ ကိုင်း ရှင်တို့လည်း ယမကာတခွက်စီ ကိုင်မြှောက်ပြီး ကျွန်မနဲ့အတူ ဆုတောင်းရင်း သောက်ကြရအောင်"

"ဘာအတွက် ဆုတောင်းမှာလဲ၊ ထိပ်သီးဆွေးနွေးပွဲ အောင်မြင်တာကို အမှတ်တရ ဂုဏ်ပြုတဲ့ သဘောလား"

ပါကာက မေးလိုက်သည်။

"အဲဒါလဲ တကြောင်းပါပဲ၊ ဒါပေမဲ့ ကျွန်မက အဓိက ဆုတောင်းချင်တာက ရှင်တို့နှစ်ယောက်အတွက် ဖြစ်တယ်။ ရှင်တို့နှစ်ယောက်က မကြာခင် လက်ထပ်ကြတော့မလို့ဆို"

ဘီလီကပြောလိုက်ရာ နိုရာလည်း ပြုံး၍ ခေါင်းညိတ်ပြလိုက်လေသည်။

"ဟုတ်ပါတယ် ဘီလီ၊ ကျွန်မလည်း ပြောမလို့ပါပဲ၊ အခုလောလောဆယ်မှာ လူတိုင်း ဝမ်းသာပြီး စိတ်လှုပ်ရှားနေကြလို့ပါ"

"ဝမ်းသာပါတယ်ရှင်၊ ရှင်တို့နှစ်ယောက်ရဲ့ အိမ်ထောင်ရေးဘဝဟာ

သာယာကြည်နူးဖွယ် ဖြစ်ပါစေလို့ ဆုတောင်းပါတယ်"

ပြောရင်း ဘီလီသည် အရက်ခွက်ကို ကိုင်မြှောက်၍ မော့သောက်လိုက်ပြီးမှ ပါကာဘက်သို့ လှည့်လိုက်ပြန်သည်။

"ဒီမယ် ပါကာ၊ ရှင့်ကို ကျွန်မတခုပြောရဦးမယ်၊ နိုရာကို ချက်ချင်း ကိုယ်ဝန်ရှိအောင်တော့ မလုပ်ပါနဲ့၊ ကျွန်မက ရှေ့အဖို့ နိုရာရဲ့လုပ်အား အကူအညီ အများကြီး လိုနေတယ်ရှင့်၊ ဘာပဲဖြစ်ဖြစ် ရှင်တို့နှစ်ယောက်အတွက် ကျွန်မ အထူးဝမ်းသာပါတယ်"

ဤသို့ ရယ်သွမ်းသွေးကာ ပြောလိုက်ပြီးမှ ဘီလီသည် သမ္မတကြီးရှိရာသို့ လှည့်ထွက်သွားလေသည်။ ပါကာသည် ဘီလီအား လှမ်းငေးကြည့်နေရာမှ သူ၏စိတ်ထဲ ဖြစ်ပေါ်လာသည်တို့ကို နိုရာအား ဖွင့်ပြောလိုက်လေသည်။

"ဒီမယ် နိုရာ သေသေချာချာ စဉ်းစားကြည့်လိုက်တော့ လက်ရှိ သမ္မတကတော်ဟာ ဘီလီလား၊ ဗီရာလားဆိုတာ တို့နဲ့တကွ သမ္မတကြီးကပါ ဘယ်လိုမှ သေချာပေါက် မပြောနိုင်တော့ဘူး၊ ကမ္ဘာကလည်း မသိနိုင်ဘူး၊ ကာလီဖိုးနီးယားပြည်နယ်က ဘီလီရဲ့ ခွေးကလေးဟာလည်း မကြာခင်ကပဲ မတော်တဆ မော်တော်ကား ကြိတ်မိပြီး သေသွားပြီ။ နောက်ပြီး ဘီလီရဲ့ မီးယပ်သားဖွား အထူးကု ဆရာဝန်ကြီးကလည်း ဆေးရုံမှာ သေလုဆဲဆဲ ဖြစ်နေတယ်။ ဒီတော့ ဒီအရှုပ်အထွေး ပြဿနာရဲ့အဖြေမှန်ကို တကယ်သိသူဆိုလို့ တယောက်တည်းပဲ ရှိတယ်"

"ဘယ်သူများလဲရှင့်"

"ဘယ်သူရှိဦးမလဲ၊ လက်ရှိ သမ္မတကတော်ပဲပေါ့၊ သူသာ အမှန်ကို အသိဆုံး မဟုတ်လား"

ပါကာက ဤသို့ စကားဖြတ်လိုက်လေသတည်း။

*